

# ဗုဒ္ဓခေတ်

# တစ်မိုးအောက် တစ်ယောက်ပုဂ္ဂိုလ်ကျော်များ

[ စတုတ္ထတွဲ ]

## ဧတဒဂ်ရ ဘိက္ခုနီ အရှင်မ (၁၃)ပါး


အရှင်နေမိန္ဒာဘိဝံသ

(စုစည်းမှုဓတ်သည်)

**ထုတ်ဝေသူ**



ဒေါ်ရည်မွန်မျိုး (စာနဒီစာအုပ်တိုက်)
မြဲ - ၀၀၂၄၄
အမှတ် - ၉၇၃၊ ပျဉ်းမမြိုင်လမ်း၊
၃၄ - ရပ်ကွက်၊ မြောက်ဒဂုံမြို့နယ်၊ ရန်ကုန်။

**ပုံနှိပ်သူ**



ဒေါ်ကြည်ပြာသွယ် (ဝင်းတိုးအောင်အော့ဖ်ဆက်)
မြဲ - ၀၀၄၂၀
အမှတ် - ၁၈၁၊ ၅၀ လမ်း၊
ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်။

**မျက်နှာဖုံးဒီဇိုင်း**



ဇဂျီလင်းဝဏ္ဏ

**အတွင်းအပြင်အဆင်**



Ahlineain media
Ph - 09449004209
09798437563

**ပထမအကြိမ်၊ လ၊ ၂၀၂၁ ခုနှစ်**
**အုပ်ရေ** - ၂၀၀၀
**တန်ဖိုး** - ၃၅၀၀

## မာတိကာ



# ပါရမီဖြည့်နိုင်ကြပါစေ

ဆရာတော် အရှင်နေမိန္ဒာလင်္ကာရာဘိဝံသ (သ·စ·အ ဓမ္မာစရိယ၊ ဝိနယပါဠိပါရဂူ၊ ဒွိပိဋကဓရ) ထံမှ "ဗုဒ္ဓခေတ် တစ်မိုးအောက်တစ်ယောက် ပုဂ္ဂိုလ်ကျော်များ" (စတုတ္ထတွဲ) စာမူရောက်လာသဖြင့် ဝမ်းသာပီတိ ဖြစ်မိပြန်သည်။

ဝမ်းသာပီတိဖြင့် ဖတ်ရှုကြည့်လိုက်ပါသည်။ အမျိုးသမီး ပုဂ္ဂိုလ်ကျော်တို့၏ ပါရမီဓာတ်ခံ စိတ်ဓာတ်လုပ်ရပ်နှင့် ပုခက်လွှဲလက်တို့၏ လောကအတွက် စွမ်းဆောင်ချက်တို့ကို ဖတ်ရှုရပြီး အံ့သြဘနန်း ကြက်သီးတဖြန်းဖြန်း ထမိခဲ့ပါသည်။ ကြည်ညိုလေးစားမိပါသည်။ ဂုဏ်ယူအားတက်မိပါသည်။ သဒ္ဓါတရားများ တဖွားဖွား ပေါ်ပေါက်ခဲ့ပါသည်။ ကျေးဇူးတော်ရှင် တိပိဋကယော ဆရာတော်ဘုရား မိန့်ကြားတော်မူဖူးသည့် "ရဲရင့်စွန့်စား

မိန်းမသား’’တို့၏ စွမ်းအားကို အလွန့်အလွန် လေးစားမိပါသည်။

ကမ္ဘာလောကကြီးမှာ အမျိုးသားများသာ အရာရာ စွမ်းဆောင်နိုင်ကြသည် မဟုတ်ပါ။ အမျိုးသမီးများလည်း စွမ်းဆောင်နိုင်ကြပါသည်။ အချို့အမျိုးသမီးတို့သည် အမျိုးသားများနှင့် တန်းတူ ရည်တူ စွမ်းဆောင်နိုင်ကြသည်။ အချို့အမျိုးသမီး အာဇာနည်တို့သည် ကားအမျိုးသားများထက်ပင် စွမ်းဆောင်နိုင်ကြပါသည်။

ဘုရား၊ ပစ္စေကဗုဒ္ဓါ၊ အရိယာသူတော်ကောင်းအလောင်း တော်များသည် ပါရမီဖြည့်ဘက် အချင်းချင်း ချစ်ခင်လေးစား အရေးထားခဲ့ကြသည်။ တစ်ဦးနှင့်တစ်ဦး ကူညီပင့်ထောက် စောင့်ရှောက်ပေးခဲ့ကြသည်။ ကောင်းကျိုးအမျိုးမျိုး သယ်ပိုးပေးခဲ့ကြသည်။ ဘေးဆိုးရန်ဆိုးအမျိုးမျိုးကိုလည်း ဖျက်ချိုးကာကွယ်ပေးခဲ့ကြသည်။ ပါရမီအသီးသီး ဖြည့်ဆည်းပေးခဲ့ကြသည်။

ပါရမီဆိုသည်မှာ ‘‘ပရမာနံ ဘာဝေါ ပါရမီ’’ ဟူသော ဝိဂြိုဟ်ဝစနတ္ထ ဖွင့်ဆိုချက်အရ ‘‘မြင့်မြတ်သူတို့၏ ဖြစ်ကြောင်းကို ပါရမီ’’ဟု ဆိုပါသည်။ ‘‘ပရမာနံ ကမ္မံ ပါရမီ’’ ဟူသော ဝိဂြိုဟ်ဝစနတ္ထ ဖွင့်ဆိုချက်အရ ‘‘မြင့်မြတ်သူတို့၏ အလုပ်ကို ပါရမီ’’ဟု ဆိုပါသည်။

မြင့်မြတ်သူတို့၏ ဖြစ်ကြောင်း၊ မြင့်မြတ်သူတို့၏ အလုပ်ဖြစ်သော ပါရမီတို့မှာ အလှူပေးခြင်း ဒါနပါရမီ၊ ကိုယ်ကျင့်သီလ စောင့်ထိန်းခြင်း သီလပါရမီ၊ တောထွက်ခြင်း တစ်နည်းအားဖြင့် ကိလေသာ အနှောင်အဖွဲ့မှ ထွက်ခွါခြင်း နိက္ခမပါရမီ၊ အသိအလိမ္မာ ဉာဏ်ပညာ

တိုးပွားအောင် သင်ယူ လေ့လာဆည်းပူး အားထုတ်ခြင်း ပညာပါရမီ၊ မကောင်းမှုကို ကြိုးစားပယ်ဖျောက်ခြင်း၊ ကောင်းမှုကို ကြိုးစားအားထုတ် ပြုလုပ်ခြင်း ဝီရိယပါရမီ၊ ကောင်းဆိုးနှစ်တန် လောကဓံကို ခံနိုင်ရည်ရှိခြင်း, သည်းခံခြင်း ခန္တီပါရမီ၊ မှန်သောစကားကိုသာ ပြောဆိုခြင်း သစ္စာပါရမီ၊ အပြစ်မရှိ ကောင်းသော အလုပ်ကို ဆုံးခန်းတိုင်ရောက် ပြီးမြောက်အောင် လုပ်မည်ဟု စိတ်ဆုံးဖြတ် ဆောက်တည်မှုပြုခြင်း အဓိဋ္ဌာနပါရမီ၊ မိမိပတ်ဝန်းကျင်ရှိ သတ္တဝါတို့၏ ကောင်းကျိုးချမ်းသာကို လိုလားသောအားဖြင့် ချစ်ခင်ခြင်း မေတ္တာပါရမီ၊ မိမိအပေါ်မှာ ဖြစ်ပေါ်လာကြသည့် ကောင်းမှု, ဆိုးမှုတို့ကို လျစ်လျူရှုနိုင်ခြင်း ဥပေက္ခာပါရမီတို့ ဖြစ်ပါသည်။

ဤပါရမီ ဆယ်ပါးတို့ကို ပြုလုပ်ဖြည့်ကျင့်နေသူကိုသာ "ပါရမီဖြည့်နေသူ"ဟု ခေါ်ရပါသည်။ ပါရမီတို့ကို အတူတကွ လက်တွဲပြီး ဖြည့်ကျင့်နေသူများကိုသာ "ပါရမီဖြည့်ဘက်"ဟု ခေါ်ရပါသည်။ ကောင်းမှုကုသိုလ် သုစရိုက် ပြုဖော်ပြုဘက်များကိုလည်း ပါရမီဖြည့်ဘက်ဟု ခေါ်နိုင်ပါသည်။ မကောင်းမှု အကုသိုလ် ဒုစရိုက် ပြုဖော်ပြုဘက်များကိုတော့ ပါရမီဖြည့်ဘက်ဟု မခေါ်နိုင်ပါ။ ပါရမီဖျက်ဘက်ဟုသာ ခေါ်နိုင်ပါသည်။

ပါရမီကို တစ်ယောက်တည်း တစ်ဦးတည်း ဖြည့်ကျင့်၍ မရနိုင်ပါ။ နှစ်ယောက်, သုံးယောက်မှ စ၍ များစွာတွဲဖက်၍ ပါရမီဖြည့်ကျင့်ကြရပါသည်။ ထို့ကြောင့်လည်း သုမေဓာ ရှင်ရသေ့ သဗ္ဗညုတ ဉာဏပါရမီ ဖြည့်နိုင်ဖို့အတွက် ပါရမီဖြည့်ဘက်အဖြစ်ဖြင့် သုမိတ္တာ ပေါ်ထွက်လာခဲ့ရပါသည်။ လေးအသင်္ချေနှင့် ကမ္ဘာတစ်သိန်း ကာလကြာအောင် အတူတကွ ပါရမီဖြည့်ခဲ့ကြရပါသည်။ ဆင်းရဲဒုက္ခလည်း အတူတကွ ခံခဲ့ကြရပြီး၊ ချမ်းသာသုခလည်း အတူတကွ စံခဲ့ကြရပါသည်။

သုမေဓာသည် သုမိတ္တာကြောင့် ပါရမီပြည့်မြောက်၍ သဗ္ဗညု ဗုဒ္ဓအဖြစ်သို့ ရောက်ခဲ့ရသလို သုမိတ္တာသည်လည်း သုမေဓာကြောင့် ပါရမီပြည့်မြောက်၍ ရဟန္တာထေရီမကြီးအဖြစ်သို့ ရောက်ခဲ့ရပါသည်။ တစ်နည်းအားဖြင့် သိဒ္ဓတ္ထကုမာရသည် (ဘဒ္ဒကစ္စာနာ) ယသော်ဓရာဒေဝီကြောင့် သဗ္ဗညု ဗုဒ္ဓအဖြစ်သို့ ရောက်တော်မူခဲ့ရသလို ယသော်ဓရာ ဒေဝီသည်လည်း သိဒ္ဓတ္ထကုမာရကြောင့်ပင် (ဘဒ္ဒကစ္စာနာ) ယသော်ဓရာ ရဟန္တာထေရီ အဖြစ်သို့ ရောက်တော်မူခဲ့ရပါသည်။ ထို့ကြောင့် ဤအရာကို ပါရမီဖြည့်ဘက်ဟု ခေါ်ပါသည်။

ထို့အပြင် အရှင်သာရိပုတ္တရာ, အရှင်မဟာမောဂ္ဂလာန် အဂ္ဂ သာဝက နှစ်ပါး၊ အရှင်မဟာ ကဿပ, အရှင်အာနန္ဒာ, အရှင် ရာဟုလာ အစရှိသော ထေဒင်္ဂရမဟာသာဝကများနှင့် အရှင်မ မဟာပဇာပတိ ဂေါတမီ, အရှင်မ ခေမာ, အရှင်မဥပ္ပလဝဏ္ဏာ အစရှိသော ထေဒင်္ဂရမဟာသာဝိကာများသည်လည်း မြတ်ဗုဒ္ဓ၏ ပါရမီ ဖြည့်ဘက်များ ဖြစ်ကြပါသည်။

ထိုထေဒင်္ဂရ ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ်များ၏ ပါရမီဖြည့်ကျင့် ခဲ့ပုံ, ရဟန်းပြုခဲ့ပုံ, တရားထူး တရားမြတ်ရရှိခဲ့ပုံ အကြောင်းအရာ တို့ကို ပါဠိတော်, အဋ္ဌကထာ, ဋီကာစသည်တို့မှ ထုတ်နှုတ်၍ ဆရာတော် အရှင်နေမိန္ဒာလင်္ကာရာဘိဝံသ အရှင်မြတ်က "ဗုဒ္ဓခေတ် တစ်မိုးအောက်တစ်ယောက် ပုဂ္ဂိုလ်ကျော်များ" အမည်ဖြင့် စုစည်းပူဇော်ထားပါသည်။ ပထမတွဲ, ဒုတိယတွဲ, တတိယတွဲတို့မှာ ထေဒင်္ဂရ မဟာထေရတို့၏ အကြောင်း အတ္ထုပ္ပတ္တိတို့ကို တင်ပြပူဇော်ထား၍၊ ယခု စတုတ္ထတွဲမှာတော့ ထေဒင်္ဂရ

မဟာထေရီတို့၏ အကြောင်း အတ္ထုပ္ပတ်တို့ကို တင်ပြပူဇော်ထား ပါသည်။

ဤစာအုပ်တို့ကို ပါရမီဖြည့်လိုသူ၊ ပါရမီပြည့်လိုသူများအနေ ဖြင့် ဖတ်သင့်ဖတ်ထိုက်ကြပါသည်။ မှတ်သင့်မှတ်ထိုက်ကြပါသည်။ သင်ခန်းစာ ယူသင့်ယူထိုက်ကြပါသည်။ ဆောင်သင့် ဆောင်ထားထိုက် ကြပါသည်။

ဤနေရာ၌ ပါရမီနှင့်ပတ်သက်၍ သိပ္ပံပညာရှင်ကြီး သောမတ် အယ်ဒီဆင် ပြောခဲ့သည့် စကားကို သတိရမိပါသည်။ လူပေါင်းများစွာ တို့က အယ်ဒီဆင်ကို "ပါရမီရှင်ကြီး၊ ပါရမီရှင်ကြီး" ဟု ချီးကျူး ပြောဆိုကြသည့်အခါ အယ်ဒီဆင်က "ပါရမီဆိုတာ အတွေးက (၂) ရာခိုင်နှုန်း၊ ချွေးက (၉၈) ရာခိုင်နှုန်းပါ" ဟု ပြန်ပြောခဲ့ပါသည်။ ပါရမီဆိုသည်မှာ ကြံစည် တွေးတော စိတ်ကူးယဉ်နေရုံမျှဖြင့် မပြည့် နိုင်ပါ။ လက်တွေ့ကျကျ ဖြည့်ကျင့်မှသာ ပြည့်နိုင်ပါသည်။

စာရှုသူ မိမိတို့အနေဖြင့် ပါရမီပြည့်မြောက် နိဗ္ဗာန်ရောက်ချင် ကြလျှင် -

" ဒါန၊ သီလ၊ နိက္ခမ္မ၊ ပညာ၊ ဝီရိယ။
ခန္တီ၊ သစ္စာ၊ အဓိဋ္ဌာ၊ မေတ္တာ၊ ဥပေက္ခာ။
ပါရမီဆယ်ပါး၊ မြတ်တရား၊ ကြိုးစား ဖြည့်ကျင့်ရ"

ဆိုသည့်အတိုင်း ပါရမီ(၁၀)ပါးတို့ကို တကယ်လက်တွေ့ကျကျ ကြိုးစားဖြည့်ကျင့်ကြရပါမည်။

ပါရမီပြည့်အောင် ပါရမီဖြည့်နိုင်ကြပါစေ။

**အရှင်နိမ္မလ (နတ်မောက်ဘုန်းနွယ်)**
**(၁၅-၆-၂၀၂၁)**



# အရှင်ကောဝိဒ.အနုတ္တ
# (ကောင်းဆေကော်နိုင်)၏

## အမှာစာ

ဆရာတော် အရှင်နေမိန္ဒာဘိဝံသ ရေးသားသည့် ဗုဒ္ဓခေတ် တစ်မိုးအောက် တစ်ယောက် ပုဂ္ဂိုလ်ကျော်များ (စတုတ္ထတွဲ) စာအုပ်တွင် အမှာစာ ရေးသားခွင့်ရသည့် အတွက် ဝမ်းမြောက် ဂုဏ်ယူမိပါသည်။

အတွဲ(၁)မှအစပြု၍ စိတ်ဝင်တစား ဖတ်ရှုခဲ့ရာတွင် တစ်အုပ်နှင့်တစ်အုပ်, တစ်ပုဒ်

နှင့်တစ်ပုဒ် ရိုးအီသွားသည်ဟု မရှိဘဲ၊ စာရေးရာတွင် လက်ရည် တက်သည်ထက် တက်လာသည့်အပြင် စာရေးသူ၏ စေတနာကိုပါ ပေါ်လွင်အောင် ဖန်တီးလာနိုင်သည်ကို တွေ့မြင်ဖတ်ရှုရပါသည်။ အနုပညာ ဖန်တီးမှုများလည်း ပို၍ပို၍ ပေါ်လွင်လာပါသည်။ စာရေးသူ၏ စိတ်စေတနာရင်းနှင့် အနုပညာဖန်တီးနိုင်မှု ပေါင်းစပ်လိုက်သော အခါ ကိုယ်ပိုင်ဟန်ဟူ၍ သီးခြားဖြစ်လာပါသည်။

ကိုယ်ပိုင်ရေးဟန် တစ်ခုဆိုသည်မှာ တမင်လုပ်ယူ၍ ရလာတာမျိုးမဟုတ်ဘဲ ရင်ထဲကလာသောအတွေး၊ ရင်ထဲကလာသော စေတနာတို့က နှလုံးသားမှတဆင့် လက်ဖျားဆီသို့ စီးကျလာရင်း ကလောင်သွားကို ပူးဝင်လျက် စာလုံးများကို ဖွဲ့သီထားခြင်းမျိုး ဖြစ်သည်။

ဆရာတော်၏ ဗုဒ္ဓခေတ် တစ်မိုးအောက်တစ်ယောက် ပုဂ္ဂိုလ်ကျော်များ (အတွဲ ၁) ဖတ်ရစဉ်ကတည်းက မြန်မာ့စာပေလောကတွင် ကိုယ်ပိုင်ရေးဟန်ဖြင့် ညက်ညောဖော်ကျူးနိုင်မည့် ကလောင်တစ်ခု ထွက်ပေါ်လာပြီ ဖြစ်ကြောင်း ယုံယုံကြည်ကြည် ပြောဖြစ်ခဲ့ပါသည်။

အမှန်ဆိုလျှင် တေဒဂ်ရပုဂ္ဂိုလ်ကျော်များ အကြောင်းကို ငယ်စဉ်ကတည်းကပင် စိတ်ဝင်တစား ဖတ်ရှုခဲ့ရပြီး ဖြစ်ပါသည်။ ဆရာတော် အရှင်နေမိန္ဒာဘိဝံသ ရေးသားသည်ကို ယခုပြန်လည်ဖတ်ရှုခဲ့ရာတွင် ရိုးအီမနေဘဲ ဆွဲဆောင်အား ကောင်းနေသည်မှာလည်း ဆရာတော်၏ ကိုယ်ပိုင်ရေးဟန်နှင့် ရေးသူ၏ ရိုးသားဖြူစင်မှုတို့၏ ဟန်ချက်ညီမှုကြောင့်ပင် ဖြစ်သည်ဟု ယုံကြည်မိပါသည်။

တေဒဂ်ရ ပုဂ္ဂိုလ်တစ်ဦးချင်းစီအကြောင်းကို သီကုံးရေးဖွဲ့ရာတွင် တေဒဂ်ပုဂ္ဂိုလ်ဘဝ အကြောင်းအပြင် ဗုဒ္ဓ၏သာသနာတော် အဆုံးအမအောက်၌ ထွန်းတောက်လာမည့် ယင်းပုဂ္ဂိုလ်၏ အရည်အသွေး

တို့နှင့် ပတ်သက်၍လည်း ကနဦးမိတ်ဆက် တင်ပြရေးသားသည်ကို တွေ့မြင်ရပါသည်။ ရိုးရိုးလေးနှင့်ဆန်းအောင် ရေးတတ်ဖို့ကလည်း မလွယ်ကူသလို၊ ကျမ်းဂန်များနှင့် ချွတ်ချော်မသွားရန်မှာလည်း လွန်စွာ ခက်ခဲပါသည်။ စိတ်လည်း အင်မတန်ရှည်ပါမှ, ကျမ်းဂန်လည်း နှံ့စပ်ပါမှ ဖြစ်နိုင်ပါမည်။

တစ်ပုဒ်ချင်းစီအတွက် ကိုးကားရသောကျမ်းများမှာ ၅ ကျမ်း ၆ ကျမ်း၊ တစ်ခါတရံ ၉ ကျမ်း ၁၀ ကျမ်းထိ ကိုးကားရသည်ကို ကြည့်လျှင်သိနိုင်ပါသည်။ တစ်ချို့ စာရေးဆရာကြီးများပင်လျှင် ကျမ်းဂန်များကို ကိုးကားရင်း ရေးဟန်က စာသံပေသံတွေ ပေါက်သွားကာ လမ်းချော်သွားတတ်သော်လည်း ဆရာတော်၏ ရေးဟန်မှာ အေးဆေးတည်ငြိမ်မှုမပျက် ဖတ်ရသူအတွက် လွန်စွာဆွဲဆောင်မှုရှိသည့်အပြင် သက်သောင့်သက်သာရှိလှပါသည်။

ကောင်းပါပြီ။ အားလုံးပြည့်စုံနေသည့်တိုင်စာအုပ်တစ်အုပ် ဖတ်ရှုရာတွင် မည်သို့အကျိုးကျေးဇူးရှိသနည်းဆိုသော အမေးကလည်း ရှိတတ်ပါသည်။ အဲဒီအမေးကိုလည်း ဆရာတော်က မေ့မထားခဲ့ပါ။ သူ့စေတနာက အဲဒီနေရာမှာ အပေါ်ဆုံး ဖြစ်နေပါသည်။ စာဖတ်သူ များကို သံသရာမှ လွတ်မြောက်စေလိုသော စေတနာ, ဗုဒ္ဓသာသနာ တော်မှာ ထူးချွန်သူများ ဖြစ်စေလိုသော

စေတနာက စာအုပ်တစ်အုပ်လုံးမှာ ရောင်ပြန်ဟပ်ကာ လင်းလက်တောက်ပနေပါသည်။

မူလတန်းကျောင်းသားငယ်များမှသည် တက္ကသိုလ် ပါမောက္ခကြီးများ အဆုံး၊ ကိုရင်ငယ်များမှသည် အရိယသံဃာတော်ကြီးများ အဆုံးအထိ အားလုံးနှင့် ဖတ်ရှုရန် အဆင်ပြေနေသည့် ရှားပါး စာအုပ်မျိုး ဖြစ်နေပါသည်။ ရုတ်တရက် ကြည့်လိုက်ပါက ပေါ့ပေါ့ပါးပါး ရေးသားထားသယောင် ထင်ရသော်လည်း မည်မျှအထိ စိတ်နှစ်ပြီး အဘယ်မျှအထိ အားစိုက်ရေးသားထားခဲ့သည်ကိုမူ စာရေးသူ ဆရာတော် အရှင်နေမိန္ဒာဘိဝံသ ကိုယ်တိုင်သာ သိနိုင်ပေမည်။

ဧတဒဂ် ပုဂ္ဂိုလ်ကျော်များအကြောင်းကို ဆိုရလျှင် ဤစာအုပ်ကို ဖတ်ရှုရင်းဖြင့် တစ်ခေတ် တစ်ခါက တောက်ပခဲ့သော နေမင်းကြီးနှင့်တူသည့် ဗုဒ္ဓ၏ သာသနာရောင်ဝါမှတဆင့် လင်းလက်ခဲ့သည့် ကြယ်ပွင့်များပမာ စိတ်ဝယ်ထင်ယောင်ခဲ့ရပါသည်။ ဗုဒ္ဓက ဧတဒဂ်ဘွဲ့များ ချီးမြှင့်သည်မှာလည်း အကြောင်းမဲ့တော့မဟုတ်။ ဗုဒ္ဓဟူသည် အကြောင်းမဲ့ ပြောဆို၊ လုပ်ကိုင်ခြင်းမျိုးဟူ၍ မရှိရိုးထုံးစံ။

ဗုဒ္ဓက ယခုလို ဧတဒဂ်ဘွဲ့ထူးဂုဏ်ထူး ချီးမြှင့်နေချိန်ဝယ် ပရိသတ်အလယ်၌ အားကျသူ ဆုတောင်းဆုယူသူ၊ သန္နိဋ္ဌာန်ချခဲ့သူ ရှိမည်မှာ မုချ။ ထိုပုဂ္ဂိုလ်များသည်ပင် နောင်ပွင့်မည့် ဘုရား တစ်ဆူဆူ၏ သာသနာ၌ တောက်ပလာမည့် ဧတဒဂ်ပုဂ္ဂိုလ်လောင်းများ မဟုတ်ပါလော။

ဤစာအုပ်ကို ဖတ်ရှု၍ ရရှိလာမည့် အကျိုးကမူ ဖတ်ရှုသူ၏ အပေါ်၌လည်း တည်ပေလိမ့်မည်။ အားကျခြင်း၊ သံဝေဂရခြင်းမှသည် သံသရာမှလွတ်မြောက်ရန် လမ်းစပေါ်ခြင်း၊ နည်းနာရယူခြင်းနှင့် မဂ်ဖိုလ်ဆိုက်ရောက်ရန် အထောက်အပံ့ဖြစ်ခြင်းတို့အတွက်မူ ဖတ်ရှုသူ

ပုဂ္ဂိုလ်တို့၏ ခေတ်အခံ ပါရမီတို့အပေါ်တွင် မူတည်လိမ့်မည်ဖြစ်ပါကြောင်း။

သံသရာမှ လွတ်မြောက်ကြပါစေ။

**အရှင်ကောဝိဒ•အနုတ္တ**
**သီလဝန္တလိုဏ်ဂူ**
**အလယ်ချောင်ရွာ။**
**မွန် ၉ ရက်၊ ၂၀၂၁။**



# နိဒါန်းစကား

ဗုဒ္ဓခေတ် တစ်မိုးအောက် တစ်ယောက်ပုဂ္ဂိုလ်ကျော်များ (စတုတ္ထတွဲ)ကို ရှာင်မြို့နယ်၊ အလယ်ချောင်ကျေးရွာ၊ ဓမ္မဂဝေသီတောရမှာ ရေးသားခဲ့တာပါ။ ဒီတောရလေးက မြောက်ဘက်၊ အရှေ့ဘက်၊ တောင်ဘက်တွေမှာ မြင့်မားတဲ့ တောင်ကြီးတွေ ကာရံထားပြီး၊ ဝန်းကျင် တစ်လျှောက်မှာလည်း ကော်ဖီခြံ၊ လဘက်ခြံ၊ ပိန္နဲ ဒညင်းခြံတွေက ဝန်းရံထားတာပါ။ ဒါကြောင့် ဥတုရာသီလည်း ကောင်းမွန်ပြီး၊ ဆိတ်ငြိမ်အေးချမ်းမှုနဲ့လည်း ပြည့်စုံလှပါတယ်။

ဒေသခံ ဓနုတိုင်းရင်းသားတွေကလည်း အလွန့်ကို ရိုးသား ဖြူစင် ဖြောင့်မတ်ပြီး၊ သဒ္ဓါတရားလည်း ကောင်းမွန်ကြတယ်။ ရပ်မိ ရပ်ဖ အစဉ်အဆက်ရဲ့ အုပ်ချုပ်ရေး ကောင်းမွန်မှုကြောင့် အိမ်ခြေသုံးရာကျော် ရှိတဲ့ ရွာထဲမှာ အရက်ဆိုင်၊ အသားဆိုင်၊ လောင်းကစားဝိုင်းတွေလည်း မရှိပါဘူး။ ခေတ်သစ် ဓမ္မပါလရွာလို့တောင် ဆိုမယ်ဆို ဆိုနိုင်ပါတယ်။

ရာသီဥတုရော, ဆိတ်ငြိမ်အေးချမ်းမှုပါ ပြည့်စုံလှတဲ့ တောရမှာ ရေးရတာကြောင့် အချိန်အများကြီး မယူရဘဲ၊ နှစ်လခွဲနဲ့ပဲ ဒီစတုတ္ထတွဲကို အပြီးရေးနိုင်ခဲ့ပါတယ်။ ဒီစတုတ္ထတွဲမှာ အမျိုးသမီးတွေအတွက် အထူးအားကျကြည်ညိုစံပြုစရာ ကောင်းလှတဲ့ ဧတဒဂ်ရ ရဟန္တာ ထေရီမကြီး ၁၃-ပါး အကြောင်းကို ရေးသားပူဇော်ထားပါတယ်။ ဆက်လက်ပြီး ဧတဒဂ်ရ အမျိုးသား ၁၀-ဦးနဲ့ အမျိုးသမီး ၁၀-ဦး အကြောင်းကို ပဥ္စမတွဲ အဖြစ် ရေးသားပါ့မယ်။

ဒီစတုတ္ထတွဲကို စာအုပ်အဖြစ် ထွက်နိုင်အောင် အဓိက တာဝန်ယူ စီစဉ်ပေးတဲ့ ရန်ကုန်က ဆရာတော်လေး ဦးဝါကတော့ စာမူကြမ်း ဖတ်ပြီးတာနဲ့ ခုလို မှတ်ချက်ပြုခဲ့ပါတယ် -

“ဘုန်းကြီး… ဒီစာအုပ်ကို ဒကာမတွေ ပေးဖတ်လို့ မဖြစ်ဘူးဘုရား”

“ဟ… ဦးဝါ… ဘာဖြစ်လို့လဲ”

“အာ… ဘုန်းကြီးစာအုပ်ဖတ်ပြီးတာနဲ့ ဒကာမတွေ သီလရှင် ဝတ်ကုန်မှာ စိုးလို့ပါ ဘုရား”

ကဲ ဦးဝါကတော့ အဲဒီလိုကို မှတ်ချက်ပြုခဲ့

ပါတယ်။ ဘာပဲဖြစ်ဖြစ် ထေရီမကြီးတွေ အကြောင်း ဖတ်ရှုကြည်ညို ပြီးတဲ့အခါ ထေရီမတွေကို အားကျတဲ့စိတ်လေး ဖြစ်လာပြီဆိုရင်ကိုပဲ စာရေးရကျိုးနပ်ပါပြီလို့ ဆိုပါရစေ။ ဘာလို့လဲဆိုတော့ ဒီကြည်ညို အားကျတဲ့ စိတ်ကနေ လက်တွေ့ဘဝမှာ တရားဓမ္မတွေ ကျင့်ကြံ အားထုတ်ဖြစ်ပြီး ထေရီမကြီးတွေရတဲ့ သန္တိသုခကို ရနိုင်ကြမှာမို့ပါ။

ဒီစာတုပ္ပတ္တိတွဲ ရေးဖြစ်အောင် ဝိုင်းဝန်းကူညီစောင့်ရှောက်ပေး ခဲ့ကြတဲ့ အလယ်ချောင် ကျေးရွာမှ ဘုရားဒကာ၊ ကျောင်းဒကာကြီး ဦးဘမောင်+ဒေါ်အေးကြည် မိသားစုနဲ့ အလယ်ချောင် ကျေးရွာသူ၊ ကျေးရွာသားများ၊ ဆရာတော် ဦးကောဝိဒ·အနတ္တ (ကောင်းဆက်နိုင်)နဲ့ ဒကာကြီး ဂုဏ်ရောင် ဦးဇ တို့ကိုလည်း ကျေးဇူးအထူးတင်လှပါတယ်။ စတုတ္ထတွဲစာအုပ် ရိုက်နှိပ်နိုင်အောင် မ,တည် လှူဒါန်း ပေးကြတဲ့ ပြည်တွင်း၊ ပြည်ပမှ အလှူရှင်များရဲ့ မေတ္တာစေတနာတွေကလည်း တန်ဖိုးမဖြတ်နိုင်အောင် ကျေးဇူးကြီးမားလှပါတယ်။

အနန္တဂိုဏ်းဝင် ကျေးဇူးတော်ရှင် ဆရာမထေရ်ကြီးများရဲ့ အနန္တကျေးဇူးဂုဏ်အဖုံဖုံကိုလည်း ဒီကျမ်းစာ ရေးသားတဲ့ ကုသိုလ်နဲ့ ကျေးဇူးဆပ် ပူဇော်ပါ၏ဘုရား။

**အရှင်နေမိန္ဒာဘိဝံသ**
(၇-၇-၂၀၂၁)



ရဟန်းဝါအကြီးဆုံးအရာ အသာဆုံး

## ရတ္တညူဧတဒဂ်ရ

# မဟာပဇာပတိဂေါတမီ ထေရီ

သံသရာတစ်ခွင်၊ ကျင်လည်စဉ်တွင်၊ မင်း၏ မိဘ၊ နာမည်လှနှင့်၊ မင်းမိဖုရား၊ နာမည်များကို၊ ကြိမ်ဖန်များစွာ၊ ရနိုင်ပါလည်း၊ ‘ဗုဒ္ဓမိခင်’၊ နာမည်ရှင်ကား၊ အတိဒုလ္လဘ၊ ရခဲလှ၏။



ဒီကဗျာလင်္ကာလေးကို ကြားဖူး၊ ဖတ်ဖူးတာ ကြာခဲ့ပါပြီ။ ဘယ်စာအုပ်ထဲမှာ ဖတ်မိတယ်ဆိုတာနဲ့ ဘယ်ဆရာတော် ရေးစပ်ခဲ့တယ်ဆိုတာတော့ မမှတ်မိတော့ပါဘူး။ မိထွေးတော် ဂေါတမီထေရီမကြီးရဲ့ ဥဒါန်းဂါထာကို လိုရင်းထိမိအောင် သီကုံးထားနိုင်တာမို့ စတွေ့စဉ် ဖတ်မိလိုက်ကတည်းက ခုထိ နှလုံးထဲ စွဲထင်နေခဲ့ပါတယ်။

ဟုတ်ပါတယ်၊ သံသရာဆိုတာ ရှည်ခဲ့ပါပြီ၊ ဒီရှည်လျားတဲ့ သံသရာခရီးမှာ အမျိုးသမီးတွေအဖို့ 'မင်းရဲ့ မယ်တော်'၊ 'မင်းရဲ့ မိဖုရား' ဆိုတဲ့ နာမည်တွေကို တစ်ကြိမ်မက အကြိမ်ကြိမ်ရနိုင်ကောင်း ရနိုင်ပါလိမ့်မယ်။ ဒါပေမဲ့ 'ဗုဒ္ဓမာတာ - ဘုရားမယ်တော်' ဆိုတဲ့ နာမည်ကတော့ အမျိုးသမီးတစ်ဦးအဖို့ ပါရမီတွေ ရင့်ပါမှ တစ်ကြိမ်တစ်ခါတည်းသာ ရနိုင်တဲ့ အလွန်ရခဲတဲ့ နာမည် ဖြစ်ပါတယ်။

အခု ကြည်ညိုကြရမယ့် ထေရီမကြီးကတော့ အမျိုးသမီး တစ်ဦးအတွက် ရဖို့ရန်အခက်ဆုံး 'ဗုဒ္ဓမာတာ'ဆိုတဲ့ အမည်ထူးကို ရအောင်ယူနိုင်ခဲ့တဲ့ မိထွေးတော် မဟာပဇာပတိဂေါတမီထေရီမကြီး ဖြစ်ပါတယ်။

မိထွေးတော်ကြီးရဲ့ အကြောင်းအရာကို ဖတ်ရှုကြည်ညိုရတဲ့ အတွက် 'ဗုဒ္ဓမာတာ'ဖြစ်ဖို့ ဘယ်လို ပါရမီတွေ ဖြည့်ခဲ့ရတယ်၊ ဘိက္ခုနီသာသနာ ပေါ်ပေါက်ရေးအတွက် ဘယ်လောက် ခက်ခက်ခဲခဲ ကြိုးစားခဲ့ရတယ်။ ဓမ္မ နဲ့ အဓမ္မ၊ ဘုရားဟောတရား စစ်၊ မစစ် ဘယ်လို ခွဲရမယ်ဆိုတဲ့ တရားမှတ်ကျောက်၊ ရဟန္တာတွေရဲ့ ရုပ်ခန္ဓာ အပေါ် အမြင်ဒဿန၊ နိဗ္ဗာန်ဆိုတာ ဘယ်လိုတရားလဲ၊ တရားထူး တရားမြတ် ရဖို့ဆိုလျှင် ယောက်ျား၊ မိန်းမ တန်းတူအခွင့်အရေး ရှိသလား၊ ပရိနိဗ္ဗာန်စံပြီးတဲ့ပုဂ္ဂိုလ်တွေ ဘယ်ရောက်သွားကြတာလဲ" စတဲ့ ဓမ္မနဲ့စပ်ဆိုင်တဲ့ ဗဟုသုတတွေ၊ ဓမ္မဒဿနအမြင်သစ်တွေ ဇကန် ရရှိမယ်ဆိုတာကတော့ ကြည်ညိုပြီးတဲ့အခါ ကိုယ်တိုင်ပဲ ဆုံးဖြတ်နိုင် ပါလိမ့်မယ်။

## (က) မိထွေးတော်ရဲ့ နာမည်နဲ့ ရတ္တညျူဧတဒဂ်အဓိပ္ပာယ်

မြတ်စွာဘုရားရှင်ရဲ့ မိထွေးတော်နာမည်က 'မဟာပဇာပတိ ဂေါတမီ' ဖြစ်ပါတယ်။ ဘုန်းကံရှိတဲ့ သားသမီးတွေရဲ့ မိခင် ဖြစ်တာမို့ 'မဟာပဇာပတိ' လို့ ခေါ်တာဖြစ်ပြီး၊ မျိုးရိုးအနွယ်က ဂေါတမအမျိုး အနွယ်ဖြစ်တာမို့ 'ဂေါတမီ' လို့ မျိုးနွယ်အမည်ကိုပါ ထည့်ခေါ်ကြ တာပါ။ 'ထေရီ' ဆိုတာက 'ခိုင်မြဲတဲ့ သီလ၊ သမာဓိ၊ ပညာဂုဏ်တွေနဲ့ ပြည့်စုံသူ' လို့ အဓိပ္ပာယ်ရပါတယ်။

မဟာပဇာပတိဂေါတမီထေရီမဟာ မြတ်စွာဘုရားရှင်ရဲ့ မယ်တော် 'မဟာမာယာဒေဝီ'နဲ့ ညီအစ်မရင်း တော်စပ်ပါတယ်။ မယ်တော်ရဲ့ ညီမမို့ 'မိထွေးတော်' လို့ တလေးတစား ထည့်ပြီး

ခေါ်ဝေါ်သုံးနှုန်းတာ ဖြစ်ပါတယ်။ မြတ်စွာဘုရားရှင်ရဲ့ မယ်တော် မဟာမာယာဒေဝီဟာ ဘုရားအလောင်းမယ်တော်တွေရဲ့ ဓမ္မတာ အတိုင်း ဘုရားအလောင်းတော် ဖွားမြင်ပြီး ခုနစ်ရက်ရှိတဲ့အခါ နတ်ရွာစံ ကံတော်ကုန်ခဲ့ပါတယ်။ ဒီအခါ ညီမတော် မဟာပဇာပတိဂေါတမီက သူမရဲ့သားအရင်း နန္ဒမင်းသားလေးကို အထိန်းတော်တွေနဲ့ ထားလိုက် ပြီး ဘုရားအလောင်း သိဒ္ဓတ္ထမင်းသားလေးကိုပဲ မိခင်ရင်းပမာ နို့ချို တိုက်ကျွေး ဂရုတစိုက် စောင့်ရှောက်မွေးမြူခဲ့တာပါ။

ထေရီမရတဲ့ဧတဒဂ်က 'ရတ္တညူ' ဧတဒဂ်ပါ၊ 'ရဟန်းသိက္ခာ ဝါအကြီးဆုံး' လို့ အဓိပ္ပာယ် ရပါတယ်။ မြတ်စွာဘုရားသာသနာမှာ အမျိုးသမီးတွေထဲက ပထမဦးဆုံး ရဟန်းပြုခဲ့သူ ဖြစ်တာမို့ ဒီ ရတ္တညူ ဧတဒဂ်ကို ရခဲ့တာပါ။

## (ခ) အတိတ် ဘဝပါရမီနဲ့ ဆုတောင်း

ထေရီမအလောင်းတော်ဟာ ပဒုမုတ္တရ ဘုရားရှင် လက်ထက်တော်တုန်းက ပစ္စည်းဥစ္စာ ပြည့်စုံကြွယ်ဝတဲ့ အမျိုးမှာ သူဌေးသမီး ဖြစ်ခဲ့ပါတယ်။ တစ်နေ့မှာတော့ ဖခင်သူဌေးနဲ့အတူ အခြံအရံ ကျွန်မတွေ ခြံရံပြီး မြတ်စွာဘုရားထံ သွားရောက်ဖူးမြော်ရင်း တရားတော်နာယူခဲ့ပါတယ်။ ထေရီမအလောင်း သူဌေးသမီးဟာ အဲဒီ တရားပွဲမှာ ပဒုမုတ္တရ မြတ်စွာဘုရားရှင်က မိထွေးတော် ရဟန်းမကို 'ရတ္တညူ ဧတဒဂ်' ဘွဲ့ထူးနဲ့ ချီးမြှောက်တာ ဖူးမြင်လိုက်ရပါတယ်။ ဒီအခါ အားကျစိတ်တွေ ဖြစ်ပေါ်လာပြီး ဘုရားအမှူးရှိတဲ့ သံဃာ တော်တွေကို ပင့်ဖိတ်၊ ကောင်းမှုကုသိုလ်ပြုပြီး 'မိမိလည်း နောင်ပွင့် တော်မူမယ့် ဘုရားတစ်ဆူဆူရဲ့ မိထွေးတော် ဖြစ်ပြီး ဒီ ရတ္တညူ ဧတဒဂ်ကို ရပါစေသား' လို့ ဆုပန်ခဲ့ပါတယ်။ သူဌေးသမီးဟာ ဆုပန် ပြီးတဲ့နောက် ဘဝတစ်လျှောက်လုံး ဒါနကောင်းမှု၊ သီလကောင်းမှုစတဲ့ ကောင်းမှုကုသိုလ်တွေ အသက်ထက်ဆုံး ပြုလုပ်အားထုတ်ခဲ့ပြီး

အဲဒီဘဝကနေ ကွယ်လွန်တဲ့အခါ တာဝတိံသာနတ်ပြည်မှာ သိကြားမင်းရဲ့ နတ်မိဖုရားကြီး ဖြစ်ခဲ့ပါတယ်။

အဲဒီလိုနဲ့ ဘဝသံသရာတွေ ကျင်လည်ရင်းက တစ်ခါမှာတော့ အကုသိုလ်ကံ အကျိုးပေးခွင့် ကြုံလာတဲ့အတွက် ထေရီမအလောင်းဟာ ဗာရာဏသီအနီးက အိမ်ခြေငါးရာရှိတဲ့ ကျွန်ရွာမှာ ကျွန်အကြီးအကဲရဲ့ ဇနီးမယား ဖြစ်ခဲ့ပါတယ်။ တစ်နေ့မှာ ပစ္စေကဗုဒ္ဓါ အရှင်မြတ်ငါးရာတို့ဟာ အဲဒီရွာထဲကို ဆွမ်းခံကြွလာခဲ့ပါတယ်။ ဒီအခါ ကျွန်အကြီးအကဲရဲ့ ဇနီးဟာ ပစ္စေကဗုဒ္ဓါ အရှင်မြတ်တွေကို ဖူးမြင်လိုက်ရတာနဲ့ ကြည်ညိုသဒ္ဓါစိတ်တွေ ဖြစ်ပေါ်လာပြီး အခြားကျွန်မ ငါးရာနဲ့အတူ မိုးလေးလတိုင်တိုင် ပစ္စေကဗုဒ္ဓါ အရှင်မြတ်တွေကို ဆွမ်းလောင်းလှူခဲ့ပါတယ်။ မိုးလကုန်လို့ ပစ္စေကဗုဒ္ဓါ အရှင်မြတ်တွေ ဟိမဝန္တာရှိ နန္ဒမူလိုဏ်ဂူဆီ ပြန်ကြွတဲ့အခါမှာလည်း တိစီဝရိတ်–သင်္ကန်းသုံးထည်စီ လှူဒါန်းခဲ့ပါတယ်။ အဲဒီကုသိုလ်ကြောင့် အဲဒီဘဝကနေ ကွယ်လွန်ကြတဲ့အခါ ကျွန်မငါးရာတို့ဟာ ခင်ပွန်းသည်တွေနဲ့အတူ တာဝတိံသာနတ်ပြည် ရောက်ခဲ့ကြတယ်။

## (ဂ) ပစ္ဆိမဘဝ ဇာတ်ကြောင်းနဲ့ ရဟန်းမပြုခွင့်ရရေး ကြိုးစားပုံ

ထေရီမအလောင်းဟာ နတ်ပြည်၊ လူ့ပြည်တွေမှာ သံသရာကျင်လည်ရင်း နောက်ဆုံးဘဝမှာတော့ ဒေဝဒဟပြည် မဟာသုပ္ပဗုဒ္ဓ သာကီဝင်မင်းကြီးရဲ့ သမီးတော်အငယ် ဖြစ်လာခဲ့ပါတယ်။ နာမည်ကိုတော့ 'ဂေါတမီ'လို့ မှည့်ခေါ်ခဲ့ကြတယ်။ အစ်မတော်ကတော့ မဟာမာယာမင်းသမီး ဖြစ်ပါတယ်။ ဝေဒကျမ်းတတ် လက္ခဏာဖတ်တဲ့ ဗေဒင်ဆရာတွေက ညီအစ်မနှစ်ယောက်ရဲ့ လက္ခဏာတွေကို စစ်ကြည့်တဲ့အခါ 'ဒီညီမနှစ်ယောက်ဝမ်းမှာ ဖြစ်လာမယ့် သားတွေဟာ စကြဝတေးမင်းတွေ ဖြစ်ကြလိမ့်မယ်'လို့ ဟောကိန်းထုတ်ခဲ့ကြတယ်။

မဟာမာယာမင်းသမီးနဲ့ ဂေါတမီမင်းသမီးတို့ အရွယ်ရောက်

တဲ့အခါ သုဒ္ဓေါဒနမင်းကြီးက ညီမ နှစ်ယောက်လုံးကို လက်ထပ်ထိမ်းမြားပြီး ကပိလဝတ် ရွှေနန်းတော်ဆီ ခေါ်လာခဲ့ပါတယ်။ အစ်မတော် မဟာမာယာမင်းသမီးကို အဂ္ဂဒေဝီ မဟေသီ မိဖုရားခေါင်ကြီး အရာ ထားခဲ့ပါတယ်။

ဂေါတမီမင်းသမီးနဲ့ ပါရမီဖြည့်ဖက် အမျိုးသမီးငါးရာတို့လည်း သာကီဝင်မင်းမျိုးမှာ ဖြစ်ခဲ့ပြီး သာကီဝင်မင်းသားတွေရဲ့ အိမ်တွေမှာ အိမ်ရှင်မတွေ အသီးသီး ဖြစ်လာခဲ့ကြတယ်။

နောက်ပိုင်းကာလ တစ်ချိန်မှာတော့ မြတ်စွာဘုရားအလောင်းတော်ဟာ တုသိတာနတ်ပြည်ကနေ စုတေပြီး မဟာမာယာ မိဖုရားခေါင်ကြီးရဲ့ ဝမ်းကြာတိုက်မှာ ပဋိသန္ဓေ တည်နေခဲ့ပါတယ်။ မဟာမာယာမိဖုရားကြီးဟာ ဘုရားအလောင်းတော်ကို ဖွားမြင်ပြီးလို့ ခုနစ်ရက်မြောက်တဲ့နေ့မှာပဲ နတ်ရွာစံခဲ့ပြီး တုသိတာနတ်ပြည်မှာ သန္တုသိတနတ်သား ဖြစ်ခဲ့ပါတယ်။ အဲဒီနောက်မှာတော့ သုဒ္ဓေါဒနမင်းကြီးက မဟာမာယာမိဖုရားရဲ့ ညီမတော် မဟာပဇာပတိဂေါတမီ မိဖုရားကို အဂ္ဂဒေဝီ မိဖုရားခေါင်ကြီးအရာ ထားခဲ့တယ်။ အဲဒီအချိန်မှာ မဟာပဇာပတိဂေါတမီဟာ နန္ဒမင်းသားလေး ဖွားပြီးလို့ လေးငါးရက်ပဲ ရှိပါသေးတယ်။ ဒါပေမဲ့ မိထွေးတော် မဟာပဇာပတိဂေါတမီဟာ သားရင်း နန္ဒမင်းသားလေးကို အထိန်းတော်တွေနဲ့ အပ်ထားလိုက်ပြီး သူကိုယ်တိုင်ကတော့ ဘုရားလောင်း သိဒ္ဓတ္ထမင်းသားလေးကိုပဲ နို့ချိုတိုက်ကျွေး မွေးမြူစောင့်ရှောက်ခဲ့ပါတယ်။

ဘုရားအလောင်းတော်ဟာ အသက် ၂၉ နှစ်အရွယ်ရောက်တဲ့အခါ တောထွက်ခဲ့ပြီး ၃၅ နှစ် အရွယ်မှာ သဗ္ဗညုဘုရားအဖြစ်သို့ ရောက်တော်မူခဲ့ပါတယ်။ ဘုရားဖြစ်ပြီးနောက် လောကသားတွေကို ချီးမြှောက်တဲ့အနေနဲ့ ဒေသစာရီ ခရီးကြွချီရင်းက တစ်ခါမှာတော့ မွေးရပ်မြေ ကပိလဝတ်ပြည်ကို ပထမအကြိမ် ရောက်တော်မူပါတယ်။ နောက်တစ်နေ့မှာ ကပိလဝတ်မြို့တော်အတွင်း ဆွမ်းခံကြွတော်မူပြီး

ဆွမ်းခံရင်း လမ်းခရီးအကြားမှာပဲ ဖခမည်းတော် သုဒ္ဓေါဒနမင်းကြီး ကို တရားဟောပြတော်မူတဲ့အတွက် သုဒ္ဓေါဒနမင်းကြီး သောတာပန် အရိယာဖြစ်ခဲ့ပါတယ်။ ကပိလဝတ်ရောက်ပြီး နှစ်ရက်မြောက်နေ့မှာ ညီတော် နန္ဒမင်းသား ရဟန်းပြုခဲ့ပြီး ခုနစ်ရက်မြောက်တဲ့နေ့မှာတော့ သားတော် ရာဟုလာမင်းသား ရှင်ပြုခဲ့ပါတယ်။

မြတ်စွာဘုရားရှင်ဟာ ဘုရားဖြစ်ပြီး ငါးဝါမြောက်မှာ ဝေသာလီ ပြည် မဟာဝုန်တောမှာရှိတဲ့ ကူဋာဂါရကျောင်းတိုက်မှာ ဝါဆိုဝါကပ် တော်မူခဲ့ပါတယ်။ အဲဒီအချိန်မှာ သုဒ္ဓေါဒနမင်းကြီးဟာ ကပိလဝတ် ပြည်ရွှေနန်းတော်အတွင်း မင်္ဂလာထီးဖြူတော်အောက်မှာ အရဟတ္တဖိုလ် ရရှိပြီး လူဝတ်ကြောင်ဘဝနဲ့ပဲ ရဟန္တာဖြစ်ခဲ့တယ်၊ အဲဒီနေ့မှာပဲ ပရိနိဗ္ဗာန် ဝင်စံခဲ့ပါတယ်။ မြတ်စွာဘုရား ကိုယ်တော်တိုင် ကပိလဝတ်ကြွပြီး ခမည်းတော်မင်းကြီးရဲ့ ဈာပနကို စီမံတော်မူခဲ့ပါတယ်။ ဈာပန ပြီးတဲ့ နောက်တော့ မိထွေးတော် မဟာပဇာပတိဂေါတမီဟာ ရဟန်းဝတ်ပြီး တရားအားထုတ်ဖို့ စိတ်ပိုင်းဖြတ်လိုက်တယ်၊ မြတ်စွာဘုရားထံမှာ လည်း ရဟန်းပြုခွင့် သုံးကြိမ်သုံးခါ တောင်းပန်ခဲ့ပါတယ်။ ဒါပေမဲ့ မြတ်စွာဘုရားက သုံးကြိမ်စလုံး မိထွေးတော်ရဲ့ လျှောက်ထားချက်ကို ပယ်ချတော်မူခဲ့ပြီး ကပိလဝတ်ကနေ ဝေသာလီပြည်ကို ပြန်ကြွသွား တော်မူခဲ့ပါတယ်။

နောက်တော့ မဟာသမယသုတ်တော်မှာပါတဲ့ သာကီဝင် မင်းသား ရဟန်းငါးရာရဲ့ ဇနီးဟောင်း သာကီဝင်မင်းသမီးငါးရာက လည်း မိထွေးတော်နဲ့အတူ ရဟန်းဝတ်ပြီး တရားအားထုတ်ဖို့ သဘောတူ တိုင်ပင်ဆုံးဖြတ်ခဲ့ကြတယ်။ အဲဒီနောက် မိထွေးတော်နဲ့ သာကီဝင်မင်းသမီးငါးရာတို့ဟာ ဆံပင်တွေ ရိတ်ပယ်ပြီး ဖန်ရည်စွန်း တဲ့ အဝတ်သင်္ကန်းတွေ ကိုယ့်ဘာသာပဲ ဝတ်ဆင်မြန်းလိုက်တယ်။ နောက်ပြီး ကပိလဝတ်ကနေ မြတ်စွာဘုရားရှိရာ ဝေသာလီပြည်ကို ခြေကျင်ခရီး ထွက်ခဲ့ကြတယ်။

နုနယ်လှတဲ့ မင်းသမီးတွေ ဖြစ်တာမို့ ခြေထောက်တွေလည်း အဖုအပိမ့်တွေထ ရောင်ကိုင်းကုန်ကြတယ်၊ ခန္ဓာကိုယ်မှာလည်း ဖုန်တွေ အလိမ်းလိမ်းကပ်၊ အတော်လေးလည်း ပင်ပန်းနွမ်းနယ်ခဲ့ကြတယ်။ မြတ်စွာဘုရားရဲ့ ခွင့်ပြုချက်မရသေးဘဲ ကိုယ်ကိုယ်တိုင် သင်္ကန်းတွေ ဝတ်ဆင်မြန်းခဲ့ပြီမို့ ဘုရားရှင်က ရဟန်းပြုခွင့် မပေးခဲ့ရင်လည်း အခက်ပဲလို့ တွေးပြီး စိုးရိမ်ကြောင့်ကြစိတ်တွေ ဖြစ်နေကြတယ်။ ဒါနဲ့ ကျောင်းဝင်းထဲ မဝင်ဝံ့သေးဘဲ ကျောင်းတံခါးမုခ် အပြင်ဘက်မှာပဲ နေနေခဲ့ကြတယ်။ ဒီအခါ အရှင်အာနန္ဒာက မိထွေးတော်တို့ရဲ့ လိုအင်ဆန္ဒနဲ့ အဖြစ်သနစ်တွေကို မေးမြန်းပြီး မြတ်စွာဘုရားထံ မိထွေးတော်တို့ကိုယ်စား ရဟန်းပြုခွင့်တောင်းပေးပါတယ်။ မိထွေးတော်တို့ဟာ သင်္ကန်းဝတ်ရုံထားပေမယ့် ရဟန်း မဖြစ်ကြသေးပါဘူး။

အမျိုးသမီးတွေ သာသနာတွင်းမှာ ရဟန်းပြုခွင့်ရဖို့အတွက် မိထွေးတော်တို့ကိုယ်စား အရှင်အာနန္ဒာ တောင်းပန်လျှောက်ထားပြန်တော့လည်း မြတ်စွာဘုရားရှင်က အလွယ်တကူ ခွင့်ပြုတော်မမူခဲ့ပါဘူး။ သုံးကြိမ်လျှောက်ထားတာ သုံးကြိမ်လုံး ပယ်ချခဲ့ပြန်ပါတယ်။ မြတ်စွာဘုရားရဲ့ အလိုတော်ကတော့ လွယ်လွယ်ခွင့်ပြုလိုက်ရင် အလွယ်နဲ့ ရတဲ့ ရဟန်းဘဝကို တန်ဖိုးမထားမှာ စိုးလို့ပဲ ဖြစ်ပါတယ်။

ဒီအခါ အရှင်အာနန္ဒာက ဥပါယ်တံမျဉ်နဲ့ မြတ်စွာဘုရားကို လျှောက်ထားပြီး အမျိုးသမီးများ ရဟန်းပြုခွင့် ရဖို့အရေး အခုလို တောင်းဆိုပေးခဲ့ပါတယ်။

“မြတ်စွာဘုရား ... ရှင်တော်ဘုရားရဲ့ သာသနာမှာ အမျိုးသမီးတွေ ရဟန်းဝတ်ပြီး တရားအားထုတ်ရင် မဂ်၊ ဖိုလ်၊ နိဗ္ဗာန် ရနိုင်ပါသလား ဘုရား”

“ရနိုင်ပါတယ်”

“မြတ်စွာဘုရား... အခုလို သာသနာတွင်းမှာ အမျိုးသမီးများ ရဟန်းဝတ်ပြီး တရားအားထုတ်လို့ မဂ်၊ ဖိုလ်၊ နိဗ္ဗာန်ရနိုင်တယ်

ဆိုရင် မိထွေးတော်ကြီးဟာ ရှင်တော်ဘုရားအပေါ်မှာ ကျေးဇူးအလွန် အင်မတန် ကြီးလှပါတယ်ဘုရား၊ မယ်တော်ရင်း နတ်ရွာစံပြီးတဲ့နောက် မိထွေးတော်ကြီးဟာ ရှင်တော်ဘုရားကို အမေအရင်းလို နို့ချိုတိုက်ကျွေး မွေးမြူ ထိန်းသိမ်း စောင့်ရှောက်ခဲ့တာပါ ဘုရား၊ တပည့်တော် တောင်းပန်ပါတယ်ဘုရား၊ အမျိုးသမီးများ သာသနာတွင်းမှာ ရဟန်း ပြုနိုင်ဖို့ အခွင့်ပေးသနားတော်မူပါ ဘုရား''

''အာနန္ဒာ… ကောင်းပြီ၊ တကယ်လို့ မဟာပဇာပတိ ဂေါတမီဟာ ဂရုဓမ်တရား ရှစ်ပါးကို လက်ခံမယ်ဆိုရင် အဲဒီလို ဂရုဓမ်ရှစ်ပါးကို လက်ခံတာသည်ပင် မိထွေးတော် မဟာပဇာပတိ ဂေါတမီအတွက် ရဟန်းပြုပြီးသား ဖြစ်ပါစေ''

အဲဒီလို မြတ်စွာဘုရားက မိန့်တော်မူလိုက်တယ် ဆိုရင်ပဲ အရှင်အာနန္ဒာဟာ မြတ်စွာဘုရားထံကနေ ဖော်ပြပါ ဂရုဓမ်တရား ရှစ်ပါးကို သင်ယူခဲ့ပါတယ်။

## ဂရုဓမ်တရား ရှစ်ပါး

၁။ ရဟန်းသိက္ခာ ဝါတစ်ရာ ရထားတဲ့ ဘိက္ခုနီက အခုမှ ရဟန်းပြုသစ်စဖြစ်တဲ့ ဘိက္ခုကို ရှိခိုး ဦးချ၊ ခရီးဦးကြိုဆို၊ အရိုအသေ ပေးရခြင်း၊

၂။ ဘိက္ခုနီတွေဟာ ဘိက္ခုတွေ မရှိတဲ့ ကျောင်းတိုက်မှာ ဝါမကပ်ရခြင်း၊

၃။ ၁၅ ရက် လခွဲတစ်ကြိမ် ဘိက္ခုနီတွေဟာ ဘိက္ခုတွေထံမှ ဥပုသ်နေ့ မေးမြန်းခြင်းနဲ့ ဆုံးမဩဝါဒ ခံယူရခြင်း၊

၄။ ဝါကျွတ်တဲ့အခါ ဘိက္ခုနီတွေဟာ ဘိက္ခုသံဃာထံမှာရော ဘိက္ခုနီသံဃာအထံမှာပါ အပြစ်ရှိက ဆုံးမပါရန် ဖိတ်ကြားရခြင်း၊

၅။ ကြီးလေးတဲ့ အပြစ်အာပတ် သင့်တဲ့အခါ ဘိက္ခုသံဃာ၊ ဘိက္ခုနီသံဃာ နှစ်ဖက်လုံးထံမှာ ပက္ခမာနတ် ကျင့်ရခြင်း၊

၆။ သိက္ခာပုဒ် ခြောက်ပါး နှစ်နှစ်ကျင့်ပြီးတဲ့ သိက္ခမာန်မကို ဘိက္ခု၊ ဘိက္ခုနီ နှစ်ဖက်သံဃာ၌ ရဟန်းခံပေးရခြင်း၊

၇။ ဘိက္ခုနီဟာ ဘိက္ခုကို မည်သည့်အကြောင်းနဲ့မျှ မဆဲရေး၊ မခြိမ်းခြောက်ရခြင်း၊

၈။ ယနေ့ကစပြီး ဘိက္ခုနီတွေက ဘိက္ခုတွေအပေါ် ဆုံးမ သြဝါဒပေးတာ မလုပ်ရဘဲ၊ ဘိက္ခုတွေကသာ ဘိက္ခုနီတွေအပေါ် ဆုံးမ သြဝါဒပေးမှု ပြုနိုင်ခြင်း။

ဂရုဓမ်တရား ရှစ်ပါး သင်ယူပြီးတဲ့နောက် အရှင်အာနန္ဒာဟာ မိထွေးတော်ထံ သွားပြီး မြတ်စွာဘုရား မိန့်တော်မူချက်အားလုံးကို ပြန်လည် ပြောပြခဲ့ပါတယ်။

ဒီအခါ မိထွေးတော် မဟာပဇာပတိဂေါတမီက " အရှင်အာနန္ဒာဘုရား··· ရေမိုးချိုး သန့်စင်ပြီးတဲ့ ယောကျ်ားပျို၊ မိန်းမပျိုလေးတွေဟာ အလွန်မွှေးကြိုင်တဲ့ စံပယ်ပန်း၊ မြတ်လေးပန်းတွေ ရတဲ့အခါ လက်နှစ်ဖက်နဲ့ ကောင်းမွန်စွာ ခံယူပြီး ဦးခေါင်းထက်မှာ ပန်ဆင်ကြသလို၊ တပည့်တော်မလည်း မြတ်စွာဘုရား မိန့်ကြားတဲ့ ဂရုဓမ်တရား ရှစ်ပါးကို ရိုသေစွာ ခံယူပါတယ် ဘုရား၊ အသက်ထက်ဆုံး မလွန်ကျူးပါ ဘုရား" လို့ ဝမ်းသာအားရ ပြန်လည် လျှောက်ထားခဲ့ပါတယ်။

အခုလို ဂရုဓမ်တရား ရှစ်ပါး လက်ခံတဲ့နည်းနဲ့ပဲ မိထွေးတော် မဟာပဇာပတိဂေါတမီဟာ ဘိက္ခုနီ-အမျိုးသမီးရဟန်းအဖြစ်ကို ရခဲ့ပါတယ်။

ကျန်တဲ့ သာကီဝင်မင်းသမီး ငါးရာတို့ကိုတော့ ဘိက္ခု-အမျိုးသားရဟန်းတွေထံမှာ ရဟန်းခံပါလို့ မြတ်စွာဘုရားရှင်က မိန့်တော်မူတဲ့အတွက် ဘိက္ခု-အမျိုးသားရဟန်းတွေက ကမ္မဝါစာ ရွတ်ဖတ်ပြီး အမျိုးသမီးငါးရာကို ရဟန်းခံပေးခဲ့ပါတယ်။

## မိထွေးတော်နဲ့ သာကီဝင် ဘိက္ခုနီ ငါးရာတို့ ရဟန္တာဖြစ်

မိထွေးတော် မဟာပဇာပတိဂေါတမီထေရီမဟာ ဘိက္ခုနီ- ရဟန်းမအဖြစ်ကို ရရှိပြီးနောက် မြတ်စွာဘုရားထံ သွားရောက်ပြီး "မြတ်စွာဘုရား... ဘုရားတပည့်တော်အား တရားအကျဉ်း ဟောပြတော်မူပါ ဘုရား၊ တပည့်တော်မဟာ ရှင်တော်ဘုရား ဟောကြားတဲ့ တရားကို နာပြီး ဆိတ်ငြိမ်တဲ့ နေရာမှာ တစ်ပါးတည်း တရားအားထုတ်ပါမည် ဘုရား" လို့ တောင်းပန်လျှောက်ထားခဲ့ပါတယ်။

## သံခိတ္တဓမ္မဒေသနာ

## ဘုရားဟောတရား စစ်၊ မစစ် ခွဲခြားပုံ တရားမှတ်ကျောက်

ဒီအခါ မြတ်စွာဘုရားက "မိထွေးတော် ဂေါတမီ... တရားတစ်ခုကို နှလုံးသွင်း အားထုတ်ကြည့်လို့ ရာဂတွေ တိုးလာပြီး၊ ရာဂတွေ လျော့မသွားဘူးဆိုရင်၊ သံယောဇဉ်တွေ တိုးလာပြီး၊ သံယောဇဉ်တွေ လျော့မသွားဘူးဆိုရင်၊ ဝဋ္ဋဒုက္ခတွေ တိုးဖို့ဖြစ်လာပြီး၊ ဝဋ္ဋဒုက္ခတွေ ငြိမ်းအေးဖို့ ဖြစ်မလာဘူးဆိုရင်၊ အလိုရမ္မက်တွေ ကြီးလာ ပြီး၊ အလိုရမ္မက်တွေ နည်းမလာဘူးဆိုရင်၊ ပစ္စည်းပစ္စယ အသုံးအဆောင်တွေအပေါ် မတင်းတိမ် မရောင့်ရဲနိုင်မှုတွေ များလာပြီး၊ တင်းတိမ် ရောင့်ရဲနိုင်မှုတွေ လျော့ပါးလာမယ်ဆိုရင်၊ အပေါင်းအဖော်တွေ အပေါ် ခင်တွယ်မှုတွေ များလာပြီး၊ တစ်ကိုယ်တည်းနေရတာ မပျော်တော့ဘူးဆိုရင်၊ ပျင်းရိမှုတွေ များလာပြီး၊ ဝီရိယဓာတ်တွေ လျော့ပါးလာမယ်ဆိုရင်၊ မွေးမြူရ ခက်တဲ့ပုဂ္ဂိုလ်ဖြစ်လာပြီး၊ မွေးမြူရ လွယ်ကူတဲ့ပုဂ္ဂိုလ်မဖြစ်တော့ရင်၊ အဲဒီတရားဟာ တရားအစစ်၊ ဝိနယ အစစ်၊ ဘုရားအဆုံးအမအစစ် မဟုတ်ဘူးလို့ မှတ်ပါ။

မိထွေးတော် ဂေါတမီ... တရားတစ်ခုကို နှလုံးသွင်း အားထုတ်ကြည့်လို့ ရာဂတွေ လျော့ပါးလာမယ်၊ သံယောဇဉ်တွေ

နည်းလာမယ်၊ ဝဋ်ဒုက္ခတွေ ငြိမ်းအေးဖို့ ဖြစ်လာမယ်၊ အလိုရမ္မက်တွေ နည်းပါးလာမယ်၊ ပစ္စည်းပစ္စယ အသုံးအဆောင်တွေအပေါ် တင်းတိမ် ရောင့်ရဲလာမယ်၊ တစ်ယောက်တည်း ဆိတ်ငြိမ်တဲ့နေရာမှာ နေရတာကို ပိုပြီး နှစ်သက်လာမယ်၊ ဝီရိယဓာတ်တွေ တိုးလာမယ်၊ မွေးမြူရ လွယ်ကူတဲ့သူဖြစ်လာမယ်ဆိုရင် အဲဒီတရားမျိုးဟာ တရားအစစ်၊ ဝိနယအစစ်၊ ဘုရားအဆုံးအမအစစ် ဖြစ်တယ်လို့ ဧကန် တထစ်ချ မှတ်လိုက်ပါ''လို့ တရားအကျဉ်းချုပ်ကို ဟောပြတော်မူခဲ့ပါတယ်။

မိထွေးတော် မဟာပဇာပတိဂေါတမီထေရီမဟာ မြတ်စွာ ဘုရား ဟောကြားတဲ့ သံခိတ္တဓမ္မ ဒေသနာတော်အတိုင်း ဆိတ်ငြိမ်ရာမှာ တစ်ပါးတည်းသွားပြီး တရားရှုမှတ် နှလုံးသွင်းလိုက်တာ မကြာခင် မှာပဲ ကိလေသာ အာသဝေါကုန်ခန်း ရဟန္တာထေရီမ ဖြစ်ခဲ့ပါတယ်။

ကျန်တဲ့ သာကီဝင် ဘိက္ခုနီမ ငါးရာလည်း အရှင်နန္ဒက မထေရ်ဟောတဲ့ နန္ဒကောဝါဒသုတ္တန်ကို နာယူပြီး ကိလေသာ အာသဝေါကုန်ခန်းတဲ့ ရဟန္တာထေရီမတွေ ဖြစ်ခဲ့ကြတယ်။

## (ဃ) ရတ္တညူဧတဒဂ်နဲ့ ချီးမြှောက်ခံရ

နောက်ပိုင်းကာလ တစ်ချိန်မှာတော့ မြတ်စွာဘုရားရှင်က သာဝတ္ထိပြည် ဇေတဝန်ကျောင်းတိုက် သံဃာ့ပရိသတ်အလယ်မှာ မဟာပဇာပတိဂေါတမီထေရီမကို ရဟန်းသိက္ခာ ဝါကြီးကြတဲ့ ဘိက္ခုနီ ရဟန်းမတွေထဲမှာ အသာဆုံး အမြတ်ဆုံး ရတ္တညူဧတဒဂ်ဘွဲ့ထူးနဲ့ ချီးမြှောက်တော်မူခဲ့ပါတယ်။

## (င) မိထွေးတော် ဂေါတမီ ပရိနိဗ္ဗာန်စံခန်း

မိထွေးတော် မဟာပဇာပတိဂေါတမီထေရီမဟာ ဝေသာလီ မြို့တွင်းက ဘိက္ခုနီမကျောင်းတိုက်မှာ သီတင်းသုံးနေတော်မူခဲ့တယ်။ အရွယ်တော်လည်း တဖြည်းဖြည်းနဲ့ သက်တော် ၁၂၀ အရွယ် တိုင်လာ

ခဲ့ပြီ။ အဲဒီအချိန်မှာ မြတ်စွာဘုရားရှင်လည်း ဝေသာလီမြို့အနီးက မဟာဝုန်တောရကျောင်းမှာ တပည့်သံဃာတွေနဲ့အတူ သီတင်းသုံးနေတော်မူလျက် ရှိပါတယ်။

တစ်နေ့မှာ ထေရီမကြီးဟာ ဖလသမာပတ်ဝင်စား တရားနှလုံးသွင်းပြီးတဲ့ အချိန် မိမိရဲ့ အသက်ကို ဆင်ခြင်ကြည့်တော့ အာယုသင်္ခါရသက်တမ်းကုန် နေတာကို သိလိုက်ပါတယ်။ ဒီအခါ 'ငါဟာ မဟာဝုန်တောရမှာရှိတဲ့ မြတ်စွာဘုရားနဲ့ သံဃာတော်တွေထံ ပရိနိဗ္ဗာန်ပြုဖို့ရန် သွားရောက် လျှောက်ထားခွင့်ပန်ပြီး နေမြဲ ဒီဘိက္ခုနီမကျောင်းပြန်လာ၊ ဒီကျောင်းမှာပဲ ပရိနိဗ္ဗာန်ပြုရရင် ကောင်းမယ်' လို့ စိတ်ပိုင်းဖြတ်လိုက်တယ်။ တစ်ချိန်တည်းမှာပဲ သာကီဝင်မင်းသမီးဘိက္ခုနီမငါးရာလည်း ထေရီမကြီးလို ဆင်ခြင်ပြီး စိတ်ဆုံးဖြတ်ခဲ့ကြတယ်။

## 'နိဗ္ဗာန်' ဟူသည်

ဒီအခါ မြေငလျင် အပြင်းအထန် တုန်လှုပ်သွားတယ်၊ အချိန်မဟုတ် အခါမဟုတ် ကောင်းကင်မှာလည်း မိုးတွေ ထစ်ချုန်းတယ်။ ကျောင်းစောင့်နတ်တွေလည်း ဝမ်းနည်းပူဆွေး ငိုကြွေးကြတယ်။ ထေရီမကြီးနဲ့ ဘိက္ခုနီငါးရာတို့ဟာ ကျောင်းစောင့်နတ်တွေကို အပြစ်ရှိခဲ့ပါက သည်းခံခွင့်လွှတ်ကြဖို့ တောင်းပန်ပြီး ဘိက္ခုနီမကျောင်းတိုက်ကို နောက်ဆုံးကြည့်ရှုခဲ့ကြတယ်။ ဆက်ပြီး ထေရီမကြီးက 'ငါဟာ အိုတာ၊ နာတာ၊ သေတာတွေ မရှိတဲ့ နိဗ္ဗာန်၊ မချစ်မနှစ်သက်တဲ့ သက်ရှိ၊ သက်မဲ့တွေနဲ့ ပေါင်းဆုံရတဲ့ဆင်းရဲ၊ ချစ်မြတ်နိုးတဲ့ သက်ရှိ၊ သက်မဲ့တွေနဲ့ ကွေကွင်းရတဲ့ဆင်းရဲတွေ မရှိတဲ့ နိဗ္ဗာန်ကို သွားတော့မယ်' လို့ အဓိပ္ပာယ်ရတဲ့ ဂါထာကို ရွတ်ဆိုလိုက်ပါတယ်။ ဒီအခါ ကြားကြားသမျှ ရာဂမကင်းသေးတဲ့ လူတွေ၊ နတ်တွေအားလုံး အပြင်းအထန် ငိုကြွေးကုန်ကြတယ်။

အဲဒီနောက်တော့ ထေရီမနဲ့ ဘိက္ခုနီငါးရာတို့ဟာ မြတ်စွာဘုရားထံ သွားဖို့ ဝေသာလီမြို့လယ် လမ်းမကြီးအတိုင်း ထွက်ခဲ့ကြတယ်။ ဝေသာလီမြို့ထဲက ထေရီမကြီးကို ကြည်ညိုကြတဲ့ ဒကာမတွေလည်း ထေရီမကြီးတို့ ပရိနိဗ္ဗာန် ဝင်စံတော့မယ့်အကြောင်း သိကုန်ကြပြီး ထေရီမကြီးရဲ့ ခြေသလုံးကို ဖက်ကာ ဝမ်းနည်းပူဆွေး ငိုကြွေးကြတယ်။

## နှစ်သိမ့်တရား

ဒီအခါ ထေရီမကြီးက-

"ချစ်သမီးတို့… အခုအချိန်ဟာ ဝမ်းနည်းပူဆွေးရမယ့် အချိန်မဟုတ်ဘူး၊ ဝမ်းသာရွှင်ပြုံးရမယ့်အခါ ဖြစ်တယ်၊ ဘာလို့လဲဆိုတော့ ငါဟာ သစ္စာလေးပါးကို သိမြင်ပြီးပြီ၊ ကိလေသာတွေကိုလည်း ပယ်ပြီးပြီ၊ ငါဟာ နိဗ္ဗာန်ကို ရဖို့ ကမ္ဘာတစ်သိန်းကြာအောင် ပါရမီတွေ ဖြည့်ခဲ့ရတယ်၊ ခုတော့ အဲဒီ နိဗ္ဗာန်ကို ငါရပြီ၊ ဒါကြောင့် မငိုကြပါနဲ့၊ အခုအချိန်ဟာ ဝမ်းမြောက်ဝမ်းသာ စည်ရွှမ်းရမယ့်အခါပါ၊ ငါဟာ ဘုရားသာသနာတွင်းမှာ အမျိုးသမီးတွေ ရဟန်းဝတ်ပြီး တရားအားထုတ်ခွင့်ရဖို့၊ ဘိက္ခုနီသာသနာ ပေါ်ထွန်းဖို့အတွက် ခက်ခက်ခဲခဲ ကြိုးစားခဲ့တယ်၊ တကယ်လို့ ချစ်သမီးတို့အနေနဲ့ ငါ့ကို သနားကြင်နာကြမယ်၊ ငါ့ကျေးဇူးသိကြမယ်ဆိုရင် သင်တို့အနေနဲ့ သူတော်ကောင်းတရားတွေ တည်တံ့အောင်၊ ပြန့်ပွားအောင်၊ ထွန်းကားအောင် ကြိုးစားကြပါ"

စသဖြင့် သောကတွေ ပြေပျောက်စေဖို့ နှစ်သိမ့်စကား မိန့်ကြားခဲ့ပါတယ်။

အဲဒီနောက်မှာတော့ ထေရီမနဲ့ ဘိက္ခုနီငါးရာတို့ဟာ မြတ်စွာဘုရားထံ သွားရောက်ရှိခိုး ကန်တော့ပြီး မိထွေးတော် ထေရီမကြီးက

ပရိနိဗ္ဗာန်စံလိုကြောင်း အခုလို ခွင့်ပန်စကား စတင် လျှောက်ထား ပါတယ်။

"မြတ်စွာဘုရား… လောကအနေအားဖြင့် တပည့်တော်ဟာ အရှင်ဘုရားရဲ့ မယ်တော်ပါ ဘုရား၊ ဒါပေမဲ့ အရှင်ဘုရားက တရား အဆုံးအမတွေ မိန့်ကြားပြီး မသေရာ နိဗ္ဗာန်ချမ်းသာကို ပေးခဲ့တဲ့ အတွက် ဓမ္မအနေအားဖြင့် အရှင်ဘုရားဟာ တပည့်တော်ရဲ့ ခမည်း တော် ဖြစ်ပါတယ် ဘုရား။

မြတ်စွာဘုရား… တပည့်တော်က အရှင်ဘုရားရဲ့ ရုပ်ခန္ဓာ ကိုယ်ကို ကြီးထွားအောင် စောင့်ရှောက်ခဲ့ပါတယ် ဘုရား၊ အရှင်ဘုရား က တပည့်တော်ရဲ့ နာမ်ခန္ဓာကို ကြီးပွားအောင် စောင့်ရှောက်တော်မူခဲ့ ပါတယ် ဘုရား။

မြတ်စွာဘုရား… တပည့်တော်ဟာ အရှင်ဘုရားကို တစ် ခဏမျှ ဆာလောင်မှု ငြိမ်းစေနိုင်တဲ့ နို့ချိုကို တိုက်ကျွေးခဲ့ပါတယ် ဘုရား၊ ဒါပေမဲ့ အရှင်ဘုရားကတော့ တပည့်တော်ကို ကိလေသာ ဆာလောင်မှုတွေ အစဉ်ထာဝရ ငြိမ်းစေနိုင်တဲ့ တရားနို့ချိုကို တိုက် ကျွေးတော်မူခဲ့ပါတယ် ဘုရား။

မြတ်စွာဘုရား… အမျိုးသမီးတိုင်း အလိုရှိတဲ့ သားကောင်း သားမြတ်မျိုးကို တပည့်တော် ရခဲ့ပါတယ် ဘုရား၊ အရှင်ဘုရားက တပည့်တော်ကို ကိလေသာအနှောင်အဖွဲ့တွေကနေ လွတ်မြောက်အောင် စောင့်ရှောက်ပေးခဲ့တဲ့အတွက် အရှင်ဘုရားမှာ နို့ဖိုးအကြွေး မတင် ရှိပါဘုရား။

မြတ်စွာဘုရား… စကြဝတေးမင်းတွေရဲ့ အမေ မိခင်တွေဟာ ကံကုန်ရင် သံသရာခရီး ဆက်ကြရတဲ့အတွက် ဘဝပင်လယ်သမုဒ်မှာ နစ်မြုပ်မြဲ နစ်မြုပ်ကြရပါတယ် ဘုရား၊ ဒါပေမဲ့ အရှင်ဘုရားကတော့ တပည့်တော်ကို ဘဝပင်လယ် သမုဒ္ဒရာကနေ ထုတ်ဆောင်ကယ်မ တော်မူခဲ့ပါတယ် ဘုရား။

မြတ်စွာဘုရား··· အမျိုးသမီးတွေအတွက် သံသရာကျင်လည်တဲ့အခါ 'မင်းရဲ့ မယ်တော်'၊ 'မင်းရဲ့ မိဖုရား'ဆိုတဲ့ အမည်နာမတွေဟာ ရဖို့ လွယ်ကူပါတယ် ဘုရား၊ ဒါပေမဲ့ 'မြတ်စွာဘုရားရဲ့ မယ်တော်'ဆိုတဲ့ အမည်ကတော့ ရဖို့ အလွန်ခဲယဉ်းပါတယ် ဘုရား။

မြတ်စွာဘုရား··· အခုတော့ တပည့်တော် အလွန်တောင့်တခဲ့တဲ့၊ ရဖို့လည်း အလွန်ခဲယဉ်းတဲ့ 'ဘုရားမယ်တော်' ဆိုတဲ့ အမည်ကို အရှင်ဘုရားကြောင့် ရခဲ့ပါပြီ ဘုရား။

မြတ်စွာဘုရား··· အရှင်ဘုရားရဲ့ ခြေတော်အစုံကို ဆန့်ပေးတော်မူပါ ဘုရား။ တပည့်တော်မသည် သားတော်ဘုရားရဲ့ မြတ်သောခြေတော်အစုံကို ရှိခိုးကန်တော့ပြီး ငြိမ်းအေးရာ နိဗ္ဗာန်သို့ သွားပါတော့မယ် ဘုရား၊ ဘုရားတပည့်တော်အား ပရိနိဗ္ဗာန် ဝင်စံဖို့ရန် အခွင့် ပေးသနားတော်မူပါ ဘုရား၊ အပြစ်တစ်စုံတရာရှိခဲ့ရင်လည်း သည်းခံ ခွင့်လွှတ်တော်မူပါ ဘုရား"

## ရဟန္တာပုဂ္ဂိုလ်တွေရဲ့ ခန္ဓာကိုယ်အပေါ် ရှုမြင်ပုံ

ဒီနောက် ရဟန်းသံဃာ၊ အရှင်ရာဟုလာ၊ အရှင်အာနန္ဒာ၊ အရှင်နန္ဒမထေရ်တွေကိုလည်း ရိုသေစွာ ရှိခိုးပြီး–

"သားတော် အရှင်မြတ်တို့ ဘုရား··· ရောဂါအနာတွေဖြစ်ပွားရာဖြစ်တဲ့ ဒီခန္ဓာကိုယ်ကြီးအပေါ်မှာ တပည့်တော် ငြီးငွေ့ပါပြီ ဘုရား၊ ဒုက္ခမျိုးစုံရဲ့ ပေါင်းစုရာ၊ အိုခြင်း၊ သေခြင်းတို့ရဲ့ ကျက်စားရာ၊ အညစ်အကြေးတွေနဲ့ ရောပြွမ်းနေတဲ့ ဒီခန္ဓာကိုယ်ကြီးအပေါ် ငြီးငွေ့လှပါပြီ ဘုရား၊ ဒါ့ကြောင့် ပရိနိဗ္ဗာန်ပြုလိုပါပြီ၊ ချစ်သားတို့··· ခွင့်ပြုတော်မူကြပါ ဘုရား"လို့ ပရိနိဗ္ဗာန်ဝင်စံလိုကြောင်း ခွင့်ပန်စကားဆက်လက်လျှောက်ထားပါတယ်။

ဒီအခါ အရှင်နန္ဒမထေရ်၊ အရှင်ရာဟုလာမထေရ်တွေက ရဟန္တာတွေ ဖြစ်နေကြပြီမို့ သံဝေဂဉာဏ် နှလုံးသွင်းပြီး တည်ငြိမ်စွာနေ

နိုင်ကြပေမယ့် အရှင်အာနန္ဒာမထေရ်ကတော့ သောတာပန်သာ ဖြစ်နေသေးတာမို့ သောကမထိန်းနိုင်ရှာဘဲ သည်းစွာ ငိုကြွေးရှာပါတယ်။

ထေရီမကြီးဟာ မျက်ရည်မထိန်းနိုင်ဘဲ ငိုနေရှာတဲ့ တူတော် အရှင်အာနန္ဒာမထေရ်ကို -

“နက်နဲတဲ့ပရိယတ်၊ ပဋိပတ် အကြားအမြင် ဗဟုသုတတွေနဲ့ ပြည့်စုံပြီး၊ မြတ်စွာဘုရားအပေါ် ပြုစုလုပ်ကျွေးတဲ့နေရာမှာ နှစ်ခြိုက်တော်မူတဲ့ သားတော် အာနန္ဒာဘုရား… (သံသရာ့ ဒုက္ခ၊ ခန္ဓာ့ဒုက္ခတွေ ချုပ်ပြတ်ငြိမ်းတော့မှာ ဖြစ်တဲ့ အတွက်) ရွှင်လန်းဖွယ်အခါကို ရှေးရှုတည်နေပြီမို့ စိုးရိမ်သောကဖြစ်ရန် မသင့်ပါ ဘုရား၊ သားတော်… သားတော်ဟာ အကျွန်ုပ်ရဲ့ ကိုးကွယ်ရာပါ၊ သားတော်ကြောင့် ဒုက္ခအဆုံးဖြစ်တဲ့ နိဗ္ဗာန်ကို ရောက်ခဲ့ပါပြီ။

သားမောင်အရှင် ကူညီလျှောက်ထားပေးတဲ့အတွက် အကျွန်ုပ်တို့ကို ဘိက္ခုနီရဟန်းအဖြစ် မြတ်စွာဘုရားရှင်က ခွင့်ပြုတော်မူခဲ့တာပါ။ စိတ်မကောင်း မဖြစ်ပါနဲ့၊ အရှင်ဘုရားရဲ့ အပင်ပန်းခံ ကြိုးပမ်းအားထုတ်မှုတွေဟာ အကျိုးရှိလှပါတယ် ဘုရား။

မြတ်စွာဘုရားသာသနာတော်ကို စောင့်ရှောက်တတ်တဲ့ သားတော် အာနန္ဒာ… အရှင့်ကို အခု ဖူးမြင်ခြင်းဟာ နောက်ဆုံးဖြစ်တဲ့ ဖူးမြင်ခြင်းပါ ဘုရား၊ ပရိနိဗ္ဗာန် ဝင်စံဖို့ရန်အတွက် ခွင့်ပြုတော်မူပါ ဘုရား”လို့ မျက်ရည်သိမ်းတရား ဟောကြားလျှောက်ထားပါတယ်။

အဲဒီနောက်မှာတော့ မြတ်စွာဘုရားရှင်က “မိထွေးတော် ဂေါတမီ… ဒီသာသနာမှာ အမျိုးသမီးတွေ သစ္စာလေးပါး သိမြင်ပြီး ကျွတ်တမ်းဝင်တဲ့အပေါ် မယုံကြည်တဲ့ ဉာဏ်နည်းသူတွေ ရှိကြတယ်၊ အဲဒီသူတွေရဲ့ အယူမှားကို ပယ်ရှားဖို့အတွက် သင် တန်ခိုးအမျိုးမျိုး ပြပါဦး”လို့ တိုက်တွန်းတော်မူပါတယ်။

ဒီအခါ သက်တော် ၁၂၀ ရှိပြီ ဖြစ်တဲ့ ထေရီမကြီးဟာ မြတ်စွာဘုရားကို ရှိခိုးဦးချပြီး တန်ခိုးနဲ့ ကောင်းကင်ပျံတက်လိုက်ပြီး

တစ်ပါးတည်းက အများဖြစ်လိုက်၊ အများကြီးက တစ်ပါးတည်း ဖြစ်လိုက်၊ ပျောက်သွားလိုက်၊ ပေါ်လာလိုက်၊ နံရံတစ်ဖက်၊ တောင်တစ်ဖက်ဆီ မငြိတွယ်ဘဲ သွားပြလိုက်၊ မြေပြင်မှာလည်း ရေထဲမှာလို ငုပ်ပြလိုက်၊ ရေပြင်မှာလည်း မြေကြီးပေါ်မှာလို သွားပြလိုက်၊ ကောင်းကင်မှာ ငှက်တွေပျံသလို တင်ပလ္လင်ခွေလျက် သွားပြလိုက်၊ မြင့်မိုရ်တောင်ကြီးကို ထီးရိုးလုပ်၊ မြေကြီးကို ထီးအရွက်ပြုပြီး ထီးဆောင်းသလိုဆောင်းကာ ကောင်းကင်မှာ သွားပြလိုက် အစရှိတဲ့ တန်ခိုးအမျိုးမျိုးကို ဖန်ဆင်းပြတော်မူပါတယ်။

အဲဒီလို တန်ခိုးအမျိုးမျိုး ပြပြီးတဲ့နောက် ထေရီမကြီးဟာ ကောင်းကင်မှ သက်ဆင်းကာ မြတ်စွာဘုရားကို ရှိခိုးကန်တော့၊ သင့်လျော်တဲ့နေရာမှာ ထိုင်ပြီး "သားတော်ဘုရား… တပည့်တော်မ မိထွေးတော်ကြီးဟာ အသက် တစ်ရာ့နှစ်ဆယ် ရှိပါပြီ၊ အိုမင်းလှပါပြီ၊ ဒီလောက်ဆိုရင် သင့်တော်လောက်ပါပြီ၊ သားတော်ဘုရား… ပရိနိဗ္ဗာန် ဝင်စံပါရစေတော့ ဘုရား" လို့ လျှောက်ထားပါတယ်။

ဒီအခါ စုရုံးရောက်ရှိနေတဲ့ ပရိသတ်တွေက အလွန်အံ့သြကြပြီး "ဂေါတမီထေရီ အရှင်မကြီး ဘုရား… ဘယ်လို ကောင်းမှုကုသိုလ်တွေ ပြုခဲ့လို့ အခုလို တုနှိုင်းမမီတဲ့ တန်ခိုးတွေနဲ့ ပြည့်စုံရတာပါလဲဘုရား" လို့ မေးမြန်းလျှောက်ထားကြတယ်။ ဒါ့ကြောင့် ထေရီမကြီးဟာ ပဒုမုတ္တရဘုရားရှင် လက်ထက်တော်ကစပြီး ကျင့်သုံးခဲ့တဲ့ ကျင့်စဉ် အပဒါန်တွေကို နောက်ဆုံးဘဝအထိ ဂါထာပေါင်းများစွာနဲ့ အကျယ်ဟောပြရပြန်ပါတယ်။

ဒီနောက်တော့ သာကီဝင်မင်းသမီး ဘိက္ခုနီငါးရာလည်း မြတ်စွာဘုရားရှင်ရဲ့ တိုက်တွန်းတော်မူချက်နဲ့ မြတ်စွာဘုရားကို ရှိခိုး၊ ကောင်းကင်ပျံတက်ပြီး တန်ခိုးအမျိုးမျိုးပြ၊ ကောင်းကင်ကနေ မြတ်စွာဘုရား ခြေတော်ရင်း ပြန်လည်သက်ဆင်းပြီး ရှိခိုးကန်တော့ကြတယ်။ ဆက်လက်ပြီး မိထွေးတော် ဂေါတမီထေရီမကြီးရဲ့ ကျေးဇူး မိမိတို့

အပေါ်မှာ ကြီးမားပါကြောင်း လျှောက်ထားကြပြီး ပရိနိဗ္ဗာန် ဝင်စံခွင့် ရဖို့ ခွင့်တောင်းလျှောက်ထားကြတယ်။

ဒီအခါ မြတ်စွာဘုရားက "ဘိက္ခုနီမတို့… သင်တို့ရဲ့ ပရိနိဗ္ဗာန် ဝင်စံရမယ့်အချိန်ကို သင်တို့ ကိုယ်တိုင်ပဲ သိကြပါပေတယ်"လို့ မိန့်တော်မူလိုက်ပါတယ်။ ထေရီမကြီး အမှူးပြုတဲ့ ဘိက္ခုနီတွေဟာ မြတ်စွာဘုရားကို ရှိခိုးကန်တော့ပြီး ပြန်ခဲ့ကြတယ်။ မြတ်စွာဘုရားဟာ ပရိသတ်တွေ ခြံရံပြီး မိထွေးတော်ကြီးကို ကျောင်းတိုက် တံခါးမုခ် အထိ လိုက်ပို့တော်မူပါတယ်။

## ပရိနိဗ္ဗာန်စံတော်မူကြပုံ

တံခါးမုခ်ရောက်တဲ့အခါ မိထွေးတော်ကြီးက ဘိက္ခုနီမငါးရာ နဲ့အတူ မြတ်စွာဘုရား ခြေတော်ရင်း ဝပ်စင်းပြီး နောက်ဆုံး ကန်တော့ ခြင်းအနေနဲ့ ရှိခိုးကန်တော့ပါတယ်။ အဲဒီနောက် ဝေသာလီမြို့အတွင်း မှာရှိတဲ့ ဘိက္ခုနီမကျောင်းတိုက်ကို ပြန်လာကြပြီး နေမြဲ ကမ္မဋ္ဌာန်း ကျောင်းတွေပေါ်မှာ တင်ပလ္လင်ခွေ ကိုယ်စီ ထိုင်လိုက်ကြတယ်။

ဒီအခါ သာသနာတော်ကို ကြည်ညိုကြတဲ့ ဒကာမတွေက ထေရီမကြီးတို့ ပရိနိဗ္ဗာန်စံမယ့် အကြောင်း သိကြတာနဲ့ ဘိက္ခုနီမ ကျောင်း ရောက်လာ၊ ထေရီမကြီးတို့ကို ရှိခိုးကန်တော့၊ လက်နဲ့ ရင်ဘတ်ကို ထုထုပြီး သနားစဖွယ် ငိုကြွေးခဲ့ကြတယ်။ တချို့လည်း အရုပ်ကြိုးပြတ်ပမာ မြေကြီးပေါ် လဲကျကုန်ကြတယ်။

မိထွေးတော် ထေရီမကြီးဟာ အကြီးဆုံး ပဓာနဖြစ်တဲ့ ဒကာမရဲ့ဦးခေါင်းကို ညင်သာယုယစွာ ကိုင်ပြီး "သမီးတို့… ပင်ပင် ပန်းပန်း ငိုယိုနေလို့ မသင့်ပါဘူး၊ အကြောင်းတရားတွေ အများကြီး ပေါင်းစပ်ပြုပြင်လို့ ဖြစ်လာရတဲ့ ရုပ်နာမ်ဓမ္မ သင်္ခါရတရားတွေဆိုတာ အမြဲမရှိပါဘူး၊ နောက်ဆုံး ကွေကွင်းခွဲခွာရခြင်းမှာပဲ အဆုံးသတ်ကြရ တာပါ၊ တလှပ်လှပ်နဲ့ တုန်လှုပ် ဖောက်ပြန်တတ်တဲ့ တရားတွေပါ"လို့

သောကဖြေဆည်ဖို့ ဟောပြောဆုံးမပါတယ်။ ပြီးတာနဲ့ ဒကာမတွေကို အိမ်ပြန်လွှတ်လိုက်ပါတယ်။

ဒီနောက်မှာတော့ ထေရီမကြီးဟာ ဈာန်သမာပတ်ရှစ်ပါးကို အစကနေ အဆုံး၊ အဆုံးကနေ အစအထိ အနုလုံ၊ ပဋိလုံ ဝင်စား လိုက်တယ်။ တစ်ခါ ပထမဈာန်ကနေ စတုတ္ထဈာန်အထိ အစဉ်အတိုင်း ဝင်စား၊ စတုတ္ထဈာန်ကနေ ထပြီးတဲ့အခါမှာတော့ ဆီနဲ့ မီးစာကုန်လို့ ဆီမီးတောက် ငြိမ်းသွားသလို ခန္ဓာဇာတ်သိမ်း ချုပ်ပြတ်ငြိမ်းပြီး ပရိနိဗ္ဗာန် ဝင်စံတော်မူခဲ့ပါတယ်။ ကျန်တဲ့ သာကီဝင် ဘိက္ခုနီမငါးရာ လည်း ထေရီမကြီးနည်းတူ ဈာန်သမာပတ်တွေ ဝင်စားပြီး လောင်စာ မရှိတဲ့ ဆီမီးလျှံပမာ ချုပ်ငြိမ်းကာ ပရိနိဗ္ဗာန်ဝင်စံတော်မူခဲ့ကြတယ်။

ဒီအခါမှာ မြေငလျင် အပြင်းအထန် တုန်လှုပ်၊ လျှပ်စီးတွေ လက်၊ မိုးတွေလည်း ခြိမ်း၊ နတ်တွေလည်း ငိုကြွေးယိုကြ၊ ပန်းမိုးတွေ လည်း ရွာ စတဲ့ ထူးဆန်းအံ့သြဖွယ်တွေ ဖြစ်ခဲ့ပါတယ်။ နတ်တွေ၊ ဗြဟ္မာတွေလည်း သံဝေဂဂါထာတွေ ရွတ်ဆိုပြီး သံဝေဂဉာဏ်တွေ ပွားခဲ့ကြတယ်။ နောက်ပြီး နတ်၊ ဗြဟ္မာတွေဟာ မြတ်စွာဘုရားထံ သွားရောက်ပြီး မိထွေးတော်တို့ ပရိနိဗ္ဗာန်ဝင်စံပြီးတဲ့ အကြောင်း လျှောက်ထားကြတယ်။

## မိထွေးတော်ကြီးရဲ့ အန္တိမ အဂ္ဂိဈာပန

မြတ်စွာဘုရားရှင်လည်း အရှင်အာနန္ဒာကို သံဃာစုခိုင်း၊ အဲဒီ သံဃာတွေနဲ့အတူ ဘိက္ခုနီမကျောင်းတိုက်ကို ကြွပြီး မိထွေးတော်ကြီး ရဲ့ ဈာပနအခမ်းအနားကို ကိုယ်တိုင် စီမံတော်မူပါတယ်။ ရှေ့ဆုံးက လူတွေ၊ နတ်၊ နဂါး၊ အသုရာ၊ ဗြဟ္မာတွေ၊ အဲဒီနောက်မှာတော့ ဘိက္ခုနီငါးရာရဲ့ ရုပ်ကလာပ်တွေ တင်ထားတဲ့ ဝိသုကြုံနတ်သား ဖန်ဆင်းတဲ့ ရွှေသားအလောင်းစင် ပြာသာဒ်ငါးရာကို နတ်တွေက ထမ်းကာ လိုက်ကြပြီး၊ မိထွေးတော် ဂေါတမီ ထေရီမကြီးရဲ့

ရုပ်ကလာပ်တင်ထားတဲ့ ရွှေသားအလောင်းစင် ပြာသာဒ်ကို လောကပါလ နတ်မင်းကြီးလေးပါးက ထမ်းပြီးလိုက်ကြတယ်။ ဒီနောက်မှာတော့ သံဃာတော်တွေနဲ့ ဘုရားရှင် လိုက်ပါတော်မူပြီး သုသာန်အထိလိုက်ပါ ပို့ဆောင်တော်မူကြပါတယ်။

ဘိက္ခုနီမကျောင်းကနေ သုသာန်အထိ လမ်းတစ်လျှောက်လုံးကို ပိတ်ဖြူမျက်နှာကြက်တွေမိုး၊ လမ်းဘေးဝဲယာ ကြက်လျှာ အလံတံခွန်တွေ စိုက်ထောင်၊ မြေပြင်မှာ ပန်းမွှေ့ရာတွေ ကြဲဖြန့်ထား၊ ပန်းနံ့သာအမျိုးမျိုး ချိတ်ဆွဲ၊ တူရိယာအမျိုးမျိုးနဲ့ သီဆိုတီးမှုတ်ပူဇော်စတဲ့ ပူဇော်ဖွယ် အမျိုးမျိုးနဲ့ ပူဇော်ကြတယ်။

အဲဒီလို ရုပ်ကလာပ် ပို့ဆောင်နေတဲ့အချိန် လရော နေကိုပါလူတွေ မြင်တွေ့ကြရတယ်။ နက္ခတ် ကြယ်တာရာတွေလည်း လင်းလက်တောက်ပနေကြတယ်၊ မွန်းတည့်ချိန်ဖြစ်ပေမယ့် နေဟာလလို အေးမြနေတယ်။

(မိထွေးတော်ရဲ့ အဂ္ဂိဈာပနအခမ်းအနားလောက် မြတ်စွာဘုရားရှင်ရဲ့ အဂ္ဂိပူဇာအခမ်းအနားဟာ အံ့သြဖွယ် မဖြစ်ခဲ့ပါဘူး။ အကြောင်းကတော့ မြတ်စွာဘုရား ပရိနိဗ္ဗာန်စံတော်မူတဲ့အခါ ဘုရားရှင်ကိုယ်တော်တိုင်လည်း မကြပ်မတ် မစီမံနိုင်၊ အရှင်သာရိပုတ္တရာ၊ အရှင်မဟာမောဂ္ဂလာန်တို့ကလည်း မရှိကြတော့ပြီမို့ ထိုအရှင်မြတ်တွေလည်း မကြပ်မတ် မစီမံနိုင်။ မိထွေးတော်ဂေါတမီ ပရိနိဗ္ဗာန်စံတဲ့ အချိန်မှာတော့ ဘုရားရှင်ရော အရှင်သာရိပုတ္တရာတို့ပါ ကြပ်မတ် စီမံပေးနိုင်တဲ့အတွက်ကြောင့်ပါ။)

သုသာန်ရောက်တဲ့အခါ နတ်တွေ၊ လူတွေက ထေရီမတွေရဲ့ ရုပ်ကလာပ်တွေကို နံ့သာထင်းပုံတွေပေါ်မှာ တင်ပြီး မီးသင်္ဂြိုဟ်ကြပါတယ်။ ဒီအခါ အရှင်အာနန္ဒာမထေရ်က "မိထွေးတော် ဂေါတမီဟာ နိဗ္ဗာန် ဝင်စံသွားခဲ့ပြီ၊ မိထွေးတော်ရဲ့ ဥတုဇရုပ်ကလာပ်ကိုလည်း

မီးတွေ လောင်ကျွမ်းခဲ့ပြီ၊ သြော်··· မကြာခင် မြတ်စွာဘုရားလည်း ပရိနိဗ္ဗာန်ပြုတော့မှာပါလား”လို့ သံဝေဂစကား ညည်းတွားပြောဆိုခဲ့ပါတယ်။

ဒီနောက်မှာတော့ အရှင်အာနန္ဒာဟာ မိထွေးတော်ရဲ့ အရိုးဓာတ်တော်တွေ ကောက်၊ မိထွေးတော်ရဲ့ သပိတ်ထဲမှာ ထည့်ပြီး မြတ်စွာဘုရားထံ ကပ်လိုက်ပါတယ်။ ဒီအခါ မြတ်စွာဘုရားက အရိုးဓာတ်တွေကို လက်တော်နဲ့ ကိုင်ပြပြီး လူ နတ် ဗြဟ္မာ ပရိသတ်တွေကို–

“မြဲမြံခိုင်ခံ့ပြီး အနှစ်ရှိတဲ့ သစ်ပင်ကြီးတစ်ပင်ကနေ အလွန်စည်ပင်ဝေဆာနေတဲ့ သစ်ကိုင်းကြီးဟာ မမြဲတဲ့သဘာဝအတိုင်း ပဲ့ကျပျက်စီးသလို ဘိက္ခုနီသံဃာဆိုတဲ့ သစ်ပင်ကြီးကနေ မိထွေးတော်ဂေါတမီခေါ်တဲ့ ပင်စည်ကိုင်းကြီးဟာ ပဲ့ထွက်ပြီး ပရိနိဗ္ဗာန်ပြုခဲ့ပြီ။

ငါ့ရဲ့မယ်တော်ဟာ ပရိနိဗ္ဗာန်ပြုပြီး သရီရဓာတ်မျှသာ ကြွင်းကျန်ခဲ့ပေမယ့် ငါ့မှာ စိုးရိမ်တာတွေ၊ ပူဆွေးတာတွေ မရှိခဲ့၊ သြော်··· အံ့သြဖွယ်ရှိပေစွ။

ကျန်တဲ့သူတွေလည်း မိထွေးတော်အတွက် မစိုးရိမ် မပူဆွေးကြနဲ့၊ မိထွေးတော်ဟာ သံသရာသမုဒ္ဒရာကို ကူးမြောက်ပြီးသွားပြီ၊ ပူလောင်ခြင်း ကင်းသွားပြီ၊ အေးမြပြီးတော့ အလွန် ငြိမ်းအေးသွားပြီ။

မိထွေးတော်ဟာ ပညာဉာဏ်ကြီးသူဖြစ်ပြီး ဝိဇ္ဇာ သုံးပါး၊ အဘိညာဉ် ခြောက်ပါး၊ ပဋိသမ္ဘိဒါ လေးပါးကို ရပြီးတာမို့ သူ့အတွက် စိုးရိမ်ကြောင့်ကြစရာ မရှိပါ။

မီးခတ်နဲ့ခတ်လို့ ဖြစ်ပေါ်လာတဲ့ မီးတောက် ဖြစ်ပေါ်လာပြီး ပြန်ငြိမ်းသွားတဲ့အခါ အဲဒီ မီးတောက်ရဲ့ လားရာကို မသိနိုင်သလို ကိလေသာအနှောင်အဖွဲ့တွေ လွန်မြောက်ပြီး နိဗ္ဗာန် ချမ်းသာ ရတဲ့ ပုဂ္ဂိုလ်အတွက်လည်း လားရာဂတိဆိုတာ မရှိတော့ပါ။

ဒါ့ကြောင့် သင်တို့အားလုံးဟာ ကိုယ့်ကိုယ်ကိုယ်သာ အားကိုးကြပါ၊ သတိပဋ္ဌာန်တရားတွေ နှလုံးသွင်း၊ ဗောဇ္ဈင်ခုနစ်ပါးကို ပွားများကြပြီး ကိုယ့်ဒုက္ခရဲ့ အဆုံးကို ကိုယ်တိုင်ပဲ အားထုတ်ကြပါ"

စသဖြင့် တရားဒေသနာများ ဟောကြားတော်မူပြီး မိထွေးတော် ဂေါတမီရဲ့ ဈာပနပွဲကို အဆုံးသတ်တော်မူခဲ့ပါတယ်။

**"ပကတိအမေ့နို့ရည်က တဒင်္ဂ တစ်ခဏလောက်ပဲ ဆာလောင်မှုကို ငြိမ်းစေနိုင်ပါတယ်၊ ရှင်တော်ဘုရားရဲ့ ဓမ္မနို့ရည်ကတော့ ကိလေသာအပူ ဆာလောင်မှုတွေကို ထာဝရ ငြိမ်းစေနိုင်ပါတယ်ဘုရား"**

မိထွေးတော်ရဲ့ ဒီလျှောက်ထားချက်ကတော့ မိမိတို့တစ်တွေအတွက် ဘဝတစ်သက်တာ ဘယ်တော့မှ မမေ့ရမယ့် ဘဝလမ်းညွှန်ချက် ဓမ္မဒဿနပဲ ဖြစ်ပါတယ်။ ကိလေသာ ဆာလောင်မှုတွေ ထာဝရငြိမ်းစေလိုတယ် ဆိုရင်တော့ ဓမ္မနို့ရည်ကို ခံယူကျင့်သုံးရုံမှတစ်ပါး အခြား မရှိလို့ပဲ ဆိုရမှာပါ။

ဒါကြောင့်လည်း မြတ်စွာဘုရားက မိထွေးတော်ရဲ့ ဈာပနပွဲကို 'ကိုယ့်ဒုက္ခတွေ အဆုံးသတ်ဖို့ ဆိုရင် ကိုယ်ကိုယ်တိုင်ပဲ သတိပဋ္ဌာန်တရားနှလုံးသွင်းပြီး ဗောဇ္ဈင်ခုနစ်ပါး ပွားစေတဲ့နည်းနဲ့ ဓမ္မနို့ရည်သောက်သုံးကြ'လို့ တိုက်တွန်းဟောကြားပြီး အဆုံးသတ်ခဲ့တာဖြစ်မှာပါလို့ပဲ ကောက်ချက်ချလိုက်ပါတယ်။

မိထွေးတော်လို ဓမ္မနို့ရည် သောက်သုံးပြီး ကိလေသာဆာလောင်မှုတွေ ထာဝရ ငြိမ်းနိုင်ကြပါစေ။

**ကျမ်းကိုး –**

၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ပတွဲ၊ ၂၆၁။
၂။ မဟာဗုဒ္ဓဝင်၊ ဆဋ္ဌတွဲ၊ ဒုတိယပိုင်း၊ ၁။
၃။ အပဒါန်ပါဠိတော်၊ ဒုတိယတွဲ၊ ၂၀၆။

၄။ အပဒါန်ပါဠိတော် မြန်မာပြန်၊ ဒုတိယတွဲ၊ ၁၉၇။
၅။ ဝိနည်း စူဠဝါပါဠိတော်၊ ၄၄၂။
၆။ အင်္ဂုတ္တိုရ်ပါဠိတော်၊ တတိယတွဲ၊ ၁၀၆။



ပညာအရာ အသာဆုံး
မဟာပညာဧတဒဂ်ရ

# ခေမာ ထေရီ

လူတစ်ဦးတစ်ယောက်ရဲ့ အဆင့်အတန်းကို သူ့ရဲ့ မျိုးရိုးနဲ့ မြှင့်တင်လို့ မရသလို ဓနပိုင်ဆိုင်မှုတွေ၊ ရာထူးအာဏာတွေနဲ့လည်း မြှင့်တင်

လို့ မရနိုင်ပါဘူး။ ဖြူစင်မြင့်မြတ်တဲ့ ကိုယ်ကျင့်တရားနဲ့ အသိ ပညာတွေကသာ လူ့အဆင့်အတန်းကို မြင့်တက်လာအောင် မြှင့်တင်ပေးနိုင်တာပါ။

မြတ်စွာဘုရားရှင်ဟာ တစ်လောကလုံးမှာရှိတဲ့လူတွေ၊ နတ်တွေ၊ ဗြဟ္မာတွေရဲ့ ပူဇော်မှု၊ ရိုသေ လေးစားမှုကို ခံရတဲ့ အမြတ်ဆုံးပုဂ္ဂိုလ်ထူး ဖြစ်ပါတယ်။ ဒီလို တစ်လောကလုံးရဲ့ အမြတ်ဆုံးပုဂ္ဂိုလ်ဖြစ်ရတာဟာ ဘယ်သူမှ တုယှဉ်နိုင်းလည်း မမီနိုင်တဲ့ အမြင့်ဆုံးသီလ၊ အမြင့်ဆုံး ပညာတွေကြောင့်ပဲ ဖြစ်ပါတယ်။ အထူးသဖြင့် သဗ္ဗညုတဉာဏ်ပညာကို ရခဲ့တဲ့ အတွက်ကြောင့်လို့လည်း ဆိုနိုင်ပါတယ်။ ဒီသဗ္ဗညုတဉာဏ်တော်ကပဲ မြတ်စွာဘုရားကို တစ်လောကလုံးထက် မြင့်မြတ်တဲ့ပုဂ္ဂိုလ်အဖြစ် ရောက်စေခဲ့တာပါ။

ဒါကြောင့် အဆင့်မြင့်လူသားတစ်ဦးဖြစ်ဖို့ဆိုရင် ကိုယ်ကျင့်တရားနဲ့ အသိပညာတွေကို ဖြူစင်သထက် ဖြူစင်အောင်၊ မြင့်မားသထက် မြင့်မားအောင် ကြိုးစားကြရမှာ ဖြစ်ပါတယ်။

ခေမာထေရီဟာ ဘဝသံသရာ အဆက်ဆက်မှာ ပညာအရာ မြင့်မားအောင် ကြိုးစားပြီး ပါရမီ ဖြည့်ခဲ့ပါတယ်။ ပညာပါရမီ ဖြည့်တယ်ဆိုတာက ခက်ခဲနက်နဲတဲ့ အကြောင်းအရာတွေ၊ တရားဓမ္မတွေကို တတ်သိနားလည်အောင် ကြိုးစားသင်ယူတာ၊ နှလုံးသွင်းဆင်ခြင်တာ၊ သိထားတဲ့အတိုင်း ပြုမူနေထိုင် ကျင့်ကြံအားထုတ်တာ ဖြစ်ပါတယ်။ အသိပညာတွေ မြင့်မားလာတာနဲ့အမျှ ကိုယ်ကျင့်တရားကလည်း စင်ကြယ်သထက် စင်ကြယ်လာတော့တာပါ။

ဒီလို အသိနဲ့အကျင့် မြင့်တဲ့အတွက်ကြောင့် ခေမာထေရီဟာ ဖြစ်လေရာဘဝတိုင်းမှာ နတ်မိဖုရားခေါင်ကြီး အကြိမ်ကြိမ်၊ စကြာမင်း၊ ဧကရာဇ်မင်းတွေရဲ့ မိဖုရားခေါင်ကြီး အကြိမ်ကြိမ် ဖြစ်ခဲ့ရတယ်။ သူများထက် သာလွန်တဲ့ စည်းစိမ် အရှိန်အဝါတွေ၊ ဘုန်းတန်ခိုးတွေ ရခဲ့ရုံမက သူနဲ့ကံဆုံခဲ့တဲ့ အိမ်ထောင်ရှင်တိုင်းရဲ့ မထီလေးစား ပြောဆို

ပြုမူ ဆက်ဆံတာတွေ မခံရဘဲ တလေးတစား မြတ်မြတ်နိုးနိုး ပြောဆို ပြုမူ ဆက်ဆံတာကိုပဲ ရခဲ့ပါတယ်။

ဒါ့အပြင် ဝိပဿနာတရားတွေ အားထုတ်ခဲ့တဲ့အတွက်ကြောင့် ဘဝတိုင်းမှာ နှစ်သက်မြတ်နိုးစရာ အကောင်းဆုံးဆိုတဲ့ ပစ္စည်းတွေ သုံးဆောင်ရတဲ့ အကျိုးတရားကိုလည်း ရခဲ့တယ်။

ခေမာထေရီဟာ သီလနဲ့ ပညာတွေကို ဦးစားပေး ဖြည့်ခဲ့တဲ့ အတွက်ကြောင့် ထူးခြားတဲ့ လောကီအကျိုးတွေ မတောင့်တဘဲ ရခဲ့တဲ့ အပြင် ပညာအရာ အသာဆုံး ဧတဒဂ်ရပြီး ကျွတ်တမ်းဝင်ရခြင်းဆိုတဲ့ လောကုတ္တရာ အကျိုးတရားကိုပါ ရခဲ့ပါတယ်။ အခုလို အားကျစရာ၊ ကြည်ညိုစရာ အကြောင်းအရာတွေကို ခေမာထေရီရဲ့ ဘဝဖြစ်ရပ် အတ္ထုပ္ပတ္တိမှာ တွေ့နိုင်ပါလိမ့်မယ်။

## (က) ခေမာထေရီ ရတဲ့ ဧတဒဂ်အဓိပ္ပာယ်

အခု ကြည်ညိုကြရမယ့် ခေမာထေရီ ရတဲ့ ဧတဒဂ်ကတော့ ‘မဟာပညာဧတဒဂ်’ ဖြစ်ပါတယ်။ ပညာဉာဏ်ကြီးတဲ့ ဘိက္ခုနီ ရဟန်းမတွေထဲမှာ ခေမာထေရီဟာ အသာဆုံး အမြတ်ဆုံးလို့ အဓိပ္ပာယ် ရပါတယ်။

ဒီ ပညာအရာအသာဆုံးဆိုတဲ့ ဧတဒဂ်ကို အမျိုးသားရဟန်း တွေထဲမှာ အရှင်သာရိပုတ္တရာမထေရ်မြတ်ကြီး ရခဲ့ပြီး အမျိုးသမီး ရဟန်းမတွေထဲမှာတော့ ခေမာထေရီက ရခဲ့တာပါ။

## (ခ) ရှေးပါရမီနဲ့ဆုတောင်း

## ပဒုမုတ္တရမြတ်စွာဘုရားလက်ထက် ပါရမီဖြည့် ဆုတောင်းပုံ

ဂေါတမဘုရားပွင့်တော်မူတဲ့ ဒီဘဒ္ဒကမ္ဘာကနေ နောက်ပြန် ရေတွက်လိုက်ရင် လွန်ခဲ့တဲ့ ကမ္ဘာတစ်သိန်းထက်ဆီမှာ ပဒုမုတ္တရ

ဘုရားရှင် ပွင့်တော်မူခဲ့ပါတယ်။ ခေမာထေရီမ အလောင်းတော်ဟာ ပဒုမုတ္တရဘုရားရှင်လက်ထက်တော်မှာ ဟံသာဝတီမင်းနေပြည်က ပြည့်စုံကြွယ်ဝချမ်းသာတဲ့ သူဌေးမျိုးမှာ ဖြစ်ခဲ့တယ်။ အလောင်းတော် သူဌေးသမီး အရွယ်ရောက်တဲ့အခါ မြတ်စွာဘုရားကျောင်းတော်ကို သွားရောက်ပြီး တရားနာခဲ့ပါတယ်။ ဒီအခါ ကြည်ညိုသဒ္ဓါစိတ်တွေ ဖြစ်လာပြီး မြတ်စွာဘုရားကို ကိုးကွယ်အားထားရာပုဂ္ဂိုလ်အနေနဲ့ ကြည်ညိုခဲ့တယ်။

တစ်ချိန်မှာတော့ သူဌေးသမီးဟာ မိဘနှစ်ပါးကို ခွင့်တောင်းပြီး မြတ်စွာဘုရားနဲ့တကွ သံဃာတော်တွေကို ပင့်ဖိတ်၊ ခုနစ်ရက်တိတိ ဆွမ်းဆက်ကပ်လှူဒါန်းခဲ့ပါတယ်။ ခုနစ်ရက်ပြည့်တဲ့နေ့မှာ မြတ်စွာဘုရားက သုဇာတာလို့ခေါ်တဲ့ ထေရီမကို ပညာအရာ အသာဆုံး ဧတဒဂ်နဲ့ ချီးမြှောက်တော်မူခဲ့ပါတယ်။ ဒီအကြောင်းအရာကို သူဌေးသမီး ကြားလိုက်ရတဲ့အခါ ဝမ်းမြောက်ဝမ်းသာဖြစ်ပြီး ဘုရားအမှူးပြုတဲ့ သံဃာတော်တွေကို ထပ်မံပင့်ဖိတ် ကုသိုလ်ကောင်းမှု ပြုလုပ်ခဲ့ပြန်ပါတယ်။ ကုသိုလ်ပြုပြီးတဲ့အခါ အဲဒီထေရီမ ရတဲ့ ဧတဒဂ်မျိုး ရလိုကြောင်းကိုပါ ဆုပန် ဆုတောင်းခဲ့ပါတယ်။

ခေမာထေရီလောင်း သူဌေးသမီးဟာ အသက်ထက်ဆုံး ကောင်းမှုကုသိုလ်တွေ ပြုလုပ်ပြီး ဒီကုသိုလ်ကံတွေကြောင့်ပဲ အဲဒီဘဝကနေ ကွယ်လွန်တဲ့အခါ တာဝတိံသာ၊ ယာမာ၊ တုသိတာ၊ နိမ္မာနရတိ၊ ပရနိမ္မိတဝသဝတ္တီ နတ်ပြည်ငါးထပ်မှာ အစဉ်အတိုင်း နတ်မိဖုရားကြီးတွေချည်း ဖြစ်ခဲ့တယ်။ နတ်ပြည်ကနေ စုတေကွယ်လွန်ပြီး လူ့ပြည်မှာ ဖြစ်ပြန်တော့လည်း စကြာမင်း၊ ဧကရာဇ်မင်းတွေရဲ့ မိဖုရားကြီးတွေချည်း ဖြစ်ခဲ့တာပါ။ အဲဒီလိုနဲ့ ကမ္ဘာပေါင်းများစွာ နတ်ပြည်၊ လူ့ပြည်တွေမှာ စည်းစိမ်ချမ်းသာအမျိုးမျိုး ခံစားရင်း ကျင်လည်ခဲ့ရတယ်။

## ဝိပဿီမြတ်စွာဘုရားလက်ထက် ပါရမီဖြည့်ပုံ

ဒီဘဒ္ဒကမ္ဘာကနေ နောက်ပြန်ရေလိုက်ရင် လွန်ခဲ့တဲ့ ၉၁ ကမ္ဘာထက်မှာတော့ ဝိပဿီမြတ်စွာဘုရား ပွင့်တော်မူခဲ့ပါတယ်။ ဝိပဿီဘုရား လက်ထက်မှာ ခေမာထေရီ အလောင်းတော်ဟာ အမျိုးကောင်းသမီးဖြစ်ခဲ့ပြီး မြတ်စွာဘုရား တရားတော်ကို နာရတဲ့အတွက် သဒ္ဓါတရားဖြစ်ပြီး သာသနာ့ဘောင်ဝင်ရောက် ရဟန်းပြုခဲ့ပါတယ်။ အနှစ်တစ်သောင်း တရားကျင့်တဲ့အတွက် ကမ္မဋ္ဌာန်းတရား အားထုတ်သူ၊ ဗဟုသုတပြည့်ဝသူ၊ ပဋိစ္စသမုပ္ပာဒ် တရားတော်မှာ ကျွမ်းကျင်သူ၊ သစ္စာလေးပါးအရာ ရဲရင့်သူ၊ သိမ်မွေ့နက်နဲ ဆန်းကြယ်တဲ့တရားမျိုး ဟောပြောတတ်သူဖြစ်ခဲ့ပြီး ဘုရားအဆုံးအမတော်ကို လေးစားလိုက်နာတဲ့ ရဟန်းမလည်း ဖြစ်ခဲ့ပါတယ်။

အဲဒီဘဝကနေ စုတေပြီးတဲ့နောက်မှာတော့ တုသိတာနတ်ပြည်ကို ရောက်ခဲ့ပြီး ဝိပဿီဘုရား သာသနာမှာ တရားအားထုတ်ခဲ့တဲ့ ကုသိုလ်ကံကြောင့် အခြားနတ်တွေထက် သာလွန်တဲ့ စည်းစိမ်၊ အခြံအရံ၊ အရှိန်အဝါတွေ ရခဲ့တယ်။

ဒီလိုနဲ့ ဘဝသံသရာတွေ ကျင်လည်တော့လည်း ဖြစ်လေရာဘဝတိုင်းမှာ စည်းစိမ်ဥစ္စာ ပေါများသူ၊ ပညာရှိသူ၊ ကိုယ်ကျင့်သီလကောင်းသူ၊ စိတ်နေစိတ်ထားကောင်းတဲ့ မိတ်ဆွေ အပေါင်းအသင်းတွေနဲ့ ဆုံရသူ ဖြစ်ခဲ့တယ်။

အထူးအနေနဲ့ တရားအားထုတ်ခဲ့တဲ့ ကုသိုလ်ကံကြောင့် နှစ်သက်မြတ်နိုးစရာ ပစ္စည်းကောင်း၊ အသုံးအဆောင်ကောင်းတွေ ရလွယ်သူ ဖြစ်ခဲ့တယ်။ ဒါတင်မက သူနဲ့ ကံဆုံလို့ ကြုံတွေ့ခဲ့ရတဲ့ လင်သားတိုင်းရဲ့ နိုင်စားတာ၊ မထီမဲ့မြင် ပြုမူဆက်ဆံတာ မခံရတဲ့ အပြင် တလေးတစား ချစ်မြတ်နိုးခံရသူသာ ဖြစ်ခဲ့တယ်။

## ကောဏာဂုံမြတ်စွာဘုရားလက်ထက် ပါရမီဖြည့်ပုံ

ဒီ ဘဒ္ဒကမ္ဘာရောက်လို့ ကောဏာဂုံ မြတ်စွာဘုရား ပွင့်တော်မူတဲ့အခါမှာတော့ ခေမာထေရီ အလောင်းတော်ဟာ ဗာရာဏသီပြည်က ပြည့်စုံကြွယ်ဝတဲ့ သူဌေးမျိုးမှာ သူဌေးသမီးဖြစ်ခဲ့ပါတယ်။ သူဌေးသမီးဟာ သူငယ်ချင်းများဖြစ်ကြတဲ့ ဘုရင့်သမီး သုမေဓာနဲ့ ပုဏ္ဏားမသမီး ဓနဉ္စာနီတို့နဲ့အတူ ဘုရားအမှူးရှိတဲ့ သံဃာတော်တွေ သီတင်းသုံးဖို့ ကျောင်းတိုက်မြေနေရာနဲ့ သံဃိကကျောင်းဆောင်များ ဆောက်လုပ်လှူဒါန်းခဲ့ပါတယ်။ အဲဒီဘဝကနေ ကွယ်လွန်တဲ့အခါ သူငယ်ချင်းသုံးယောက်လုံး တာဝတိံသာနတ်ပြည်နဲ့ လူ့ပြည်တွေမှာ နတ်စည်းစိမ်၊ လူ့စည်းစိမ်တွေကို အထက်တန်းကျကျ သုံးဆောင်ခံစားခဲ့ကြရတယ်။

## ကဿပမြတ်စွာဘုရားလက်ထက် ပါရမီဖြည့်ပုံ

ဒီဘဒ္ဒကမ္ဘာမှာပဲ ကဿပမြတ်စွာဘုရား ပွင့်လာတဲ့အခါမှာတော့ ခေမာထေရီ အလောင်းတော်ဟာ ဗာရာဏသီပြည်က ကိကီမင်းကြီးရဲ့ သမီး ခုနစ်ဖော်ရှိတဲ့အနက် 'သမဏီ' လို့ ခေါ်တဲ့ အကြီးဆုံးသမီးတော်ဖြစ်ခဲ့ပါတယ်။ အရွယ်ရောက်တဲ့အခါ ညီမ ခုနစ်ဖော်လုံး မြတ်စွာဘုရားထံတော်ကနေ တရားနာရတဲ့အတွက် ဘိက္ခုနီရဟန်းဝတ်လိုတဲ့အကြောင်း ခမည်းတော် ကိကီမင်းကြီးထံ ခွင့်တောင်းခဲ့ကြတယ်။ ဒါပေမဲ့ ခမည်းတော်မင်းကြီးက ခွင့်မပြုခဲ့ပါဘူး။ ဒါကြောင့် ညီမတွေအားလုံး အပျိုစင်ဘဝနဲ့ပဲ ဥပုသ်သီတင်းသီလ ဆောက်တည်ကျင့်သုံးခြင်းဆိုတဲ့ ကောမာရီ ဗြဟ္မစရိယအကျင့်ကို အနှစ် နှစ်သောင်းတိုင်တိုင် မပျင်းမရိ ကျင့်ခဲ့ကြပြီး ကဿပမြတ်စွာဘုရားကိုလည်း အသက်ထက်ဆုံး ပစ္စည်းလေးပါးနဲ့ ပြုစုလုပ်ကျွေး ဆည်းကပ်ခဲ့ကြတယ်။

ဒီသမီး ခုနစ်ဖော်လုံးဟာ အကျွန်ုပ်တို့ရဲ့ ဂေါတမမြတ်စွာဘုရား သာသနာလက်ထက် ရောက်တဲ့အခါ အစဉ်အတိုင်း ခေမာထေရီ၊ ဥပ္ပလဝဏ္ဏာထေရီ၊ ပဋာစာရီထေရီ၊ ကုဏ္ဍလကေသီထေရီ၊ ကိသာဂေါတမီထေရီ၊ ဓမ္မဒိန္နာထေရီနဲ့ ဝိသာခါ ကျောင်းအမကြီးတို့ ဖြစ်လာကြမယ့်သူတွေချည်း ဖြစ်ပါတယ်။

တစ်ချိန်မှာတော့ ကဿပမြတ်စွာဘုရားရှင်က အလွန်အံ့သြဖွယ်ကောင်းတဲ့ မဟာနိဒါနသုတ္တန် (ပဋိစ္စသမုပ္ပါဒ်တရားတော်)ကို ဟောကြားတော်မူပါတယ်။ ဒီအခါ သမဏီမင်းသမီးဟာ မဟာနိဒါနသုတ္တန်ကို နာရတဲ့အတွက် နှစ်သက်သဘောကျ ကြည်ညိုပြီး အလွတ်ရအောင် သင်ယူ၊ ကျက်မှတ်၊ ရွတ်အံသရဇ္ဈာယ်ခဲ့ပါတယ်။ ဒီကောင်းမှုကုသိုလ်ကံတွေကြောင့်ပဲ သမဏီမင်းသမီး ဘဝကနေ ကွယ်လွန်တဲ့အခါ တာဝတိံသာနတ်ပြည်မှာ နတ်မိဖုရားကြီး ဖြစ်ခဲ့ပါတယ်။

## (ဂ) ပစ္ဆိမပွန်ဝတ္ထု နောက်ဆုံးဘဝဇာတ်ကြောင်း

အခု နောက်ဆုံးဘဝ ရောက်တဲ့ အခါမှာတော့ ခေမာထေရီအလောင်းတော်ဟာ သာဂလမြို့က မဒ္ဒရာဇ်မင်းရဲ့ သမီးတော် ဖြစ်လာခဲ့ပါတယ်။ မင်းသမီးလေး မွေးဖွားတဲ့အချိန်မှာ တစ်မြို့လုံး ဘေးရန်တွေ ကင်းငြိမ်းပြီး အေးချမ်းသွားတာကြောင့် 'ခေမာ'လို့ အမည်မှည့်ခေါ်ခဲ့ကြတယ်။ ခေမာမင်းသမီး အရွယ်ရောက်တဲ့အခါ မဒ္ဒရာဇ်မင်းက ရာဇဂြိုဟ်ပြည့်ရှင် ဘုရင်ဗိမ္ဗိသာရထံ ဆက်သလိုက်လို့ ဗိမ္ဗိသာရမင်းကြီးရဲ့ အလွန်ချစ်မြတ်နိုးတဲ့ မိဖုရား ဖြစ်လာခဲ့ပါတယ်။ ရုပ်ရည်အလွန်ချောမောလှပသူဖြစ်တာမို့ ခေမာမိဖုရားဟာ သူမရဲ့ရုပ်ရည်လှပမှုအပေါ် သဘောကျသာယာနေပြီး အလှမာန်တွေ တက်နေခဲ့ပါတယ်။

## အလှမာန်ဝင့်နေတဲ့ ခေမာမိဖုရား ဝေဠုဝန်ဥယျာဉ် အကြည့်သွား

မြတ်စွာဘုရားရှင် ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်းတော်မှာ သီတင်းသုံးနေတော်မူတဲ့အခါ ခေမာမိဖုရားဟာ 'မြတ်စွာဘုရားရှင် ဆိုတာ ရုပ်ရည်အဆင်းတွေရဲ့ အပြစ်ကို ပြပြီး တရားဟောတော်မူ သတဲ့'လို့ တစ်ဆင့်စကား ကြားဖူးတာနဲ့ အလှမာန်ယစ်နေသူပီပီ မြတ်စွာဘုရားထံ အဖူးအမြော်တောင် မသွားခဲ့ပါဘူး။ သူသွားလည်း မြတ်စွာဘုရားက ရုပ်ရည်အဆင်းရဲ့ အပြစ်၊ ခန္ဓာကိုယ်ရဲ့ အပြစ်တွေ ကိုပဲ ဟောမှာပါလို့ ထင်ခဲ့တာကြောင့်ပါ။

တစ်နေ့တော့ ဗိမ္ဗိသာရမင်းကြီးက 'ငါဟာ မြတ်စွာဘုရားရဲ့ အမြတ်ဆုံး အလုပ်အကျွေး ဒါယကာ ဖြစ်တယ်၊ ငါလို သောတာပန် အရိယာသာဝက တစ်ယောက်ရဲ့ မိဖုရားက မြတ်စွာဘုရားထံ အဖူး အမြော် မသွားနိုင်တာကတော့ ဘယ်လိုနည်းနဲ့မှ လက်ခံနိုင်စရာ မရှိဘူး'လို့ စဉ်းစားမိတယ်။ ဒါနဲ့ ဗိမ္ဗိသာရမင်းကြီးဟာ သီချင်းရေး ဆရာ စာဆိုပညာရှင်တွေကို ဝေဠုဝန်ဥယျာဉ်နဲ့ ပတ်သက်တဲ့ သီချင်း တွေ ရေးခိုင်းတယ်၊ အဲဒီသီချင်းတွေကို ခေမာမိဖုရား ကြားအောင် မိဖုရားရဲ့ ပတ်ဝန်းကျင် အနီးအနားမှာ မပြတ်သီဆို တီးမှုတ်စေခဲ့တယ်။

## ဝေဠုဝန်ဥယျာဉ်ဘွဲ့သီချင်းအနှစ်ချုပ် အဓိပ္ပာယ်

'ဝေဠုဝန်ဥယျာဉ်မှ မမြင်ဖူး မတွေ့ဖူးသေးရင် တာဝတိံသာ နတ်ပြည်က နန္ဒဝန်ဥယျာဉ်ကို မမြင်ဖူး မတွေ့ဖူးတာနဲ့ တူပါတယ်။ ဒါပေမဲ့ ဝေဠုဝန်ဥယျာဉ်ကို မြင်ဖူး တွေ့ဖူးရင်တော့ နန္ဒဝန်ဥယျာဉ်ကို မြင်ဖူး တွေ့ဖူးတာနဲ့ အတူတူပါပဲ။

တာဝတိံသာနတ်ပြည်က နတ်တွေ လူ့ပြည်သက်ဆင်းပြီး ဝေဠုဝန်ကျောင်းတော်ရဲ့ နှလုံးမွေ့လျော် ပျော်ဖွယ်ရာဥယျာဉ်ထဲ ရောက်လာတဲ့အခါ တအံ့တသြတွေ ဖြစ်ကြ၊ မတင်းတိမ် မရောင့်ရဲနိုင် တာတွေ ဖြစ်ကြရတယ်။

ဝေဠုဝန်ဥယျာဉ်ဆိုတာ ဘုရင့်ဘုန်းကံကြောင့် ဖြစ်ပေါ်လာတာ ဖြစ်သလို မြတ်စွာဘုရားရဲ့ ဘုန်းကံနဲ့ တန်ဆာဆင်ထားတာလည်း ဖြစ်တယ်။ ဒီဝေဠုဝန်ဥယျာဉ်ရဲ့ အလှဘွဲ့ကို ဘယ်လိုပုဂ္ဂိုလ်က ပြည့်စုံအောင် သီကုံးရေးဖွဲ့နိုင်ပါ့မလဲ'

ခေမာမိဖုရားဟာ ဒီသီချင်းသံကို ကြားရတာနဲ့ ဝေဠုဝန်ဥယျာဉ်ထဲသွားပြီး ဥယျာဉ်ရဲ့အလှအပတွေကို ကြည့်ရှုခံစားချင်စိတ်တွေ ဖြစ်လာတယ်။ ဒီအကြောင်း ဘုရင်ကြီးထံ လျှောက်ထားလိုက်တဲ့အခါမှာ ခေမာမိဖုရား ဥယျာဉ်ကြည့်သွားဖို့အတွက် ဘုရင်ကြီးကိုယ်တိုင် ကြောင့်ကြစိုက်ပြီး စီစဉ်ပေးပါတယ်။ အခြံအရံတွေလည်း အများကြီး ထည့်ပေးလိုက်တယ်။

ခေမာမိဖုရားဟာ ဝေဠုဝန်ဥယျာဉ်ကို ကြည့်လည်း ကြည့်ချင်တယ်။ ဒါပေမဲ့ ဘုရားနဲ့ တွေ့မှာလည်း စိုးရိမ်ကြောက်ရွံ့နေတယ်။ ဒါကြောင့် မြတ်စွာဘုရား ဆွမ်းခံထွက်တဲ့အချိန်ကို မှန်းဆပြီး ဝေဠုဝန်ဥယျာဉ်ဆီ ထွက်လာခဲ့တယ်။

ဝေဠုဝန်ဥယျာဉ်ရောက်တဲ့အခါ ဥယျာဉ်ရဲ့အလှအပတွေကို ကြည့်ပြီး ခေမာမိဖုရားဟာ အလွန်ကို ပျော်ရွှင်ကြည်နူးသွားတယ်။ ဥယျာဉ်တစ်ခုလုံးမှာရှိတဲ့ ပန်းမျိုးစုံက ပွင့်လို့ ဖူးလို့၊ ပျားပိတုန်းတွေ၊ ရောင်စုံလိပ်ပြာလေးတွေကလည်း ပန်းတွေရဲ့အထက်မှာ ဝဲလို့ ပျံလို့၊ ဥဩငှက်တွေကလည်း သာယာတဲ့အသံနဲ့ ကြည်နူး လွမ်းဆွတ်ဖွယ်တွန်လို့ ကျူးလို့၊ ဒေါင်းကလေးတွေကလည်း ကလို့ ခုန်လို့၊ အို… တကယ့်ကို ရင်သပ်ရှုမော ကြည်နူးအေးမြပြီး စိတ်နှလုံးကို ကြည်လင်လန်းဆန်းစေလှတဲ့ ရှုခင်းတွေချည်းပါ။ လူသံ သူသံ ဆူညံသံတွေကင်းဆိတ်ပြီး တကယ့်ကို ပီတိအေးချမ်းလှတဲ့ နေရာပါ။ ယောဂီကမ္မဋ္ဌာန်းကျောင်းလေးတွေ၊ ကမ္မဋ္ဌာန်းရှုမှတ်ဖို့ စင်္ကြံလမ်းလေးတွေ၊ ငြိမ်သက်စွာ တရားရှုမှတ်နေတဲ့ ယောဂီတွေနဲ့ ပေါင်းစပ်လိုက်တဲ့အခါ

ဝေဠုဝန်ဥယျာဉ်ဟာ တကယ့်ငြိမ်းချမ်းမှုကို ပေးနိုင်တဲ့ သန္တရသ ဓမ္မအေးရိပ်ဆာယာ ဖြစ်ပါတယ်။

ခေမာမိဖုရားဟာ ဥယျာဉ်ရဲ့ အလှအပတွေကို ငေးမော ခံစားရင်း သစ်ပင်တစ်ပင်ရဲ့ ပင်ခြေရင်းမှာ ငြိမ်သက်စွာ တရားရှုမှတ် နေတဲ့ ယောဂီရဟန်းပျိုတစ်ပါးကို အမှတ်မထင် တွေ့လိုက်တယ်။ ဒီအခါ 'ဩော်… အရှင်လေးနှယ် ဒီလိုပျိုမျစ်နုနယ် ငယ်ရွယ်တဲ့အချိန်မှာ လောကအလျောက် ကာမဂုဏ်ခံစားပြီး နေရမှာ မဟုတ်ပါလား၊ အသက်အရွယ် အိုမင်းမစွမ်းဖြစ်ခါမှ ရဟန်းတရားကို အားထုတ်သင့် တယ် မဟုတ်လား' လို့တောင် ကိလေသာရောစွက်တဲ့ အတွေးနယ် တွေ ချဲ့ထွင်နေခဲ့တယ်။

## အလှမာန်စွယ်ကျိုးပြီး သောတာပန်အရိယာဖြစ်

ဒီလိုနဲ့ ခေမာမိဖုရားဟာ မြတ်စွာဘုရား ဆွမ်းခံကြွချိန်မို့ ကျောင်းတော်မှာ မရှိဘူး အထင်နဲ့ ဘုရားသီတင်းသုံးတဲ့ ဂန္ဓကုဋိတိုက် တော်ဘက်ဆီ ရောက်လာခဲ့တယ်။ မြတ်စွာဘုရားရှင်ကလည်း ခေမာမိဖုရား လာမှာကို သိတာနဲ့ အဲဒီနေ့မှာ ဆွမ်းခံမကြွဘဲ ခေမာ မိဖုရားထက် အဆပေါင်းများစွာ သာလွန်ပြီး အလွန်လှပတင့်တယ်တဲ့ မိန်းမငယ်လေးကို တန်ခိုးနဲ့ဖန်ဆင်းကာ ဂန္ဓကုဋိကျောင်းတော်ကနေ ခေမာမိဖုရားအလာကို စောင့်တော်မူနေခဲ့ပါတယ်။ ခေမာမိဖုရား ဂန္ဓကုဋိတိုက်တော်ထဲကို လှမ်းကြည့်လိုက်တဲ့အခါ မြတ်စွာဘုရားကို ဖူးတွေ့ရရုံတင်မက နတ်သမီးတမျှ လှပတဲ့ မိန်းမငယ်လေးက မြတ်စွာဘုရားကို ယပ်လေခတ်ပေးနေတာကိုပါ တွေ့မြင်လိုက်ရပါ တယ်။

ဒီအခါ ခေမာမိဖုရားဟာ 'ဩော်… ဒီမိန်းမပျိုလေးဟာ အတော်ကို လှတာပါပဲလား၊ ဒီလောက် လှတဲ့သူကို ငါ တစ်ခါမှ

မမြင်ဖူးပါဘူး’လို့ မိန်းမချင်း ငေးကြည့်ရလောက်အောင်ကို လှပတဲ့ မိန်းမပျို လေးကို ကြည့်ပြီး အတွေးတွေ ဝင်ကာ ရပ်နေခဲ့တယ်။

ဒါကို မြတ်စွာဘုရားက သိတော်မူလိုက်ပြီး ‘တန်ခိုးနဲ့ ဖန်ဆင်းထားတဲ့ မိန်းမပျိုလေးကို ပထမအရွယ်ကနေ ဒုတိယအရွယ် ပြောင်းလဲဖန်ဆင်းလိုက်တယ်၊ တစ်ခါ ဒုတိယအရွယ်ကနေ တတိယ အရွယ်ရောက်လို့ ဆံတွေဖြူ၊ သွားတွေ ကျိုး၊ ပါးရေနားရေတွေ တွန့်လိပ်ပြီး ခါးကုန်းနေတဲ့ အဖွားအိုပုံ၊ နောက်ပြီး လဲကျသေဆုံး သွားပုံတွေ တစ်ခုပြီး တစ်ခု ဆက်လက် ဖန်ဆင်းပြတော်မူလိုက် ပါတယ်။

ဒီအခါ ခေမာမိဖုရားဟာ အတိတ်ပါရမီရှိသူ ဖြစ်တာကြောင့် အလွန်လှပတဲ့ မိန်းမပျိုလေးရဲ့ ဆင့်ကဲ့ ဆင့်ကဲ အိုမင်း၊ ယိုယွင်း၊ ဖောက်ပြန် ပျက်စီးသွားတဲ့ မြင်ကွင်းကို မြင်လိုက်တာနဲ့ ‘သြော်… ဒီလောက် နတ်သမီးတမျှ လှပတဲ့သူရဲ့ ခန္ဓာကိုယ်တောင် ဖောက်ပြန် ပျက်စီးရသေးရင် ငါ့ရဲ့ခန္ဓာကိုယ်လည်း ဒီလို ဖောက်ပြန်ပျက်စီးမှာ အမှန်ပဲ’လို့ အတွေးဝင်ခဲ့ပြီး သံဝေဂဉာဏ်တွေ၊ ကြက်သီး မွေးညင်း ထတာတွေ မဖြစ်စဖူး ဖြစ်ခဲ့ပါတယ်။

## အသုဘဘာဝနာ နှလုံးသွင်းပုံတရား

ဒီအခါ သံဝေဂဉာဏ်တွေ ဖြစ်နေတဲ့ ခေမာမိဖုရားကို မြတ်စွာ ဘုရားရှင်က ဖော်ပြပါအတိုင်း ဂါထာ ငါးပုဒ်နဲ့ တရားဟောခဲ့ပါတယ်။

“ခေမာမိဖုရား… ဒီခန္ဓာကိုယ်ကြီးဆိုတာ နာကျင်ခံခက် နှိပ်စက်တတ်တဲ့ သဘောလည်း ရှိတယ်၊ မစင်မကြယ် ရွံရှာဖွယ်ရာ လည်း ဖြစ်တယ်၊ ပုပ်ဟောင်းညှီလှောင်း မကောင်းတဲ့ အနံ့လည်း ရှိတယ်၊ အထက်ကိုလည်း လျှံတက် ယိုထွက်တတ်တယ်၊ အောက်ကို လည်း တစက်စက် ယိုထွက်တတ်တယ်၊ လူမိုက်တွေသာ နှစ်သက်

စုံမက် မြတ်နိုးကြတယ်၊ ခန္ဓာကိုယ်ရဲ့ ဒီစက်ဆုပ်ဖွယ်သဘောသဘာဝ တွေကို ဉာဏ်နဲ့ ဆင်ခြင်ကြည့်ပါ။

အသုဘဘာဝနာထင်စေဖို့အတွက် တည်တည်ငြိမ်ငြိမ် စူးစိုက်ပြီး ဘာဝနာစိတ်ကို ရှုပွားပါ၊ ခန္ဓာကိုယ်ကာယ ကောဋ္ဌာသတွေအပေါ်မှာ သတိကို ကပ်ထားပါ၊ တပ်မက်တဲ့စိတ်တွေကင်းပြီး ငြိမ်းငွေ့တဲ့ နိဗ္ဗိဒါဉာဏ်တွေ ထပ်ကာထပ်ကာ ဖြစ်လာအောင် ရှုပွားပါ။

ငါဘုရားအနီးမှာရှိတဲ့ အမျိုးသမီးရဲ့ခန္ဓာကိုယ်ဟာ အသက်အရွယ် ကြီးရင့် အိုမင်းပြီး ပျက်စီးရသလို သင်ရဲ့ခန္ဓာကိုယ်လည်း အိုမင်းပြီး ပျက်စီးမှာ ဖြစ်တယ်၊ သင်ရဲ့ခန္ဓာကိုယ်ဟာ မသေခင် ခေတ္တခဏ တင့်တယ်လှပတယ်လို့ ထင်ရသလို ငါဘုရားအနီးမှာရှိတဲ့ အမျိုးသမီးရဲ့ ခန္ဓာကိုယ်ဟာလည်း မသေခင် ခေတ္တခဏလောက်ပဲ လှတယ် ထင်ရတာပါ၊ ဒါကြောင့် ကိုယ့်ခန္ဓာအပေါ်မှာရော၊ သူတစ်ပါး ခန္ဓာတွေအပေါ်မှာပါ တပ်မက်တဲ့ ဆန္ဒရာဂကို ပယ်စွန့်လိုက်ပါ။

အဖြစ်နဲ့အပျက်ကို ရှုတဲ့ ဝိပဿနာဉာဏ်ကိုလည်း ပွားများပါ၊ မာန်မာနကိုလည်း ပယ်စွန့်ပါ၊ မာနကို ပယ်စွန့်နိုင်ခဲ့ရင် လောဘမီး၊ ဒေါသမီး စတဲ့ မီးတစ်ဆယ့်တစ်မီး ငြိမ်းပြီး ဒုက္ခအပူတွေ မရှိတဲ့ နိဗ္ဗာန်ကို ရောက်ပါလိမ့်မယ်။

ပင့်ကူကောင်ဟာ ကိုယ်တိုင်ပြုလုပ်ထားတဲ့ ကွန်ရက်အသွင် ပင့်ကူချည်မျှင်တွေပေါ် ဟိုသွား ဒီသွား လျှောက်သွားနေသလို ရာဂတွေနဲ့ တပ်မက်မောနေကြတဲ့ သတ္တဝါတွေဟာလည်း ကိုယ်ပြုလုပ်ထားတဲ့ တစ်ဘဝပြီးတစ်ဘဝဖြစ်တဲ့ ဘဝခန္ဓာအစဉ်တွေဆီ အစဉ်လိုက်သွားနေရတယ်၊ ပညာရှိပုဂ္ဂိုလ်တွေဟာ ကာမချမ်းသာတွေကို မငဲ့မကွက် ပယ်စွန့်ကြပြီး ကိလေသာအလျဉ်နဲ့ ဘဝခန္ဓာအစဉ်ကို ဖြတ်တောက်ကာ နိဗ္ဗာန်ရတဲ့အထိ ကျင့်ကြတယ်''

ဒီတရားဒေသနာကို နာကြားလိုက်ရတဲ့အခါ ခေမာမိဖုရားရဲ့ စိတ်အစဉ်တွေဟာ ကြည်လင်လာတယ်။ ဒီအခါ မြတ်စွာဘုရားက

မဟာနိဒါနသုတ္တန်(ပဋိစ္စသမုပ္ပါဒ်တရားတော်)ကို ဆက်ပြီး ဟောကြားတော်မူပါတယ်။ ဒီသုတ္တန်ဟာ ခေမာမိဖုရား ကဿပဘုရားလက်ထက် ကိကီမင်းရဲ့ သမီး သမဏီမင်းသမီး ဖြစ်စဉ်က အရကျက်ပြီး အမြဲမပြတ် ရွတ်အံသရဇ္ဈာယ်ခဲ့တဲ့ သုတ္တန် ဖြစ်ပါတယ်။ ဒီသုတ္တန်ကို နာရတဲ့အခါ ခေမာမိဖုရားဟာ ရှေးက အရကျက်ခဲ့ဖူးတာကို ပြန်လည်အမှတ်ရပြီး နှလုံးသွင်း ဆင်ခြင်လိုက်တဲ့အတွက် အဲဒီနေရာမှာပဲ သောတာပတ္တိမဂ်၊ ဖိုလ် ဆိုက်ရောက်ပြီး သောတာပန် အရိယာ ဖြစ်ခဲ့ပါတယ်။

သောတာပန်ဖြစ်ပြီးတဲ့အခါ ခေမာမိဖုရားဟာ အရင်က မိမိရဲ့ ရုပ်ရည်အဆင်း လှပမှုကို အကြောင်းပြုပြီး အလှမာန်နဲ့ မြတ်စွာဘုရားအပေါ် အထင်မှားခဲ့တဲ့ အပြစ်ကို သည်းခံခွင့်လွှတ်ဖို့ တောင်းပန်လျှောက်ထားပါတယ်။ မြတ်စွာဘုရားက "ရှိပါစေ ချစ်သမီးခေမာ" လို့ သည်းခံစကား မိန့်ကြားတော်မူပါတယ်။ ဒီနောက်တော့ ခေမာမိဖုရားဟာ မြတ်စွာဘုရားကို ရှိခိုးကန်တော့ပြီး ရွှေနန်းတော်ဆီ ပြန်လာခဲ့ပါတယ်။

ရွှေနန်းတော် ပြန်ရောက်တဲ့အခါ ခေမာမိဖုရားက ဗိမ္ဗိသာရမင်းကြီးကို "အရှင်မင်းမြတ်... အရှင့်ရဲ့ ဥပါယ်တံမျဉ်နဲ့ ဝေဠုဝန်ဥယျာဉ်ကို ကြည့်ချင်စိတ်ပေါက်အောင် ဆောင်ရွက်ပေးခဲ့တာကတော့ တကယ့်ကို အံ့သြစရာပါ ဘုရား၊ အရှင့်ကျေးဇူးကြောင့် အကျွန်ုပ်ဟာ ဥယျာဉ်ကို ကြည့်ရင်း ကိလေသာ ကင်းစင်တော်မူတဲ့ ဘုရားမြတ်စွာကို ဖူးမြော်ခွင့်ရခဲ့ပြီး တရားတော်ကို နာယူရတဲ့အတွက် ရုပ်အဆင်းအပေါ်မှာ ငြီးငွေ့တဲ့ နိဗ္ဗိန္ဒဉာဏ်တွေ ဖြစ်ခဲ့ပါတယ်၊ ဒါကြောင့် အသင်မင်းကြီး ခွင့်ပြုမယ်ဆိုရင် သာသနာ့ဘောင် ဝင်ရောက်ပြီး ရဟန်းပြုလိုပါတယ် ဘုရား" လို့ ခွင့်ပန်စကား သံတော်ဦးတင် လျှောက်ထားလိုက်ပါတယ်။

ဒီအခါ ဗိမ္ဗိသာရမင်းကြီးဟာ အမူအရာကို ကြည့်လိုက်တာနဲ့ ခေမာမိဖုရား အရိယာမဂ်ဖိုလ် ဆိုက်ရောက်ကြောင်း ရိပ်မိသိရှိတာကြောင့် လက်အုပ်ချီပြီး "ရှင်မ… ခွင့်ပြုပါတယ်၊ သင်ရဲ့ ရဟန်းအဖြစ် ပြီးမြောက်အောင်မြင်ပါစေ" လို့ ခွင့်ပြုစကား မိန့်ကြားပါတယ်။ ဒီနောက်မှာတော့ ဗိမ္ဗိသာရမင်းကြီးက ခေမာမိဖုရားကို ရွှေထမ်းစင်ပေါ်တင်၊ ကြီးကျယ်တဲ့ အခမ်းအနားနဲ့ ဘိက္ခုနီမ ကျောင်းတိုက်ဆီ ပို့ဆောင်ပြီး ရှင်ရဟန်းမ ပြုစေခဲ့ပါတယ်။

## ဆီမီးတိုင်ကြည့်ရင်း ရဟန္တာဖြစ်

ဘိက္ခုနီရဟန်းမဖြစ်ပြီးလို့ ၁၅ ရက်မြောက်တဲ့နေ့မှာ ခေမာထေရီမဟာ ဥပုသ်ပြုဖို့ ထွန်းညှိထားတဲ့ ဆီမီးအလင်းတိုင်ရဲ့ မီးတောက်မီးလျှံ ဖြစ်ပေါ်လာလိုက်၊ ပျက်သွားလိုက် ဖြစ်တာကို မြင်တွေ့ပြီး သံဝေဂဉာဏ်တွေ ထင်လာခဲ့တယ်။ ဆက်ပြီး ရုပ်နာမ်ဓမ္မ သင်္ခါရတရားတွေရဲ့ ပဋိစ္စသမုပ္ပာဒ် ကြောင်းကျိုးဆက် ဖြစ်နေပုံတွေ၊ အဖြစ်နဲ့အပျက်တွေကို ဝိပဿနာဉာဏ်နဲ့ သုံးသပ် ဆင်ခြင် ရှုမှတ် ပွားများလိုက်တယ်။ ဒါကြောင့် ခေမာထေရီမဟာ ပဋိသမ္ဘိဒါလေးပါး၊ အဘိညာဉ်ခြောက်ပါး ခြံရံတဲ့ အရဟတ္တမဂ်၊ အရဟတ္တဖိုလ် ဆိုက်ရောက်ပြီး ရဟန္တာထေရီမ ဖြစ်ခဲ့ပါတယ်။

ခေမာထေရီမဟာ ပရိယတ်ရော ပဋိပတ်ပါ နှစ်ခုလုံး လေ့လာလိုက်စားသူ ဖြစ်တာမို့ ဝိသုဒ္ဓိ ခုနစ်ပါး ကျင့်စဉ်တရားမှာလည်း ကျွမ်းကျင်နိုင်နင်းသူ၊ ကထာဝတ္ထုကျမ်းနဲ့ပတ်သက်ရင်လည်း သူမတူအောင် ရဲရင့်ပြီး အဘိဓမ္မာအရာမှာလည်း ကျွမ်းကျင်သူ ပညာရည်ထူးချွန်သူ ဖြစ်ခဲ့ပါတယ်။

## ခေမာထေရီက ကောသလမင်းကြီးကို ဟောတဲ့ ခေမာသုတ္တန်တရား

ခေမာထေရီမရဲ့ ဉာဏ်ပညာ ကြီးမားပုံကို ကြည်ညိုမှန်းဆနိုင်ဖို့အတွက် သဠာယတနဝဂ္ဂ သံယုတ်ပါဠိတော်မှာ မှတ်တမ်းတင်ထားတဲ့ ခေမာသုတ္တန်ကို အကျဉ်းချုပ် ဖော်ပြပါဦးမယ်။

တစ်ချိန်မှာတော့ မြတ်စွာဘုရား သာဝတ္ထိပြည် ဇေတဝန်ကျောင်းမှာ သီတင်းသုံး နေတော်မူပါတယ်။ အဲဒီ အချိန်မှာ ခေမာထေရီမဟာ ကောသလတိုင်းအတွင်း ဒေသစာရီခရီး ထွက်လာခဲ့တာ သာဝတ္ထိနဲ့ သာကေတမြို့အကြား လမ်းခုလတ်က တောရဏဆိုတဲ့ အရပ်မှာ ရောက်နေခဲ့ပါတယ်။ သာဝတ္ထိပြည့်ရှင် ဘုရင်ပသေနဒီကောသလလည်း သာကေတမြို့ကနေ သာဝတ္ထိအပြန် တောရဏအရပ်မှာ တစ်ညဥ့်တာ နားနေခဲ့ပါတယ်။

ဒီအခါ ပသေနဒီကောသလမင်းကြီးဟာ မင်းချင်းယောကျ်ားတစ်ယောက်ကို တောရဏအရပ်မှာ သူဆည်းကပ်သင့်တဲ့ သမဏ၊ ဗြာဟ္မဏ ပုဂ္ဂိုလ်တစ်ဦးတလေ ရှိ၊ မရှိ မေးမြန်းစုံစမ်းခိုင်းပါတယ်။ မင်းချင်းယောကျ်ားလည်း မင်းကြီးစေခိုင်းချက်အရ တောရဏအရပ်တစ်ခုလုံး နှံ့အောင် မေးမြန်းစုံစမ်းပေမယ့် မင်းကြီး ဆည်းကပ်သင့်တဲ့ သမဏ၊ ဗြာဟ္မဏ ပုဂ္ဂိုလ်တစ်ဦးတလေမျှ မတွေ့ခဲ့ပါဘူး။ ဒါပေမဲ့ တောရဏအရပ်ကို ခေတ္တခဏရောက်နေတဲ့ ခေမာထေရီမကို တွေ့ခဲ့တယ်။ ဒါနဲ့ မင်းချင်းယောကျ်ားဟာ မင်းကြီးထံ ပြန်လာပြီး–

"အရှင်မင်းမြတ်… ဒီတောရဏအရပ်မှာ အရှင်မင်းကြီး ဆည်းကပ်သင့်တဲ့ သမဏ၊ ဗြာဟ္မဏ ပုဂ္ဂိုလ် တစ်ဦးတစ်ယောက်မှ မရှိပါဘူး၊ ဒါပေမဲ့ မြတ်စွာဘုရားရဲ့ တပည့်မ ခေမာ ဘိက္ခုနီမတော့ ရှိပါတယ်၊ အဲဒီအရှင်မဟာ 'ပညာရှိတယ်၊ အကြားအမြင် ဗဟုသုတနဲ့ ပြည့်စုံတယ်၊ ဆန်းကြယ်တဲ့တရား ဟောတတ်တယ်၊ ထိုးထွင်းဉာဏ်ရှိတယ်' လို့ နာမည်ကြီး ကျော်ကြားသူ ဖြစ်ပါတယ်၊ အရှင်မင်းမြတ်

အနေနဲ့ ခေမာ ဘိက္ခုနီ အရှင်မထံ ဆည်းကပ်ရင် သင့်မယ် ထင်ပါတယ် ဘုရား”လို့ သံတော်ဦးတင် လျှောက်ထားပါတယ်။

ပသေနဒီ ကောသလမင်းကြီးလည်း မင်းချင်းယောက်ျားရဲ့ အကြံပြုလျှောက်ထားချက်အတိုင်း ခေမာထေရီ ဘိက္ခုနီမထံ ချဉ်းကပ် အရိုအသေပေးပြီး ခေမာထေရီ ဘိက္ခုနီမနဲ့ သူသိလိုတဲ့ အကြောင်း အရာတွေကို အပြန်အလှန် မေးမြန်းဆွေးနွေးခဲ့ပါတယ် –

“အရှင်မ··· သတ္တဝါဟာ သေပြီးတဲ့နောက် ဖြစ်ပါသလား”

“မင်းမြတ်··· ဒီအချက်ကို မြတ်စွာဘုရား မဟောကြားအပ်ပါ”

“အရှင်မ··· ဒီလိုဆိုရင် သတ္တဝါဟာ သေပြီးတဲ့နောက် မဖြစ်ဘူးလား”

“မင်းမြတ်··· ဒီအချက်ကိုလည်း မြတ်စွာဘုရား မဟောကြားအပ်ပါ”

“အရှင်မ··· သတ္တဝါဟာ သေပြီးတဲ့နောက် ဖြစ်တာလည်း ရှိ မဖြစ်တာလည်း ရှိသလား”

“မင်းမြတ် ··· ဒီအချက်ကိုလည်း မြတ်စွာဘုရား မဟောကြားအပ်ပါ”

“အရှင်မ··· ဒီလိုဆိုရင် သတ္တဝါဟာ သေပြီးတဲ့နောက် ဖြစ်တာလည်း မဟုတ်၊ မဖြစ်တာလည်း မဟုတ်တာလား”

“မင်းမြတ်··· ဒီအချက်ကိုလည်း မြတ်စွာဘုရား မဟောကြားအပ်ပါ”

ဒါကတော့ ကောသလမင်းနဲ့ ခေမာထေရီတို့ ပထမအဆင့် အနေနဲ့ မေးကြ၊ ဖြေကြပုံ ဖြစ်ပါတယ်။

နောက်တစ်ဆင့်အနေနဲ့ ဆက်ပြီးတော့ အပြန်အလှန် အခုလို မေးကြ၊ ဖြေကြ ဆွေးနွေးကြပြန်ပါတယ်။

“အရှင်မ… အကျွန်ုပ်မေးတဲ့ အကြောင်းအရာ အချက်အလက်တိုင်းကို ဘာကြောင့် မြတ်စွာဘုရား မဟောကြားအပ်ရတာလဲ”

“မင်းမြတ်… ဒီလိုဆိုရင် သင့်ကိုပဲ ပြန်မေးပါဦးမယ်၊ သင်ကြိုက်နှစ်သက်သလို ဖြေပါ၊ ‘ဂင်္ဂါမြစ်ထဲမှာ သဲမှုန်တွေ ဟောဒီလောက် ရှိပါတယ်’လို့ ဖြစ်ဖြစ်၊ ‘သဲမှုန်ရာပေါင်းက ဒီလောက်၊ ထောင်ပေါင်းက ဒီလောက်၊ သိန်းပေါင်းက ဒီလောက်ရှိတယ်’လို့ ဖြစ်ဖြစ် ရေတွက်နိုင်စွမ်းရှိတဲ့ ဂဏန်းသင်္ချာသမား၊ လက်ချိုးရေသမား၊ အပေါင်းလိုက်ရေသမားတွေ သင်မင်းမြတ်မှာ ရှိပါသလား”

“အရှင်မ… မရှိပါ”

“မင်းမြတ်… ‘မဟာသမုဒ္ဒရာထဲမှာ ရှိတဲ့ ရေတွေဟာ ခွက်ပေါင်း ဟောဒီလောက် ရှိတယ်’လို့ ဖြစ်ဖြစ်၊ ‘ခွက်ရာပေါင်းက ဒီလောက်၊ ခွက်ထောင်ပေါင်းက ဒီလောက်၊ ခွက်သိန်းပေါင်းက ဒီလောက်ရှိတယ်’လို့ ဖြစ်ဖြစ် ရေတွက်နိုင်စွမ်းရှိတဲ့ ဂဏန်းသင်္ချာသမား၊ လက်ချိုးရေသမား၊ အပေါင်းလိုက်ရေသမားတွေ သင်မင်းမြတ်မှာ ရှိပါသလား”

“အရှင်မ… မရှိပါ၊ အကြောင်းကတော့ မဟာသမုဒ္ဒရာဟာ နက်လည်း နက်လှပါတယ်၊ မနှိုင်းယှဉ်မရေတွက်နိုင်ပါ၊ သက်ဝင်ရန်လည်း ခဲယဉ်းလှပါတယ်၊ ဒါကြောင့်ပါ”

“မင်းမြတ်… မြတ်စွာဘုရားအတွက်တော့ သေပြီးတဲ့နောက် သတ္တဝါလို့ ပညတ် သတ်မှတ်မယ်ဆိုရင် ပညတ်သတ်မှတ်နိုင်တဲ့ ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ်ဆိုတဲ့ ခန္ဓာငါးပါးကို လုံးဝပယ်ပြီးသွားပြီ။ မြတ်စွာဘုရားမှာ ပရိနိဗ္ဗာန်စံတော်မူပြီးသွားရင် ခန္ဓာအသစ် ဖြစ်တော့မှာမဟုတ်၊ ဒီတော့ မြတ်စွာဘုရားဟာ နောက်ထပ်ခန္ဓာငါးပါး အသစ်ဖြစ်တော့မှာ မဟုတ်တဲ့ အတွက်ကြောင့် နောင်

အနာဂတ်ဖြစ်မယ့် ခန္ဓာငါးပါးအစုကနေလည်း လွတ်တော်မူပြီးဖြစ်တယ်။

ဒါကြောင့် မြတ်စွာဘုရားဟာ နောင်အနာဂတ် ဘယ်လိုပုဂ္ဂိုလ်ဖြစ်လိမ့်မယ်ဆိုတဲ့ သတ္တပညတ်၊ ပုဂ္ဂလပညတ် ငြိမ်းပြီးဖြစ်တဲ့အတွက် အနာဂတ်ခန္ဓပညတ်ကနေ လွတ်ပြီး ဖြစ်တော်မူတယ်။

မင်းမြတ်... မြတ်စွာဘုရားဆိုတာ မဟာသမုဒ္ဒရာလိုပဲ ဂုဏ်တော်အားဖြင့်လည်း နက်နဲလှတယ်၊ အလိုအဇ္ဈာသယအားဖြင့်လည်း နက်နဲလှတယ်၊ ဒီလိုနက်နဲတော်မူလှတဲ့ မြတ်စွာဘုရားအဖို့တော့ သေပြီးတဲ့နောက် သတ္တဝါလို့ ပညတ်မယ်ဆိုရင် ပညတ်နိုင်တဲ့ ခန္ဓာငါးပါး မရှိတော့တာမို့ 'သတ္တဝါ' ဆိုတဲ့ ပညတ်လည်း မရှိတော့ပါ။

ဒီလို မရှိတော့တာကို မြင်တော်မူတဲ့ မြတ်စွာဘုရားအနေနဲ့ သတ္တဝါ သေပြီးတဲ့နောက် ဖြစ်တယ်၊ မဖြစ်ဘူးစတဲ့ လေးချက်လုံး မပြောသင့်တော့ပါ၊ ဒါကြောင့် သင် မင်းကြီးမေးတဲ့ လေးချက်ကို မြတ်စွာဘုရား မဟောကြားအပ်တာ ဖြစ်ပါတယ်''

ဒီနောက်တော့ ပသေနဒီကောသလမင်းကြီးဟာ ခေမာဘိက္ခုနီမရဲ့ အဖြေစကားကို နှစ်သက် သဘောကျပြီး အရှင်မကို ရှိခိုးဦးတင် အရိုအသေပြုကာ ပြန်သွားခဲ့ပါတယ်။

ပသေနဒီကောသလမင်းကြီးဟာ တစ်နေ့မှာတော့ မြတ်စွာဘုရားထံ ရောက်သွားပြီး ခေမာထေရီမကို မေးသလိုပဲ မြတ်စွာဘုရားကို မေးခွန်း လေးချက် မေးပြန်ပါတယ်။ မြတ်စွာဘုရားရှင်ကလည်း ခေမာထေရီမ ဖြေသလိုပဲ ပြန်ဖြေတော်မူခဲ့ပါတယ်။

အခုလို မြတ်စွာဘုရား ဖြေပုံနဲ့ ခေမာထေရီမရဲ့ ဖြေပုံတွေ တစ်ထပ်တည်း တူညီနေတဲ့အခါ ပသေနဒီကောသလမင်းဟာ အလွန် အံ့ဩသွားပြီး ''မြတ်စွာဘုရား... သိပ်ကို အံ့ဩစရာ ကောင်းလှပါတယ် ဘုရား၊ မြတ်စွာဘုရားနဲ့ တပည့် ရဟန်းမတို့ရဲ့ တရားတွေဟာ

အနက်ချင်းရော သဒ္ဒါချင်းပါ တစ်ထပ်တည်းကျ ညီညွတ်လှပါတယ်၊ တစ်ခုနဲ့တစ်ခု ဆန့်ကျင်မှု မရှိပါ၊ မြတ်စွာဘုရား… တစ်ချိန်က ဒီမေးခွန်းတွေကို ခေမာထေရီ ဘိက္ခုနီမကိုလည်း မေးမြန်းခဲ့ဖူးပါတယ်၊ အဲဒီအရှင်မလည်း မြတ်စွာဘုရားဖြေသလို ဖြေကြားခဲ့ပါတယ်ဘုရား” လို့ ဝမ်းသာကြောင်း လျှောက်ထားခဲ့ပါတယ်။

ဒီနောက်တော့ ပသေနဒီ ကောသလမင်းကြီးဟာ ဝမ်းသာအားရစွာနဲ့ပဲ မြတ်စွာဘုရားကို ရှိခိုးဦးချ ကန်တော့ပြီး မြတ်စွာဘုရားထံကနေ ပြန်သွားခဲ့ပါတယ်။

ဒါကတော့ မဟာဗုဒ္ဓဝင် ဆဋ္ဌတွဲ ဒုတိယပိုင်းမှာ တိပိဋကဓရ မင်းကွန်းဆရာတော်ဘုရားကြီး အနှစ်ချုပ်ပြထားတဲ့ ခေမာသုတ္တန် အကျဉ်းချုပ်ပဲ ဖြစ်ပါတယ်။

## ခေမာထေရီ မဟာပညာတေဒဂ်ရပုံ

ပသေနဒီ ကောသလမင်းကြီးကို ခေမာသုတ္တန် ဟောကြားခဲ့တာဟာ ခေမာထေရီမအတွက် ပညာအရာဧတဒဂ်ရဖို့ အနီးကပ်အကြောင်းတရား ဖြစ်ခဲ့ပါတယ်။ ဒါကြောင့်ပဲ မြတ်စွာဘုရားဟာ နောက်ပိုင်းကာလ တစ်ချိန် သာဝတ္ထိပြည် ဇေတဝန်ကျောင်းတိုက်က သံဃာ့အစည်းအဝေးသဘင်မှာ ခေမာထေရီ ဘိက္ခုနီမကို ပညာဉာဏ်ကြီးမားကြတဲ့ တပည့်ဘိက္ခုနီမတွေထဲမှာ ပညာအရာ အသာဆုံး အမြတ်ဆုံးဆိုတဲ့ ‘မဟာပညာဧတဒဂ်’ဘွဲ့ထူးနဲ့ ချီးမြှောက်တော်မူခဲ့ပါတယ်။

မွေး၊ အို၊ နာ၊ သေဆိုတဲ့ သံသရာ့ဒုက္ခ ခန္ဓာ့ဖြစ်စဉ်ကနေ လွတ်မြောက်လိုတယ်ဆိုရင်တော့ အနာဂတ်ခန္ဓာ့ဖြစ်စဉ်ရဲ့ လက်သည်တရားခံဖြစ်တဲ့ ‘တဏှာ’ဝဋ်မြစ်ကို အပြတ်ရှင်းရမှာ ဖြစ်ပါတယ်။ တဏှာဝဋ်မြစ်ပြတ်ဖို့ ဆိုရင်လည်း ခေမာထေရီလို အသုဘဘာဝနာနဲ့

ပါးအောင်ပြုပြီး ဝိပဿနာဉာဏ်၊ မဂ်ဉာဏ်တွေနဲ့ အမြစ်ပြတ်ရှင်းရမှာပါ။

ခေမာထေရီကတော့ မြတ်စွာဘုရားဟောတဲ့ အသုဘဘာဝနာရှုပွားပုံတရားနဲ့ ခန္ဓာအပေါ်မှာ တွယ်တာတဲ့ တဏှာနဲ့ အလှမာန်ကို ခွာချနိုင်ခဲ့ပြီး ဘဝါဘဝက ပဋိစ္စသမုပ္ပာဒ် ကြောင်းကျိုးဆက် ခန္ဓာ့ဖြစ်စဉ်တရားကို အထုံရအောင် ပွားခဲ့တဲ့အတွက် မဟာနိဒါန-ပဋိစ္စသမုပ္ပာဒ်တရား နာရတဲ့အခါ ဝိပဿနာဉာဏ်တွေ၊ သောတာပတ္တိမဂ်ဉာဏ် အလင်းဓာတ်တွေ ရရှိကာ သောတာပန်အရိယာ ဖြစ်ခဲ့ပါတယ်။

ခေမာထေရီဟာ သတိအားနဲ့ဉာဏ်ရှိန် အားကောင်းလာတဲ့အတွက် ဆီမီးတိုင် ထွန်းထားတာလေးကို ကြည့်ပြီး အရင်လောင်စာဆီနဲ့ မီးစာကြောင့် တောက်လောင်တဲ့ ဆီမီးရောင် ချုပ်ငြိမ်းပုံနဲ့ နောက်နောက်လောင်စာဆီနဲ့ မီးစာကြောင့် ဆီမီးရောင် အသစ်အသစ်ဖြစ်နေတာကို သတိထားပြီး အသိပွားနိုင်ခဲ့တယ်။ အဲဒီ သတိနဲ့အသိကို မိမိခန္ဓာဘက်လှည့်ပြီး ခန္ဓာရဲ့ အဖြစ်နဲ့ အပျက်ကို ဝိပဿနာဉာဏ်တင်ကာ ရှုပွားလိုက်နိုင်တဲ့အတွက် တဏှာဝဋ်မြစ်ကို အပြီးတိုင် ပယ်သတ်နိုင်ခဲ့တယ်။ ဒါကြောင့်ပဲ ခန္ဓာဇာတ်သိမ်းတဲ့ နိဗ္ဗာန်ကို ရရှိကာ ရဟန္တာဖြစ်ခဲ့တာပါ။

ခန္ဓာဒုက္ခသစ္စာဖြစ်စဉ်ရဲ့ လက်သည်တရားခံဖြစ်တဲ့ တဏှာသမုဒယသစ္စာကို ခေမာထေရီလို အသုဘဘာဝနာ၊ ဝိပဿနာဘာဝနာတွေ ရှုပွားပြီး အမြစ်ပြတ်အောင် ပယ်သတ်နိုင်ကြပါစေ။

**ကျမ်းကိုး-**

၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ပထမတွဲ၊ ၂၆၄။
၂။ မဟာဗုဒ္ဓဝင်၊ ဆဋ္ဌတွဲ၊ ဒုတိယပိုင်း၊ ၁၉။

၃။ အပဒါန်ပါဠိတော်၊ ဒုတိယတွဲ၊ ၂၂၁။
၄။ အပဒါန်ပါဠိတော် မြန်မာပြန်၊ ဒုတိယတွဲ၊ ၂၁၃။
၅။ သံယုတ်ပါဠိတော်၊ ဒုတိယတွဲ၊ ၅၄၄။

တန်ခိုးအရာ အသာဆုံး

ဣဒ္ဓိမန္တ ဧတဒဂ်ရ

# ဥပ္ပလဝဏ္ဏာ ထေရီ



ကုသိုလ်ဆိုတာ အညံ့စားကုသိုလ်၊ အလတ်စားကုသိုလ်နဲ့ အဆင့်မြင့်ကုသိုလ်လို့ သုံးမျိုးရှိတဲ့အကြောင်း ဝိသုဒ္ဓိမဂ်မှာ ညွှန်ပြထားပါတယ်။ နာမည်ကြီးချင်လို့၊ သူများအထင်ကြီးစေချင်လို့ ပြုတဲ့ ကုသိုလ်နဲ့ ဂုဏ်တုဂုဏ်ပြိုင်အနေနဲ့လုပ်တဲ့ ကုသိုလ်တွေဟာ 'အညံ့စား ကုသိုလ်' ဖြစ်ပါတယ်။ နောက်တစ်မျိုးက 'ဒီကုသိုလ်ကြောင့် ဘဝ သံသရာမှာ သိကြားမင်း ဖြစ်ပါရစေ၊ လူမင်း ဖြစ်ပါရစေ၊ သူဌေး သူကြွယ် ဖြစ်ပါရစေ၊ ရုပ်ရည်လှပသူ ဖြစ်ပါရစေ' စသဖြင့် လောကီ အကျိုးကို မျှော်ကိုးတောင့်တပြီး လုပ်တဲ့ ကုသိုလ်မျိုးပါ။ ဒီလိုမျိုး ကုသိုလ်ကတော့ 'အလတ်စား ကုသိုလ်' အဆင့်ပဲ ရှိပါသေးတယ်။

'သူတော်ကောင်းမှန်ရင် ကုသိုလ်ကို မဖြစ်မနေ လုပ်ရတယ်၊ ကုသိုလ်ဆိုတာ သူတော်ကောင်းတွေမှသာ လုပ်နိုင်တာ' ဆိုတဲ့ ခံယူ ချက်နဲ့ လုပ်တဲ့ ကုသိုလ်ရယ်၊ 'ဒီကုသိုလ်ဟာ မဂ်၊ ဖိုလ်၊ နိဗ္ဗာန် အတွက် အထောက်အပံ့ ဖြစ်ပါစေ' ဆိုတဲ့ ရည်ရွယ်ချက်နဲ့လုပ်တဲ့ ကုသိုလ်ရယ်၊ ဒီလိုမျိုးကုသိုလ်တွေကိုတော့ 'အဆင့်မြင့်ကုသိုလ်' လို့ ခေါ်ပါတယ်။ 'ပါရမီမြောက်တဲ့ကုသိုလ်' လို့လည်း ခေါ်ပါတယ်။

အလောင်းတော် တော်တော်များများဟာ ပါရမီဖြည့်စဉ်ဘဝ တွေမှာ အဆင့်မြင့်ကုသိုလ်တွေ ပြုလုပ်ခဲ့ကြတာ များပါတယ်။ ဒါပေမဲ့ တစ်ခါတလေမှာတော့ အလတ်စားကုသိုလ်တွေပါ ပြုလုပ်မိကြတာ လည်း တွေ့ရပါတယ်။

အခု ကြည့်ညိုရမယ့် ဥပ္ပလဝဏ်ထေရီမရဲ့ ဘဝဖြစ်ရပ် အတ္ထုပ္ပတ်မှာ အဲဒီလို အလတ်စား ကုသိုလ်တွေ ပါဝင်နေခဲ့ပါတယ်။ 'အကောင်းနဲ့အဆိုးဟာ ဒွန်တွဲနေတယ်' ဆိုတာလို 'ရုပ်ရည်ချောမော လှပသူ ဖြစ်ပါရစေ' ဆိုတဲ့ ရည်ရွယ်ချက်နဲ့ လုပ်တဲ့ ကုသိုလ်တွေကြောင့် ဆုတောင်းတဲ့အတိုင်း ရုပ်လှတဲ့သူ ဖြစ်ခဲ့တယ်။ ဒါပေမဲ့ ဒီရုပ်ရည် လှပမှုကို အကြောင်းပြုပြီး ကောင်းတဲ့ အကျိုးတွေ ရသလို စိတ် အနှောင့်အယှက် ဖြစ်စရာ ဆိုးကျိုးတွေလည်း ကြုံတွေ့ခဲ့ရပါတယ်။

ဒါတင်မက လှူဒါန်း ပေးကမ်းထားတဲ့ ပစ္စည်းကို စိတ်မပြတ်သားဘဲ ပြန်ယူမိလို့ ကံအကျိုးပေး မဖြောင့်တာကိုလည်း သံဝေဂယူစရာအဖြစ် တွေ့ရမှာ ဖြစ်ပါတယ်။

ဒါပေမဲ့ အဆင့်မြင့် ကုသိုလ်တွေ အားကောင်းခဲ့တာမို့ နောက်ဆုံးတော့ ဥပ္ပလဝဏ်ထေရီမဟာ တန်ခိုးအဘိညာဉ်အရာ အသာဆုံး ဧတဒဂ်ရ ရဟန္တာအဖြစ်နဲ့ ကျွတ်တမ်းဝင်ခဲ့ပါတယ်။ ထေရီမရဲ့ အားကျဖွယ်၊ ကြည်ညိုဖွယ်ရာ ဂုဏ်ရည်တွေကို ကြည်ညို ကြည့်ကြပါစို့။

## (က) ထေရီမရဲ့ နာမည်နဲ့ ဧတဒဂ်အဓိပ္ပာယ်

အမျိုးသမီး ဘိက္ခုနီရဟန်းမတွေထဲမှာ တန်ခိုးအရာ အသာဆုံး ဧတဒဂ်ရတဲ့ ထေရီမကတော့ ဥပ္ပလဝဏ္ဏာထေရီမ ဖြစ်ပါတယ်။ ထေရီမရဲ့ ကိုယ်ရေအသားရောင်အဆင်းက ကြာညိုပန်းရဲ့ အတွင်းသား အရောင်အဆင်းနဲ့တူတာမို့ 'ဥပ္ပလဝဏ္ဏာ' ထေရီလို့ အမည်တွင်ခဲ့သူပါ။

## (ခ) ရှေးအတိတ်ဘဝ ပါရမီနဲ့ဆုတောင်း

ဥပ္ပလဝဏ်ထေရီမ အလောင်းတော်ဟာ ပဒုမုတ္တရ ဘုရားရှင်လက်ထက်တော်အခါက ဟံသာဝတီ မင်းနေပြည်တော်မှာရှိတဲ့ ပြည့်စုံကြွယ်ဝတဲ့ အမျိုးမှာ သူဌေးသမီး ဖြစ်ခဲ့ပါတယ်။ အရွယ်ရောက်တဲ့အခါ မြို့သူမြို့သားတွေနဲ့အတူ မြတ်စွာဘုရားထံ သွားရောက်ပြီး တရားတော် နာယူခဲ့ပါတယ်။ ဒီတရားပွဲမှာ မြတ်စွာဘုရားက ဘိက္ခုနီရဟန်းမတစ်ပါးကို တန်ခိုးအရာ အသာဆုံး ဧတဒဂ်ဘွဲ့ထူးနဲ့ ချီးမြှောက်ခဲ့တယ်။ ဒီလိုချီးမြှောက်တာကို တွေ့မြင်လိုက်ရတဲ့အခါ သူဌေးသမီးလည်း အားကျစိတ်တွေ ဖြစ်လာတဲ့အတွက် ဘုရားအမှူးရှိတဲ့ သံဃာတော်တွေကို ပင့်ဖိတ်ပြီး အလှူကြီးပေးလှူကာ ဒီရဟန်းမရတဲ့ ဧတဒဂ်မျိုး ရလိုပါကြောင်း ဆုပန်ခဲ့ပါတယ်။

## ကြာညိုပန်းနဲ့ ဆွမ်းလှူဒါန်းပြီး ဆုတောင်း

သူဌေးသမီးလည်း တစ်သက်လုံး ကုသိုလ်ကောင်းမှုတွေ ပြုလုပ်ခဲ့ပြီး ကွယ်လွန်တဲ့အခါ တာဝတိံသာနတ်ပြည်ရောက်၊ နတ်ပြည်ကနေ စုတေပြန်တော့ လူ့ပြည်မှာ တစ်ခါ လူလာဖြစ်ခဲ့ပြီး အဲဒီဘဝမှာ ပစ္စေကဗုဒ္ဓါတစ်ဆူကို ကြာညိုပန်းနဲ့အတူ ဆွမ်းလောင်းလှူခဲ့ပါတယ်။

ထေရီမအလောင်းတော်ဟာ ဝိပဿီမြတ်စွာဘုရားလက်ထက်မှာတော့ ဗာရာဏသီပြည်မှာ သူဌေးသမီး ဖြစ်ခဲ့ပြန်ပါတယ်။ ဝိပဿီမြတ်စွာဘုရားနဲ့အတူ သံဃာတော်တွေကို ပင့်ဖိတ်ပြီး မဟာဒါနအလှူကြီး ပေးလှူ၊ မြတ်စွာဘုရားကိုတော့ ကြာညိုပန်းတွေနဲ့ပါ ပူဇော်ပြီး စိတ်ထဲကနေ ကြာညိုပန်းလို လှပတဲ့အဆင်းရှိသူ ဖြစ်ပါရစေလို့ ဆုတောင်းခဲ့တယ်။

## ကိကီမင်းကြီးရဲ့ သမီးတော်ဘဝ

သူဌေးသမီးဟာ အဲဒီ ဘဝမှာလည်း အသက်ထက်ဆုံး ကုသိုလ်ကောင်းမှုတွေ ပြုလုပ်ခဲ့ပြီး နတ်ပြည်၊ လူ့ပြည်တွေမှာ ကျင်လည်ခဲ့ရတယ်။ ဒီ ဘဒ္ဒကမ္ဘာရောက်လို့ ကဿပမြတ်စွာဘုရား ပွင့်တော်မူတဲ့အခါမှာတော့ ကိကီမင်းကြီးရဲ့ သမီးတော် ဖြစ်ခဲ့ပါတယ်။ ကိကီမင်းကြီးမှာ သမီးတော် ခုနစ်ယောက် ရှိတဲ့အနက် ဒုတိယအကြီးဆုံး သမီးတော် သမဏဂုတ္တာမင်းသမီး ဖြစ်ခဲ့တာပါ။ သမီးတော်ခုနစ်ယောက်စလုံး ဘိက္ခုနီရဟန်းမ ဝတ်ချင်ကြပေမယ့် ကိကီမင်းကြီးက ခွင့်မပြုတာနဲ့ အပျိုစင်ဘဝနဲ့ပဲ ကောမာရီ ဗြဟ္မစရိယအကျင့်ကို အနှစ်နှစ်သောင်းတိုင်တိုင် မပျင်းမရိ ကျင့်ခဲ့ကြတယ်။

ဒါ့အပြင် သံဃာတော်တွေ သီတင်းသုံးဖို့ ကျောင်းတိုက်ကြီး ဆောက်လုပ်လှူဒါန်းခဲ့ပြီး ကွယ်လွန်တဲ့ အခါမှာတော့ နတ်ပြည်မှာ ဖြစ်ခဲ့ပြန်ပါတယ်။

## ဥမ္မာဒန္တီ သူဌေးသမီးဘဝ

ဉပ္ပလဝဏ်ထေရီမအလောင်း နတ်သမီးဟာ နတ်ပြည်ကနေ စုတေကွယ်လွန်ပြီးတဲ့နောက် လူ့ပြည်မှာ အမျိုးကောင်းသမီး ဖြစ်ခဲ့ပြန်တယ်။ အဲဒီဘဝမှာ ရဟန္တာမထေရ် တစ်ပါးကို သင်္ကန်းချုပ်ဝတ်ဖို့အတွက် ရွှေရောင်အဆင်းလို ဝင်းဝါပြီး အသားအလွန်နူးညံ့တဲ့ အဝတ်ပိုင်းစ တစ်ထည် လှူဒါန်းခဲ့ပါတယ်။ ဒီကုသိုလ်ကြောင့် အဲဒီဘဝကနေကွယ်လွန်တဲ့အခါ သိဝိတိုင်း အရိဋ္ဌပုရပြည်မှာ တိရိဋိဝစ္ဆလို့ ခေါ်တဲ့ သူဌေးပုဏ္ဏားကြီးရဲ့သမီး ဥမ္မာဒန္တီ ဖြစ်ခဲ့ပါတယ်။ ဥမ္မာဒန္တီဟာ ရုပ်ရည်အဆင်း အလွန်လှပတင့်တယ်ပြီး ယောကျ်ားတကာရဲ့ စိတ်ကို ဆွဲဆောင်နိုင်တဲ့ အလှပိုင်ရှင် တစ်ဦးပါ။ (ဥမ္မာဒန္တီရဲ့ အကြောင်းကို ၅၅၀ ဇာတ်တော်၊ ဥမ္မာဒန္တီဇာတ်တော်မှာ ကြည့်ရှုနိုင်ပါတယ်။)

## လယ်သူမဘဝ

ဉပ္ပလဝဏ်ထေရီမအလောင်းအလျာဟာ ဥမ္မာဒန္တီဘဝကနေ ကွယ်လွန်တဲ့အခါ ရွာငယ်လေးတစ်ရွာမှာ လယ်သမားသမီး ဖြစ်ခဲ့ပါတယ်။ ဒီသူငယ်မဟာ တစ်နေ့မှာတော့ မနက်စောစောထပြီး လယ်တဲကို အသွား လမ်းမှာရှိတဲ့ ရေအိုင်ထဲမှာ ကြာပန်းတွေ အစီအရီ ပွင့်နေတာ တွေ့လို့ ကြာပန်းတွေရော ကြာရွက်တွေပါ ခူးလိုက်တယ်။ နောက်ပြီး သလေးစပါးနှံတွေပါ ခူး၊ လယ်စောင့်တဲမှာ သွားပြီး ပေါက်ပေါက်ဖြစ်အောင် လှော်၊ ကြာရွက်ထဲမှာထည့်၊ ကြာရွက်ထဲမှာ ထည့်ထားတဲ့ ပေါက်ပေါက်ပွင့်တွေ ငါးရာ ပြည့်၊ မပြည့် ထိုင်ရေတွက်နေခဲ့တယ်။

အဲဒီအချိန်မှာ ဂန္ဓမာဒနတောင်မှာ သီတင်းသုံးတဲ့ ပစ္စေကဗုဒ္ဓါ အရှင်မြတ်တစ်ပါးဟာ နိရောဓသမာပတ် ဝင်စားရာကနေ ထပြီး ကောင်းကင်ခရီးနဲ့ ကြွလာရင်း ဒီသူငယ်မရှိရာ လယ်တဲနားမှာ ဆွမ်းခံရပ်တော်မူခဲ့ပါတယ်။ သူငယ်မလည်း အရှင်ပစ္စကဗုဒ္ဓါကို ကြည်ညိုပြီး

ပေါက်ပေါက်ပွင့်တွေ သပိတ်ထဲ လောင်းထည့်၊ သပိတ်ပေါ်မှာ ကြာပန်းတွေတင်ပြီး လှူဒါန်းခဲ့ပါတယ်။

## လှူစဉ်ကာလ စေတနာ မပြတ်သားပုံ

ဒီနောက် ပစ္စေကဗုဒ္ဓါ အရှင်မြတ် ကြွသွားပြီးလို့ ခဏနေတဲ့အခါ ဒီသူငယ်မက 'ရဟန်းတွေ ဆိုတာ ပန်းကို အလိုမရှိကြဘူး၊ ပန်းတွေ ငါပြန်ယူပြီး ပန်ရရင် ကောင်းမယ်' ဆိုတဲ့ အတွေး ဝင်လာတယ်။ ဒါနဲ့ ပစ္စေကဗုဒ္ဓါ အရှင်မြတ်ရဲ့ သပိတ်ပေါ် လောင်းလှူထားတဲ့ ကြာပန်းတွေကို သွားပြီး ပြန်ယူလိုက်တယ်။ ပြီးမှ 'ဟာ မဟုတ်သေးပါဘူး၊ အရှင်မြတ်က ပန်းမလိုချင်ဘူးဆိုရင် သပိတ်ပေါ် တင်ခွင့်ကို ပေးမှာ မဟုတ်ဘူး၊ ခု ဘာမှ မပြောပုံထောက်တော့ အရှင်မြတ် အလိုရှိလို့ ဖြစ်မှာပါလေ' ဆိုတဲ့ အတွေး ပြန်ဝင်လာတဲ့အတွက် ကြာပန်းတွေကို အရှင်မြတ်ရဲ့ သပိတ်ပေါ်မှာ ပြန်တင်လှူလိုက်ပါတယ်။

နောက်ပြီး ပစ္စေကဗုဒ္ဓါ အရှင်မြတ်ကို တောင်းပန်ကန်တော့ပြီး "အရှင်ဘုရား··· ဒီပေါက်ပေါက်ပွင့်တွေ လှူဒါန်းရတဲ့ ကုသိုလ်ရဲ့ အကျိုးအာနိသင်ကြောင့် တပည့်တော်မမှာ ပေါက်ပေါက်ပွင့် အရေအတွက်နဲ့အတူ သားငါးရာ ရရပါစေသား၊ ပဒုမ္မာကြာပန်း လှူဒါန်းရတဲ့အတွက်ကြောင့် ဖြစ်လေရာရာ ဘဝတိုင်း ဘဝတိုင်း တပည့်တော်မရဲ့ ခြေလှမ်းတိုင်း ခြေလှမ်းတိုင်းမှာ ပဒုမ္မာကြာပန်းတွေ အံ့မခန်း မြေကြီးထဲကနေ ပေါ်ထွက်လာပါစေသား" လို့ ဆုတောင်းခဲ့ပါတယ်။

ပစ္စေကဗုဒ္ဓါ အရှင်မြတ်ဟာ ဒီသူငယ်မ ကြည့်နေတုန်းမှာပဲ ကောင်းကင်ခရီးနဲ့ ဂန္ဓမာဒနတောင်ဆီ ပြန်ကြွသွားပြီး သူငယ်မ လောင်းလှူလိုက်တဲ့ ကြာပန်းတွေကို နန္ဒမူလိုဏ်ဂူက ပစ္စေကဗုဒ္ဓါ အရှင်မြတ်တွေ နင်းကြွတဲ့ လှေကားရင်းမှာ ခြေသုတ်ပမာ ခင်းထား တော်မူခဲ့ပါတယ်။

## ပဒုမဝတီ မိဖုရားဘဝ

ဥပ္ပလဝဏ်ထေရီအလောင်း သူငယ်မဟာ ဒီကုသိုလ်ကံကြောင့်ပဲ နတ်ပြည်မှာ ဖြစ်ခဲ့ပြီး၊ ခြေလှမ်းလိုက်တိုင်း လှမ်းလိုက်တိုင်း ခြေဖဝါးအောက်ကနေ ပဒုမ္မာကြာပန်းပွင့်တွေ ထွက်လာခဲ့ပါတယ်။ နတ်ပြည်ကနေ စုတေကွယ်လွန်တဲ့အခါမှာတော့ လူ့ပြည်မှာ ပဒုမ္မာကြာတွေရှိတဲ့ ရေကန်ထဲက ပဒုမ္မာကြာငုံကြီး တစ်ငုံထဲမှာ ထူးဆန်းစွာပဲ ပဋိသန္ဓေ တည်နေခဲ့ပါတယ်။ သံသေဒဇပဋိသန္ဓေလို့ ခေါ်ပါတယ်။ တစ်နေ့မှာတော့ အဲဒီရေကန်ကြီးနားမှာနေတဲ့ ရသေ့ဟာ ရေကန်ထဲဆင်းပြီး မျက်နှာသစ်နေရင်း တခြား ကြာဖူးတွေထက် ထူးထူးခြားခြားကြီးနေတဲ့ ကြာဖူးကို တွေ့လိုက်လို့ ဒီကြာဖူးကြီးကို ခူးလိုက်တယ်။

ဒီအခါ ရသေ့ဟာ ကြာဖူးထဲမှာ အိပ်နေတဲ့ကလေးမလေးကို တွေ့လိုက်ရပြီး၊ တွေ့လိုက်တာနဲ့ သမီးရင်းပမာ မေတ္တာစိတ်တွေ ဖြစ်ပေါ်လာတယ်။ ဒါနဲ့ သင်္ခမ်းကျောင်းထဲ ယူလာပြီး မွေးမြူစောင့်ရှောက်ခဲ့တယ်။ ကလေးမလေးရဲ့ ကုသိုလ်ကံကြောင့် ရသေ့ရဲ့ လက်မကနေ နို့တွေ ပန်းထွက်လာခဲ့တယ်။ ဒီလိုနဲ့ ကလေးမလေး သွားနိုင်လာနိုင်တဲ့အရွယ် ရောက်ချိန်ကစလို့ ခြေလှမ်းတိုင်း ခြေလှမ်းတိုင်းမှာ မြေကြီးကနေ ပဒုမ္မာကြာပန်းတွေ ထွက်လာပြီး ခြေထောက်ကို ခံထားပေးတယ်။ ရုပ်ရည်အဆင်းကလည်း အလွန်လှပတာမို့ လူလည်းမက နတ်လည်းမမီ အလှပိုင်ရှင် ဖြစ်ခဲ့ပါတယ်။ ပဒုမ္မာကြာဖူးထဲကနေ မွေးလာသူဖြစ်တာမို့ ရှင်ရသေ့က 'ပဒုမဝတီ'လို့ နာမည် မှည့်ခေါ်ခဲ့တယ်။ ပဒုမဝတီဟာ ဖခင်ရှင်ရသေ့ တောထဲ သစ်သီးရှာ သွားနေတဲ့အခါ ကျောင်းသင်္ခမ်းထဲမှာ တစ်ယောက်တည်း နေရစ်ခဲ့ရပါတယ်။

တစ်နေ့မှာတော့ တောမုဆိုးတစ်ယောက်ဟာ ရသေ့ကျောင်းနား ရောက်လာပြီး အလွန် ချောမောလှပတဲ့ ပဒုမဝတီကို အမှတ်မထင် တွေ့မြင်လိုက်ပါတယ်။ ဒါနဲ့ မုဆိုးဟာ အခြေအနေမှန် သိရအောင် မလှမ်းမကမ်း တစ်နေရာကနေ ပုန်းကွယ်ပြီး စောင့်ကြည့်

နေခဲ့တယ်။ အဲဒီအချိန်မှာ သစ်သီးရှာသွားတဲ့ ရှင်ရသေ့ ပြန်ရောက်လာတယ်။ ဒီအခါ ပဒုမဝတီက စောင့်ကြိုပြီး သစ်သီးတွေ နေရာတကျ ထား၊ ဖခင်ရှင်ရသေ့ အပေါ်မှာ ပြုရမယ့် ဝတ္တရားတွေကို ပြုစုပေးပါတယ်။ မုဆိုးလည်း ပဒုမဝတီဟာ လူသားစစ်စစ် ဖြစ်ကြောင်း သိလိုက်တယ်၊ ဒီနောက်မှာတော့ ရသေ့သခ်မ်းကျောင်းနေရာကို မှတ်မိနိုင်ဖို့ လမ်းတစ်လျှောက် အမှတ်အသားတွေ ပြုလုပ်မှတ်သားပြီး ဗာရာဏသီပြည်ကို ပြန်ခဲ့တယ်။

ဗာရာဏသီ ပြန်ရောက်တဲ့အခါ မုဆိုးဟာ နန်းတော်သွားပြီး တောထဲမှာ အမျိုးသမီးရတနာ တွေ့ခဲ့ပါကြောင်း မင်းကြီးထံ သံတော်ဦးတင်ခဲ့ပါတယ်။ ဒီအခါ မင်းကြီးဟာ မုဆိုးနဲ့အတူ သက်တော်စောင့်တွေပါ ခေါ်ပြီး ရသေ့ကြီးထံ သွား၊ ပဒုမဝတီကို တောင်းရမ်းပြီး နန်းတော်ကို ခေါ်လာခဲ့ကာ မိဖုရားအဖြစ် တင်မြှောက်ခဲ့ပါတယ်။ ဗာရာဏသီမင်းကြီးဟာ ရုပ်ရည် အလွန် ချောမောလှပတဲ့ ပဒုမဝတီမိဖုရားကို ချစ်မြတ်နိုးလွန်းတာမို့ ပဒုမဝတီမိဖုရားနဲ့ပဲ ပျော်ပိုက်ပြီးနေပါတော့တယ်။ ဒီအခါ ကျန်တဲ့ မိဖုရားတွေက မနာလို ဝန်တိုမှုတွေ ဖြစ်လာကြပြီး မင်းကြီးကို "အရှင်မင်းကြီး··· ဒီ ပဒုမဝတီဟာ လူသားအစစ် မဟုတ်ပါ၊ အရှင်မင်းကြီးအနေနဲ့ ဘယ်မှာများ လူတွေရဲ့ ခြေထောက်အောက်မှာ ပဒုမ္မာကြာပန်းတွေ ထူးထူးဆန်းဆန်း မြေကြီးထဲကနေ ထွက်လာတယ်လို့ တွေ့ဖူးပါသလဲ၊ တကယ်တော့ ပဒုမဝတီဟာ ဘီလူးမသာ ဖြစ်ပါတယ်၊ ဒါကြောင့် နန်းတော်ကနေ အမြန်နှင်ထုတ်တော်မူပါ အရှင်မင်းကြီး" လို့ ကုန်းတိုက်စကား လျှောက်ထားကြတယ်။ ဒါပေမဲ့ ဗာရာဏသီမင်းကြီးက ဒီကုန်းတိုက် စကားတွေကို မယုံခဲ့ပါဘူး။

နောက်ပိုင်းကာလ တစ်ချိန်မှာ ဗာရာဏသီမင်းကြီးဟာ တိုင်းပြည်နယ်စပ်ဒေသမှာ သူပုန်ထကြွ ပုန်ကန်တဲ့အတွက် သူပုန်နှိမ်နင်းဖို့ စစ်တပ်နဲ့ ထွက်သွားခဲ့ရပါတယ်။ ကိုယ်ဝန်ရှိနေတာကြောင့်

ပဒုမဝတီမိဖုရားကို နန်းတော်မှာပဲ ထားခဲ့ရတယ်။ ဒီအခါ အကွက်ချောင်းနေတဲ့ အခြားမိဖုရားတွေဟာ ပဒုမဝတီမိဖုရားရဲ့ အထိန်းတော်ကို တံစိုးလက်ဆောင်ပေးပြီး ''ဒီပဒုမဝတီမိဖုရား ကလေးဖွားမြင်ရင် ကလေးကို ဖွက်ထားပါ၊ ပြီးတော့ သစ်သားတုံးကို သွေးလိမ်းကျံပြီး အနားမှာ ထားပေးလိုက်ပါ''လို့ ခိုင်းခဲ့ကြတယ်။

## ပဒုမဝတီမိဖုရား သား ၅၀၀ ဖွားမြင်

ပဒုမဝတီမိဖုရားလည်း မကြာခင်မှာပဲ ကလေးဖွားမြင်ခဲ့ပါတယ်။ မဟာပဒုမမင်းသားလေး တစ်ယောက်ပဲ မိဖုရားဝမ်းတိုက်မှာ သန္ဓေတည်ပြီး ဖွားမြင်ခဲ့တာပါ။ ဒါပေမဲ့ မိဖုရားရဲ့ အတိတ် ဆုတောင်းကြောင့် မဟာပဒုမမင်းသားလေး ဖွားပြီးတဲ့အခါ ကျန်တဲ့ကလေး ၄၉၉ ယောက်က သွေးမှာသန္ဓေတည်ပြီး သံသေဒဇသတ္တဝါအနေနဲ့ ဖြစ်လာခဲ့ကြတယ်။ ဒီအခါ အထိန်းတော်ဟာ ပဒုမဝတီမိဖုရား သတိပြန်မလည်သေးခင်မှာပဲ သစ်သားတုံးတစ်တုံးကို သွေးတွေနဲ့ လိမ်းကျံပြီး မိဖုရားအနားမှာ ထားလိုက်တယ်။ ပြီးတဲ့အခါ အခြားမိဖုရားတွေကိုလည်း ပဒုမဝတီမိဖုရား သားဖွားမြင်ပြီ ဆိုတဲ့အကြောင်း အသိပေးလိုက်တယ်။ ဒီအခါ အခြားမိဖုရားမောင်းမ ငါးရာဟာ မင်းသားလေး တစ်ယောက်စီ ယူသွားကြပြီး၊ ကြုတ်အလုံး ၅၀၀ မှာယူ၊ မင်းသားတစ်ယောက်ကို ကြုတ်တစ်လုံးစီမှာ ထည့်ပြီး ဝှက်ထားကြတယ်။

## လှူစဉ်က စေတနာ မပြတ်သားလို့ အကျိုးပေး မဖြောင့်

ပဒုမဝတီမိဖုရား သတိရလာတဲ့အခါ သူ့သားလေး ဘယ်မှာလဲလို့ မေးခဲ့ပါတယ်။ ဒီအခါ အထိန်းတော်က ခြိမ်းခြောက်စူအောင့်ပြီး ''အရှင်မိဖုရား အဘယ်မှာ သားဖွားလို့လဲ''လို့ ပြောဆိုခဲ့တယ်၊ ပြီးမှ

“သင်မိဖုရား ဖွားမြင်ခဲ့တာ ဒါကြီးပဲ” ဆိုပြီး သူစီမံထားတဲ့ သွေးတွေ ပေကျံနေတဲ့ သစ်သားတုံးကို မိဖုရားရှေ့မှာ ချထားလိုက်တယ်။ ပဒုမဝတီမိဖုရားဟာ သစ်သားတုံးကို မြင်ပြီး စိတ်မကောင်း ဖြစ်ကာ “ဒီသစ်သားတုံးကို အမြန်ဆုံး ဖယ်ရှားပြီး ခွဲပစ်လိုက်ပါ၊ တစ်ယောက်ယောက် တွေ့သွားရင် ရှက်စရာကြီး” လို့ မချိတင်ကဲ ပြောလိုက်တယ်။ အထိန်းတော်လည်း မိဖုရားရဲ့ အကျိုးကို လိုလားတဲ့ သူလို ဟန်ဆောင်၊ အဲဒီသစ်သားတုံးကို အစိတ်စိတ်အမြွှာမြွှာ ခွဲပြီး မီးဖိုထဲ ထည့်လိုက်တယ်။

ဗာရာဏသီမင်းကြီးလည်း သူပုန်နှိမ်နင်းပြီးလို့ နယ်စပ်ဒေသကနေ ပြန်လာပြီး နက္ခတ် အချိန်ကောင်း စောင့်ဆိုင်းတဲ့အနေနဲ့ မြို့ပြင်ဘက်မှာ ယာယီတဲနန်းထိုးပြီး စံမြန်းနေခဲ့ပါတယ်။ ဒီအခါ အခြားမိဖုရားမောင်းမတွေဟာ ခရီးဦးကြိုဆိုတဲ့အနေနဲ့ မင်းကြီးထံ သွားရောက်ခဲ့ကြပြီး “အရှင်မင်းကြီး... အရှင်မင်းကြီးဟာ အကျွန်ုပ်တို့ရဲ့ စကားဆို မယုံကြည်ခဲ့ဘူး၊ အလကား လျှောက်ပြောနေတယ်လို့ ထင်ခဲ့တယ်၊ ခုတော့ အရှင်မင်းကြီး မယုံရင် ပဒုမဝတီမိဖုရားရဲ့ အထိန်းတော်ကိုသာ ခေါ်ပြီး မေးကြည့်ပါတော့၊ သင်မင်းကြီး ချစ်မြတ်နိုးလှပါတယ်ဆိုတဲ့ ပဒုမဝတီမိဖုရားက သစ်သားတုံးကြီး မွေးခဲ့တယ်” လို့ ကုန်းချောစကား ပြောကြပြန်တယ်။

ဒီအခါ မင်းကြီးဟာ မစုံစမ်း မမေးမြန်းတော့ဘဲ ‘ပဒုမဝတီဟာ ဘီလူးမျိုး ဖြစ်လိမ့်မယ်’ လို့ အထင်လွဲပြီး နန်းတော်ကနေ ပဒုမဝတီမိဖုရားကို နှင်ထုတ်လိုက်ပါတော့တယ်။

ပဒုမဝတီမိဖုရားဟာ နန်းတော်ကနေ နှင်ထုတ်ခံရတာနဲ့ တစ်ပြိုင်နက် ပဒုမ္မာကြာပန်းတွေ ကွယ်ပျောက်သွားတယ်။ ရုပ်ရည်အဆင်းလည်း အကျည်းတန် မလှမပဖြစ်သွားတယ်။ နောက်ပြီး တစ်ယောက်တည်း ခိုကိုးရာမဲ့ ခြေဦးတည့်ရာ သွားနေခဲ့တယ်။ ဒီအခါ အမယ်အို

တစ်ဦးက တွေ့မြင်ပြီး သမီးတစ်ယောက်လို ချစ်ခင်သွားတယ်။ ဒါနဲ့ အမယ်အိုဟာ ပဒုမဝတီကို သူ့အိမ်ခေါ်ပြီး ကျွေးမွေး စောင့်ရှောက်ထားတယ်။

အဲဒီအချိန်မှာ အခြားမိဖုရားမောင်းမတွေဟာ မင်းကြီးထံသွားပြီး ''အရှင်မင်းကြီး… အရှင်မင်းကြီး စစ်တိုက်သွားနေတုန်း အကျွန်ုပ်တို့ဟာ ဂင်္ဂါမြစ်စောင့်နတ်ထံမှာ 'အကျွန်ုပ်တို့မင်းကြီး စစ်အောင်နိုင်ပြီး ပြန်လာခဲ့ရင် အသင်ဂင်္ဂါမြစ်စောင့်နတ်ကို လာရောက်ပူဇော်ပြီး ရေကစားမှု ပြုပါမယ်'လို့ ဆုတောင်းကတိပေးခဲ့ပါတယ်၊ ဒါကြောင့် အရှင်မင်းကြီး စစ်အောင်နိုင်လာတဲ့ အကြောင်းကို ဂင်္ဂါမြစ်စောင့်နတ်ဆီ သွားပြီး အသိပေးကြပါစို့''လို့ လျှောက်ထားခဲ့ကြတယ်။ ဒါနဲ့ မင်းကြီးလည်း မိဖုရားတွေ လျှောက်ထားချက်အရ ဝမ်းမြောက်ဝမ်းသာဖြစ်ပြီး ဂင်္ဂါမြစ်မှာ ရေကစားဖို့ သွားခဲ့ပါတယ်။

ဒီအခါ မိဖုရားမောင်းမတွေဟာ မင်းသားလေးတွေ ထည့်ထားပြီး ဖုက်ထားတဲ့ ကြုတ်လေးတွေကို ဆာရီဝတ်ရုံနဲ့ ကိုယ်စီဖုက်ယူလာကြပြီး ဂင်္ဂါမြစ်ဆိပ်ရောက်တဲ့အခါ ရေကစားဟန်ပြုရင်း မင်းကြီး မသိအောင် ရေထဲ မျှောလိုက်ကြတယ်။ ကြုတ် ၅၀၀ ဟာ ရေစီးထဲ မျောပါသွားပြီး အောက်ရေဆိပ် ရေအောက်မှာ ဖြန့်ကြက်ကာရံထားတဲ့ ပိုက်ကွန်မှာ ငြိတွယ်နေခဲ့ကြတယ်။ မင်းကြီး ရေကစားပြီးလို့ ကုန်းပေါ်ပြန်တက်လာတဲ့အခါ ပိုက်ကွန်ကို ချီမရုပ်သိမ်းကြတဲ့ အမှုထမ်းတွေက ကြုတ်တွေကို အထူးအဆန်း တွေ့ကြတာနဲ့ မင်းကြီးထံ ဆက်သခဲ့ကြတယ်။

မင်းကြီးလည်း ကြုတ်တွေကို ဖွင့်ခိုင်းပြီး ကြည့်လိုက်တဲ့အခါ ပထမဦးဆုံး မဟာပဒုမမင်းသားလေး ထည့်ထားတဲ့ ကြုတ်ကို ဖွင့်ခိုင်းမိလျက်သား ဖြစ်သွားတယ်။ တကယ်တော့ မင်းသား ၅၀၀ လုံးကို ကြုတ်တွေထဲ ထည့်တဲ့ နေ့မှာပဲ မင်းသားလေးတွေရဲ့ ကောင်းမှုကုသိုလ်တန်ခိုးကြောင့် လက်မလေးတွေကနေ နို့ရည်တွေ ယိုစီးလာလို့

မင်းသားလေးတွေဟာ အဲဒီ နို့ရည်နဲ့ အသက်ရှင်နေခဲ့ကြတာပါ။ သိကြားမင်းကလည်း ဗာရာဏသီမင်းကြီး အဖြစ်မှန်သိရှိစေဖို့အတွက် ကြုတ်တွေရဲ့ အတွင်းမှာ 'ဒီမင်းသားလေးတွေဟာ ပဒုမဝတီမိဖုရားမှ ဖွားမြင်တဲ့ ဗာရာဏသီမင်းကြီးရဲ့ သားတော်များ ဖြစ်တယ်။ ဒါပေမဲ့ ပဒုမဝတီမိဖုရားအပေါ် မနာလိုကြတဲ့ မိဖုရားမောင်းမတွေက မင်းသားတွေကို ကြုတ်တွေထဲ ထည့်ပြီး ရေထဲ မျှောလိုက်ကြတယ်။ ဗာရာဏသီမင်းကြီးဟာ ဒီအကြောင်းကို အမှန်အတိုင်း သိပါစေ' လို့ စာရေးထိုးစေခဲ့တယ်။

ကြုတ်တွေကို ဖွင့်လိုက်တာနဲ့ မင်းကြီးဟာ သိကြားမင်း ရေးထိုးခိုင်းထားတဲ့ စာတွေကို တွေ့ရပြီး အဖြစ်မှန်ကို သိခဲ့ရတယ်။ ဒီအခါ မင်းကြီးဟာ မဟာပဒုမမင်းသားလေးကို ကိုယ်တိုင်ပွေ့ချီပြီး မြို့တော်တွင်းနန်းတော်ဆီ အလျင်အမြန်ပဲ ပြန်ခဲ့တယ်။ နန်းတော် ပြန်ရောက်တဲ့အခါ မင်္ဂလာဆင်တော်ရဲ့လည်ပင်းမှာ အသပြာ ထောင် ထုပ်ကို ဖွဲ့ချည်ထားခိုင်းပြီး 'ပဒုမဝတီမိဖုရားကို တွေ့မြင်သတင်း ပေးနိုင်သူ ဒီ အသပြာထောင်ထုပ်ကို ယူစေ' လို့ မြို့တော်တွင်းမှာ စည်တီး ကြေညာစေပါတယ်။

အဲဒီလို စည်တီး ကြေညာသံကို ကြားရတာနဲ့ ပဒုမဝတီဟာ မိခင်အမယ်အိုကို မင်္ဂလာဆင်တော်ရဲ့ လည်ပင်းမှာ ချည်ထားတဲ့ အသပြာထောင်ထုပ်ကို သွားယူလိုက်ပါလို့ ပြောပါတယ်။ ဒါပေမဲ့ အမေအိုက မယူဝံ့ပါဘူး။ သုံးကြိမ်သုံးခါ ယူဖို့ရန် အထပ်ထပ်ပြောမှ အမယ်အိုက 'ဘယ်လိုပြောပြီး ယူရမလဲ သမီး' လို့ ပဒုမဝတီကို မေးပါတယ်။ 'အို မိခင်… ငါ့သမီးက ပဒုမဝတီမိဖုရားကို တွေ့ထား တယ်လို့ ပြောပြီး ယူလိုက်ပါ' လို့ ပဒုမဝတီက အမယ်အိုကို ပြန် ပြောလိုက်တယ်။ ဒီအခါ အမယ်အိုလည်း ပဒုမဝတီပြောတဲ့အတိုင်း ပြောပြီး ဆင်တော်ရဲ့ လည်ပင်းက အသပြာထောင်ထုပ်ကို သွား ယူပါတယ်။

ဒီအခါ မင်းမှုထမ်းတွေဟာ အမယ်အိုနောက် လိုက်လာကြတယ်။ အိမ်ရောက်တဲ့အခါ ပဒုမဝတီ မိဖုရားကို တွေ့ပြီး မှတ်မိသွားကြတဲ့အတွက် မိဖုရားရဲ့ ခြေရင်းမှာ အကုန်လုံး ဝပ်စင်းပြီး အရိုအသေ ပေးကြတယ်။ အဲဒီအခါမှ အမယ်အိုလည်း ပဒုမဝတီကို မိဖုရားမှန်း သိသွားတယ်။ မင်းမှုထမ်းတွေလည်း ပဒုမဝတီမိဖုရားကို တွေ့ပြီဖြစ်ကြောင်း မင်းကြီးထံ သတင်းစကား ပြန်ကြားလျှောက်ထားကြတယ်။ မင်းကြီးက ရွှေထမ်းစင် ပို့ခိုင်းလိုက်ပါတယ်။ ပဒုမဝတီမိဖုရားက မထင်မရှားပုံစံနဲ့ နန်းတော်ကို ပြန်မလိုက်နိုင်ကြောင်း မိဖုရားအဆောင်အယောင်တွေနဲ့ မင်းခမ်းမင်းနားနဲ့ တခမ်းတနား စီစဉ်ပေးမှ ပြန်လိုက်နိုင်မယ်ဆိုတဲ့အကြောင်း မင်းကြီးထံ ပြန်လျှောက်ခိုင်းလိုက်တယ်။

မင်းကြီးလည်း ပဒုမဝတီမိဖုရား တောင်းဆိုတဲ့အတိုင်း ခမ်းနားသိုက်မြိုက်စွာ ပြင်ဆင်ပေးဖို့ အမှုထမ်းတွေကို စေခိုင်းလိုက်တယ်။ ပဒုမဝတီမိဖုရားဟာ အမယ်အိုအိမ်ကနေ နန်းတော်အထိ အဖိုးတန်အခင်းတွေ ခင်းထားပြီး အထက်ကလည်း ဆန်းကြယ်တဲ့ ပိတ်သားမျက်နှာကြက်တွေ မိုးထားတဲ့ မင်းလမ်းမအတိုင်း ခြေကျင်ပဲ နန်းတော်ကို ပြန်သွားခဲ့ပါတယ်။ ပဒုမဝတီမိဖုရား ခြေနဲ့ နင်းတဲ့ နေရာတိုင်း နေရာတိုင်းမှာ ပဒုမ္မာကြာပန်းတွေဟာ ခင်းထားတဲ့ အခင်းတွေကို ဖောက်ထွက်ပြီး အဆန်းတကြယ် ပေါ်ထွက်လာခဲ့ပါတယ်။ ဗာရာဏသီမြို့သူမြို့သားတွေလည်း ပဒုမဝတီမိဖုရားရဲ့ ကံအရှိန်ကြီးမားပုံ၊ စည်းစိမ်ဥစ္စာပြည့်စုံပုံတွေကို မျက်ဝါးထင်ထင် တွေ့မြင်ခဲ့ကြတယ်။ ရွှေနန်းတော် ပြန်ရောက်ပြီးတဲ့အခါ လမ်းတစ်လျှောက် ခင်းထားတဲ့ အဖိုးတန်အခင်းတွေအားလုံး အမယ်အိုကို ကျေးကျေးဇူးဆပ်တဲ့အနေနဲ့ ပေးခိုင်းလိုက်ပါတယ်။

နန်းတော်ပြန်ရောက်တဲ့အခါ မင်းကြီးက ပဒုမဝတီမိဖုရားကို ပြစ်မှားခဲ့ကြတဲ့ မိဖုရား မောင်းမ ငါးရာကို ပဒုမဝတီမိဖုရားထံ

ကျွန်အဖြစ် အပ်နှင်းခဲ့ပါတယ်။ ဒီအခါ ပဒုမဝတီမိဖုရားက အခုလို မိဖုရား မောင်းမ ငါးရာကို မင်းကြီးက အကျွန်ုပ်ရဲ့ ကျွန်အဖြစ်ပေးအပ်တဲ့ အကြောင်း တိုင်းသူပြည်သားတွေ သိအောင် စည်လည် မောင်းတီး ကြေညာပေးပါလို့ တောင်းဆိုခဲ့ပါတယ်။ မင်းကြီးလည်း ပဒုမဝတီမိဖုရားတောင်းဆိုတဲ့အတိုင်း စီမံပေးခဲ့ပါတယ်။ ဒီနောက်မှာတော့ ပဒုမဝတီမိဖုရားက သူ့အတွက် ကျွန်ပြုဖို့ ပေးထားတဲ့ မိဖုရားမောင်းမ ငါးရာကို ကျွန်အဖြစ်ကနေ လွှတ်ပေးပိုင်ခွင့် မင်းကြီးထံ တောင်းဆိုပြီး၊ စည်လည် ကြေညာခဲ့တဲ့ အမှုထမ်းတွေကိုပဲ တစ်ခါ "ပဒုမဝတီမိဖုရားက သူ့အတွက် ကျွန်ပြုဖို့ ပေးထားတဲ့ မိဖုရား မောင်းမ ငါးရာကို ကျွန်အဖြစ်ကနေ ကင်းလွတ်ခွင့်ပြုလိုက်ပါကြောင်း" စည်တီး မောင်းခတ် ကြေညာစေခဲ့ပြန်ပါတယ်။

ပဒုမဝတီမိဖုရားဟာ မိဖုရားမောင်းမ ငါးရာကို ကျွန်အဖြစ်ကနေ နုတ်ပယ်ပြီးနောက် မင်းသား ၄၉၉ ယောက်ကို အဲဒီ မိဖုရားမောင်းမတွေထံမှာ ပြုစုလုပ်ကျွေးဖို့ အပ်နှံလိုက်ပါတယ်။ သူကိုယ်တိုင်ကတော့ မဟာပဒုမမင်းသားကိုပဲ မွေးမြူထိန်းသိမ်း စောင့်ရှောက်ဖို့ ခေါ်ထားလိုက်ပါတယ်။

## မင်းသားငါးရာ ပစ္စေကဗုဒ္ဓါဖြစ်

မင်းသားငါးရာတို့ ၁၆ နှစ်အရွယ်ရောက်တဲ့အခါ မင်္ဂလာဥယျာဉ်မှာ ပျော်ပါးကစားကြဖို့ ထွက်ခဲ့ကြတယ်။ မင်းသားတွေဟာ ဥယျာဉ်မှာ ပျော်ပါးကစားရင်း ရေကန်ထဲမှာ ပဒုမ္မာကြာပန်းအသစ်တွေ ဝေဝေဆာဆာ ပွင့်နေပုံနဲ့ ပဒုမ္မာကြာပန်းအဟောင်းတွေ အညှာကနေ တဖြုတ်ဖြုတ် ကြွေကျနေပုံတွေကို သတိထားမိခဲ့ကြတယ်။ အတိတ်က အားထုတ်ခဲ့တဲ့ ပစ္စေကဗောဓိ ပါရမီကောင်းမှု အစွမ်းကြောင့် မင်းသားတွေရဲ့ အာရုံထဲမှာ **'သြော်··· သက်မဲ့ဖြစ်တဲ့ ဒီကြာပန်းတွေ**

**တောင် ညှိုးနွမ်းရင့်ကာ ကြွေကျပြီး ဇရာသဘော ရောက်ကြပါတကား၊ ငါတို့ရဲ့ သက်ရှိ ဒီခန္ဓာကိုယ်ကြီးလည်း အိုမင်းရင့်ရော်တဲ့ ဇရာဘေး ဘယ်မှာ မရောက်ဘဲရှိပါ့မလဲ၊ ကြာပန်းတွေ ညှိုးခွေပြီး ကြွေကျသလို ငါတို့ကိုယ်ခန္ဓာကြီးလည်း အိုမင်း ရင့်ရော်ပြီး မြေခ၊ ရမှာပါလား'** လို့ ကြာပန်းတွေကို မြင်ပြီး သံဝေဂဉာဏ်တွေ ထင်လာခဲ့တယ်။ ဒီနောက်မှာတော့ ဝိပဿနာဉာဏ်တွေ ထင်လာပြီး မဂ်ဉာဏ်လေးပါး ရရှိကာ ပစ္စေကဗုဒ္ဓါတွေ ဖြစ်ကုန်ကြပါတယ်။ ပစ္စေကဗုဒ္ဓါဖြစ်ကြပြီးတဲ့အခါ အရှင်မြတ်ငါးရာတို့ဟာ ကောင်းကင်ခရီးနဲ့ ပစ္စေကဗုဒ္ဓါ အရှင်မြတ်တွေ သီတင်းသုံးတဲ့ ဟိမဝန္တာက နန္ဒမူလိုဏ်ဂူဆီ ကြွသွားတော်မူကြပါတယ်။

## လက်လုပ်လက်စား ဆင်းရဲသားဘဝ

ပဒုမဝတီမိဖုရားလည်း သားများမိခင်အဖြစ်ကနေ သားမဲ့မိခင်ဖြစ်ခဲ့တာကြောင့် သောက ပရိဒေဝမီးတွေ တောက်လောင်ပြီး မကြာခင်မှာပဲ ကွယ်လွန်ခဲ့ပါတယ်။ ဒီနောက်မှာတော့ ရာဇဂြိုဟ်မြို့တံခါးအနီးမှာရှိတဲ့ ရွာငယ်လေး တစ်ရွာက လက်လုပ်လက်စား ဆင်းရဲသားမိသားစုအိမ်မှာ မွေးဖွားခဲ့ပါတယ်။ အရွယ်ရောက်တဲ့အခါ အိမ်ထောင်ကျခဲ့တယ်။ တစ်နေ့မှာတော့ လယ်လုပ်ငန်းလုပ်နေတဲ့ ခင်ပွန်းသည်ထံသွားပြီး ထမင်းပို့ပါတယ်။ အဲဒီအချိန်မှာ ပစ္စေကဗုဒ္ဓါ အရှင်မြတ်ရှစ်ပါးတို့ဟာ ကောင်းကင်ခရီးနဲ့ ကြွလာပြီး လယ်သမားဇနီးမောင်နှံရဲ့ မလှမ်းမကမ်း တစ်နေရာမှာ သက်ဆင်းကာ ဆွမ်းရပ်တော်မူကြပါတယ်။ လယ်သမားရဲ့ဇနီးဟာ ပစ္စေကဗုဒ္ဓါတွေကို မြင်ပြီး အတိတ်ဘဝက သားတော်ဖြစ်ကြတဲ့ ပစ္စေကဗုဒ္ဓါတွေကို သတိရသွားတယ်။ ဒီအခါ လယ်သမားရဲ့ဇနီးမှာ သားတွေ အပေါ်မှာ ချစ်တဲ့မေတ္တာစိတ်တွေကြောင့် နို့ရည်တွေ ပန်းထွက်ခဲ့တယ်။ ပြီးတော့ ကြည်ညိုသဒ္ဓါစိတ်နဲ့ သူစားမယ့် ထမင်း၊ ဟင်းတွေကို ပစ္စေကဗုဒ္ဓါ အရှင်မြတ်

ရှစ်ပါးတို့အား လောင်းလှူလိုက်ပြီး၊ နောက်နေ့မှာလည်း ဆွမ်းခံကြွပေးဖို့ ပင့်ဖိတ်ခဲ့ပါတယ်။

ဒီအခါ ပစ္စေကဗုဒ္ဓါ အရှင်မြတ် ရှစ်ပါးတို့ဟာ "ကောင်းပြီဒကာမ... သင်ရဲ့လှူဖွယ်ဝတ္ထုဟာ ရှစ်ပါးစာသာ ဖြစ်ပါစေ၊ ငါတို့အပြင် ကျန်တဲ့ပစ္စေကဗုဒ္ဓါတွေကိုပါ ဖူးမြင်ရရင် သင့်မှာ ကြည်ညိုသဒ္ဓါစိတ်တွေ ပိုဖြစ်ပါလိမ့်မယ်၊ လှူဖွယ်ဝတ္ထု မလောက်ငမှာ မပူပါနဲ့"လို့ မှာထားပြီး ပြန်ကြွသွားတော်မူခဲ့ကြတယ်။ တကယ်တော့ ပစ္စေကဗုဒ္ဓါ အရှင်မြတ်တွေက လယ်သမားရဲ့ဇနီးဟာ ဘဝဟောင်းက သူတို့ရဲ့ မယ်တော်ဆိုတာ သိတော်မူကြလို့ မယ်တော်ကို ချီးမြှောက်တဲ့အနေနဲ့ ကြွလာခဲ့ကြတာ ဖြစ်ပါတယ်။

နောက်တစ်နေ့မှာ ပစ္စေကဗုဒ္ဓါ အရှင်မြတ် ငါးရာလုံး ဆွမ်းခံကြွတော်မူခဲ့ကြတယ်။ မယ်တော်ဟောင်းဖြစ်တဲ့ လယ်သမားရဲ့ဇနီးဟာ ရှစ်ပါးစာအတွက် ပြင်ထားတဲ့ ဆွမ်း၊ ဆွမ်းဟင်းတွေကို အရှင်မြတ်ငါးရာလုံးအား အလိုရှိတိုင်း လောက်လောက်ငင လောင်းလှူနိုင်ခဲ့ပါတယ်။ ဒါကတော့ ပစ္စေကဗုဒ္ဓါ အရှင်မြတ်တွေရဲ့ တန်ခိုးတော်ကြောင့်ပါ။ ဆွမ်းလောင်းပြီးတဲ့အခါ ကြာညိုပန်း ရှစ်လက်ပါ လှူဒါန်းပြီး "အရှင်မြတ်တို့ဘုရား... ဖြစ်လေရာ ဘဝသံသရာမှာ တပည့်တော်မရဲ့ ကိုယ်ရေ အဆင်းဟာ ဒီကြာညိုပန်းရဲ့ အတွင်းသားအဆင်းလို ဖြစ်ပါစေသား"လို့ ဆုတောင်းလိုက်ပါတယ်။ ပစ္စေကဗုဒ္ဓါ အရှင်မြတ်တွေလည်း မယ်တော်ကို အနုမောဒနာစကား မိန့်ကြားပြီး ဂန္ဓမာဒနတောင်ကို ပြန်ကြွသွားတော်မူခဲ့ကြပါတယ်။

## (ဂ) နောက်ဆုံးဘဝ ရဟန္တာဖြစ်ပုံ

လယ်သမားဇနီးဟာ အဲဒီဘဝကနေ ကွယ်လွန်တဲ့အခါ နတ်ပြည်မှာ ဖြစ်ခဲ့ပြီး၊ နတ်ပြည်ကနေ စုတေတဲ့ အခါမှာတော့ နောက်ဆုံးဘဝအနေနဲ့ သာဝတ္ထိပြည်က သူဌေးမျိုးမှာ ဖြစ်ခဲ့ပါတယ်။

သူဌေးသမီးရဲ့ ကိုယ်ရေအဆင်းဟာ သူ့ဆုတောင်းအတိုင်း ကြာညိုပန်းရဲ့ အတွင်းသားအဆင်းနဲ့ တူတာမို့ 'ဥပ္ပလဝဏ္ဏာ' လို့ နာမည်မှည့်ခေါ်ခဲ့ကြတယ်။

ဥပ္ပလဝဏ္ဏာ သူဌေးသမီး အရွယ်ရောက်တဲ့အခါ သူမရဲ့ လှပတဲ့ ဂုဏ်သတင်းကြောင့် ဇမ္ဗူဒိပ် တစ်ကျွန်းလုံးမှာရှိတဲ့ မင်းတွေ၊ သူဌေးတွေအားလုံးက သူတို့နဲ့ လက်ထပ်ဖို့ ဖခင်သူဌေးကြီးထံ ကမ်းလှမ်းခဲ့ကြတယ်။ ဒီအခါ ဖခင်သူဌေးကြီးက 'ငါဟာ သမီးတစ်ယောက်တည်းနဲ့ လက်ထပ်ဖို့ တောင်းခံသူအားလုံးရဲ့ စိတ်ကို ကျေနပ်အောင် ဘယ်နည်းနဲ့မှ တတ်နိုင်မှာ မဟုတ်ဘူး၊ ဒီတော့ကာ ဥပါယ်တံမျဉ်နဲ့ သင့်တော်အောင် စီမံလိုက်တာပဲ ကောင်းပါတယ်'' လို့ တွေးပြီး သမီးကို ခေါ်လိုက်တယ်။ ပြီးတော့ ''သမီး… သင် ရဟန်းပြုနိုင်မလား'' လို့ မေးလိုက်တယ်။

ဒီအခါ ဥပ္ပလဝဏ္ဏာဟာ အတိတ်ပါရမီကောင်းမှု ရှိသူဖြစ်တာမို့ ဖခင်သူဌေးကြီး မေးလိုက်တဲ့စကား ကြားလိုက်ရရင်ပဲ အလွန်ဝမ်းမြောက်ဝမ်းသာ ဖြစ်ခဲ့ပြီး ရဟန်းပြုနိုင်တဲ့အကြောင်း အဖြေပေးလိုက်ပါတယ်။ ဖခင်သူဌေးကြီးလည်း သမီး ဥပ္ပလဝဏ္ဏာကို ကြီးကျယ်တဲ့ အခမ်းအနားနဲ့ ဘိက္ခုနီမ ကျောင်းတိုက်ကို ပို့ဆောင်ပြီး ဘိက္ခုနီရဟန်းမ ပြုစေခဲ့ပါတယ်။

## ဆီမီးတိုင်ကို ကြည့်ရင်း ရဟန္တာဖြစ်

ဥပ္ပလဝဏ္ဏာဟာ ဘိက္ခုနီရဟန်းမ ဝတ်ပြီး မကြာခင်မှာ ဥပုသ်ပြုရမယ့်နေ့ ရောက်လာခဲ့တယ်။ ဒီအခါ ဥပုသ်ကျောင်းဆောင် ဝေယျာဝစ္စလုပ်ဖို့ အလှည့်ကျတဲ့အတွက် ဥပ္ပလဝဏ္ဏာ ဘိက္ခုနီဟာ ဆီမီးညှိထွန်းပြီး တံမြက်လှည်းခဲ့တယ်။ ဒီတာဝန်တွေ ဆောင်ရွက်ရင်းက မီးညှိထွန်းထားတဲ့ ဆီမီးတိုင်ရဲ့ ဆီမီးညွန့်ကို ကြည့်ပြီး ကမ္မဋ္ဌာန်းအာရုံယူကာ တေဇောကသိုဏ်း ပွားလိုက်တယ်။ နောက်

တော့ ဈာန်တွေ ရခဲ့ပြီး ဈာန်ကို အရှုခံထားကာ ဝိပဿနာတရား အားထုတ်လိုက်တဲ့အတွက် မကြာခင်မှာပဲ အရဟတ္တဖိုလ်ရပြီး ရဟန္တာ ထေရီမ ဖြစ်ခဲ့ပါတယ်။ ရဟန္တာဖြစ်တာနဲ့ တစ်ပြိုင်နက် ရှေးဆုတောင်း အတိုင်း တန်ခိုးနဲ့ပတ်သက်တဲ့ ဈာန် အဘိညာဉ် သမာပတ်အရာမှာ ကျွမ်းကျင်နိုင်နင်းသူ ဖြစ်ခဲ့ပါတယ်။

## (ဃ) တန်ခိုးအရာ အသာဆုံး ဧတဒဂ်ရ

မြတ်စွာဘုရား ခုနစ်ဝါမြောက် ရောက်တဲ့အခါ တိတ္ထိတွေကို နှိမ်နင်းဖို့ ရေမီးအစုံ တန်ခိုးပြာဋိဟာ ပြတဲ့နေ့မှာ ဥပ္ပလဝဏ်ဏာ ရဟန္တာထေရီမက "မြတ်စွာဘုရား… တပည့်တော်မ တန်ခိုးပြာဋိဟာ ပြပါရစေဘုရား။ တပည့်တော်မဟာ ဆယ့်နှစ်ယူဇနာအတိုင်းအရှည်ရှိတဲ့ ပရိသတ်ကို ဖန်ဆင်း ယူဆောင်ပြီး၊ သုံးဆယ့်ခြောက်ယူဇနာ အဝန်း အဝိုင်းရှိတဲ့ စကြဝတေးမင်းရဲ့ ပရိသတ်တွေ ဝန်းရံကာ စကြဝတေးမင်း အသွင် ဖန်ဆင်းပြီး အရှင်ဘုရားထံ လာရောက် ရှိခိုးပါမည် ဘုရား" လို့ မကြောက်မရွံ့ ခြင်္သေ့ဟောက်သလို ရဲရဲတောက်စကား လျှောက်ထားခဲ့ ပါတယ်။ ဒါကို အကြောင်းပြုပြီး မြတ်စွာဘုရားရှင်က နောင်တစ်ချိန် ဇေတဝန်ကျောင်းတိုက် သံဃာ့အစည်းအဝေးမှာ ဥပ္ပလဝဏ်ဏာ ထေရီမ ကို အမျိုးသမီး ဘိက္ခုနီရဟန်းမတွေထဲမှာ တန်ခိုးအဘိညာဉ်အရာ အသာဆုံး ဧတဒဂ်နဲ့ ချီးမြှောက်တော်မူခဲ့ပါတယ်။

## (င) ထေရီမကို အကြောင်းပြုပြီး ဟောတဲ့တရား

ဥပ္ပလဝဏ်ဏာ ထေရီမ ရဟန္တာဖြစ်ပြီးတဲ့အခါ သာဝတ္ထိပြည် အနီးက အန္ဓဝန်တောထဲသွားပြီး တောရ ဆောက်တည်ပါတယ်။ အဲဒီအချိန်က ဘိက္ခုနီရဟန်းမတွေနဲ့ ပတ်သက်ပြီး 'တောကျောင်း မနေရ' ဆိုတဲ့ ဥပဒေ မပညတ်ရသေးပါဘူး။ တစ်နေ့တော့ ထေရီမ

သာဝတ္ထိမြို့ထဲ ဆွမ်းခံကြွပါတယ်။ အဲဒီလို ဆွမ်းခံကြွတာကို လူ့ဘဝကတည်းက ထေရီမကို တစ်ဖက်သတ် ကြိုက်နေတဲ့ နန္ဒလုလင်က မြင်တွေ့ခဲ့တယ်။ ဒီအခါ နန္ဒလုလင်ဟာ ထေရီမကို အဓမ္မပြုကျင့်ဖို့ အခွင့်ရပြီဆိုတဲ့ အတွေးနဲ့ ဆွမ်းခံ ပြန်မလာခင် သီတင်းသုံးတဲ့ ကျောင်းထဲကို အရင်သွားနှင့်ပြီး ခုတင်အောက် ဝင်ပုန်းနေလိုက်တယ်။ ထေရီမ ပြန်လာတဲ့အခါ နန္ဒလုလင်ဟာ မတော်မတရား ပြုကျင့်ပါတော့တယ်။ ထေရီမလည်း အားကုန်ရုန်းပြီး တားပါတယ်။ ဒါပေမဲ့ အားချင်းမမျှတော့ နန္ဒလုလင်ဟာ သူ့ရဲ့စိတ်အလိုဆန္ဒ ပြည့်အောင် ပြုကျင့်ခဲ့တယ်။ ပြီးမှကျောင်းကနေ ထွက်သွားတယ်။ ထေရီမ မမြင်လောက်ရာလည်း ရောက်ရော ပြစ်မှားတဲ့အတွက် နန္ဒလုလင် မြေမျိုခံရပါတော့တယ်။

ဒီအကြောင်းကို မြတ်စွာဘုရား သိတော်မူတဲ့အခါ -

**“ရဟန်းတို့... လောကမှာ မည်သည့် လူမိုက်မဆို မကောင်းမှု အကုသိုလ်တွေ ပြုရင် ချိုမြိန်တဲ့ ပျားရည်၊ သကြားစားရတဲ့သူလို ပျော်ပျော်ရွှင်ရွှင် တက်တက်ကြွကြွ လုပ်တတ်ကြတယ်။**

**ဒီလူမိုက်အတွက် သူပြုတဲ့အကုသိုလ်တွေ အကျိုးမပေးသေးခင်တော့ ပျားရည်လို၊ သကြားလို ချိုနေမှာပါ။**

**သူပြုတဲ့ အကုသိုလ်ကံတွေ အကျိုးပေးချိန်ရောက်လို့ မကောင်းကျိုး ပေးလာခဲ့ရင်တော့ ဒီနန္ဒလုလင်လို ဆင်းရဲဒုက္ခတွေကို ခါးသီးစွာ ခံစားရမှာ ဖြစ်တယ်”**

လို့ အဓိပ္ပာယ်ရတဲ့ ဂါထာတစ်ပုဒ်နဲ့ တရားဟောတော်မူခဲ့ပါတယ်။

ထေရီမရဲ့ ဒီဖြစ်ရပ်ကို အကြောင်းပြုပြီး မြတ်စွာဘုရားက ဘိက္ခုနီအမျိုးသမီး ရဟန်းမတွေ တောရကျောင်းမှာ နေရင် အန္တရာယ်များတဲ့အတွက် “တောကျောင်းမှာ မနေရ၊ မြို့တွင်း၊ ရွာတွင်း ကျောင်းတွေမှာပဲ နေရမယ်”ဆိုတဲ့ စည်းကမ်းကို သတ်မှတ်တော်မူခဲ့ပါတယ်။

ဒါတင်မက ထေရီမရဲ့ ဒီဖြစ်ရပ်ကို အကြောင်းပြုပြီးတော့ပဲ လူတွေက "ရဟန္တာတွေ ကာမဂုဏ် ခံစားသေးတယ်ထင်တယ်၊ ဟာ ဘယ်မခံစားဘဲ နေမှာလဲ၊ သူတို့မှာလည်း သွေးနဲ့ကိုယ်၊ သားနဲ့ ကိုယ်ပဲ၊ သွေးသားမရှိတဲ့ တုံး၊ တိုင်မှ မဟုတ်တာ" စသဖြင့် ထင်မြင် ယူဆချက်တွေ အမျိုးမျိုး ပြောခဲ့ကြတယ်။

ဒီအကြောင်းကို မြတ်စွာဘုရား သိတော်မူတဲ့အခါမှာလည်း-

**"ရဟန်းတို့… ရဟန္တာတွေဟာ ကာမချမ်းသာကို မသာယာကြတော့ပါ၊ ကာမဂုဏ်ကို မမှီဝဲတော့ပါ။**

**မှန်တယ်၊ ပဒုမ္မာကြာဖက်ပေါ် ကျတဲ့ ရေပေါက်ဟာ ကြာဖက်နဲ့ မငြိကပ်၊ မလိမ်းကျံဘဲ တစ်ခါတည်း လျှောကျသွားတော့တာပါ။ ဆောက်ဖျားပေါ်မှာ မုန်ညင်းစေ့လေး တင်လိုက်ရင် တင်ထားတဲ့အတိုင်း မတည်နိုင်ဘဲ တစ်ခါတည်း လျှောကျသွားတော့တာပါ။**

**ဒီဥပမာတွေလိုပဲ ရဟန္တာတွေရဲ့ သန္တာန်မှာ ကိလေသာ အညစ်အကြေးတွေ မကိန်းတော့ပါ၊ မတည်တော့ပါ"**

လို့ အဓိပ္ပာယ်ရတဲ့ ဂါထာတစ်ပုဒ်နဲ့ ရဟန္တာတွေ ကာမဂုဏ် မခံစားတတ်ပုံကို သိသာထင်ရှားအောင် ဟောပြတော်မူခဲ့ပါတယ်။

လောကလူသားတွေဟာ ပတ်ဝန်းကျင်ကို ကြည့်တဲ့အခါ စိတ်ခံအမျိုးမျိုးနဲ့ ကြည့်တတ်ကြပါတယ်။ ကြည့်တဲ့စိတ်ခံတွေ မတူတဲ့အတွက် ရလာတဲ့ ရလဒ်တွေကလည်း တစ်ယောက်နဲ့ တစ်ယောက် ကွဲပြား ခြားနားနေကြတာပါ။

တဏှာစိတ်ခံနဲ့ ကြည့်တဲ့သူတွေက အရာရာကို ချစ်ခင်တပ်မက်ဖွယ်ရာ၊ မက်မောစရာတွေအဖြစ် တွေ့ကြမှာပါ။ ဒေါသအခိုးစိတ်နဲ့ ကြည့်တဲ့သူတွေမှာတော့ အရာရာ မကျေနပ်စရာတွေချည်း ဖြစ်နေမှာ ဖြစ်ပြီး ဒိဋ္ဌိအမြင်စိတ် ရှိသူတွေမှာတော့ အရာရာ ကိုယ့်အတွက်ပဲ စဉ်းစားပြီး တစ်ကိုယ်ကောင်းဆန်တဲ့ အပြုအမူတွေ ဖြစ်နေမှာပါ။

မေတ္တာဓာတ်ခံ အားကြီးသူတွေက ပတ်ဝန်းကျင်ကို ချစ်ခင်လေးစားရတဲ့သူတွေအဖြစ် မြင်နေမှာ ဖြစ်ပြီး သနားစာနာ ကရုဏာဓာတ်ရှိသူတွေမှာတော့ အရာရာကို ကိုယ်ချင်းစာစိတ်နဲ့ပဲ ယုယတတ်၊ ကြင်နာတတ်၊ စာနာတတ်တဲ့ သူတော်ကောင်းဓာတ်တွေချည်း ကိန်းနေမှာပါ။

ကိုယ့်ထက်သာတဲ့သူတွေ တွေ့တဲ့အခါ မနာလို ဝန်တိုမှုရှင်းပြီး လိုက်လိုက်လှဲလှဲ ဝမ်းမြောက် ဝမ်းသာနဲ့ အားပေးတတ်တဲ့ သဘောက မုဒိတာဓာတ်တွေ အားကောင်းတဲ့သူမှာသာ ဖြစ်တတ်ပြီး လောကမှာ ကိုယ်ဘာမှ မတတ်နိုင်တဲ့အရာ၊ ဖြေရှင်းမပေးနိုင်တဲ့အရာ၊ မကူပေးနိုင်တဲ့အရာတွေ ကြုံလာတဲ့အခါမှာတော့ ကံနဲ့ ကံရဲ့အကျိုးကို ဆင်ခြင်ပြီး အပူသောက မဖြစ်ရလေအောင် ငြိမ်းချမ်းစွာ နေတတ်တဲ့ သဘောက 'ဥပေက္ခာ'နှလုံးသား ရှိသူတွေမှာသာ ဖြစ်နိုင်တာမျိုးပါ။

ဒါကြောင့် ကိုယ်က ပတ်ဝန်းကျင်ကို ဘယ်လို ဓာတ်ခံနဲ့ ကြည့်မှာလဲ။ ကိုယ်ကြည့်တဲ့ ဓာတ်ခံနဲ့ ညီမျှတဲ့ အပြန်ဓာတ်ကိုပဲ ရမှာကတော့ မလွဲနိုင်တဲ့ နိယာမသဘောပါ။

ပညာရှိတွေ၊ သတိ၊ ပညာ အားကောင်းသူတွေဟာ လောကကို သတိထားပြီး ဆင်ခြင်ဉာဏ်နဲ့ ကြည့်တတ်ကြပါတယ်။ သတိဓာတ်၊ ဉာဏ်ဓာတ်တွေနဲ့ ကြည့်တဲ့သဘောပါ။

လောကဓာတ် သိပ္ပံပညာရှင်ကြီးတွေဟာ ပန်းသီးလေးတစ်လုံး ကြွေကျတာ၊ ရေချိုးဇလုံထဲ ရေချိုးဖို့ ဆင်းလိုက်တဲ့အခါ ရေတွေ လျှံကျတာတွေကို သတိထားမိပြီး ဉာဏ်နဲ့ဆင်ခြင်နိုင်ခဲ့လို့ ကမ္ဘာ့ဆွဲအား ရှိပုံတွေ၊ ဒြပ်ဝတ္ထုတွေရဲ့ အလေးချိန်အယူအဆတွေ သိနားလည်ခဲ့ကြတယ်။ ဒါကို အခြေခံပြီး ရူပဗေဒ သီအိုရီသဘောတရားတွေကို ဖော်ထုတ်နိုင်ခဲ့တယ်။

အလားတူပဲ ဥပ္ပလဝဏ်ထေရီမရဲ့ အကြောင်းကို လေ့လာကြည့်တဲ့အခါ 'ပဒုမဝတီမိဖုရားရဲ့ သား မင်းသားငါးရာဟာ ကြာပန်း

တွေကို ပညာစာတ်ခံနဲ့ ကြည့်ခဲ့တဲ့အတွက် သံဝေဂဉာဏ်အမြင်တွေ၊ ဝိပဿနာဉာဏ်၊ မဂ်ဉာဏ်အလင်းစာတ်တွေ ရခဲ့တယ်။ ဥပ္ပလဝဏ် ထေရီမလည်း မီးထွန်းညှိထားတဲ့ ဆီမီးတိုင်ရဲ့ မီးညွန့်အလင်းရောင်ကို ကသိုဏ်းဉာဏ်အမြင်စာတ်နဲ့ ကြည့်လိုက်တာ စျာန်အလင်း၊ ဝိပဿနာ အလင်းတွေ ရပြီး ရဟန္တာဖြစ်ခဲ့တယ်' ဆိုတာတွေကို တွေ့ခဲ့ကြမှာပါ။

ဒါဆိုရင် မိမိတို့လည်း ဘယ်လို အကျိုးတရားတွေကို ရချင် တာလဲ၊ ဘယ်လို စာတ်ခံအမြင်နဲ့ လောကနဲ့ ပတ်ဝန်းကျင်ကို ကြည့်သင့်သလဲဆိုတဲ့ မေးခွန်းတွေ၊ စဉ်းစားစရာတွေ တသီကြီး ပေါ်လာတယ်ဆိုရင် အရှင်မ ဥပ္ပလဝဏ်အကြောင်း ဖတ်ရှုရကျိုး နပ်ပြီလို့ ဆိုရမှာပါ။

မင်းသားငါးရာ ကြာပန်းတွေ ကြည့်ပြီး သံဝေဂဉာဏ်ဖြစ်ပုံကို မှတ်လို့လွယ်အောင် မင်းကွန်း တိပိဋကရေ ဆရာတော်ကြီးက ခုလို လင်္ကာရေးစပ်သီကုံးထားပါတယ်။

**ကံနှင့် မသီ၊ မြေအဆီနှင့်၊ ရေသီတာငွေ့၊ ဥတုအတွေ့ကြောင့်၊ ဓလေ့ပွင့်ဆန်း၊ ဤကြာပန်းသို့၊ ညှိုးနွမ်းရင့်ကာ၊ ကြွေကျပါအောင်၊ ဇရာရန်ဘေး၊ ရောက်တုံသေး၏...။**

**လေးရပ်ကြောင်းစု၊ ပေါင်း၍ပြုသား၊ နုဖပ်ရွှန်းစို၊ ငါတို့ ကိုယ်သို့၊ ထိုကြောက်ဖွယ်ရာ၊ ဘေး ဇရာကား၊ ဘယ်မှာ မရောက်၊ ရှိတုံမြောက်လိမ့်...။**

**ညှိုးခြောက်ယွင်းယို၊ ငါတို့ကိုယ်လည်း၊ ထိုကြာပန်းသွင်၊ တစ်နေ့တွင်၌၊ ရွေ့စင်လျောကျ၊ မြေသို့ ခ-မည်။ ။ မုချ မချွတ်ပါတကား....။**

**ကျမ်းကိုး-**

၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ပထမတွဲ၊ ၂၆၆။

၂။ မဟာဗုဒ္ဓဝင်၊ ဆဋ္ဌတွဲ၊ ဒုတိယပိုင်း၊ ၄၅။

၃။ အပဒါန်ပါဠိတော်၊ ဒုတိယတွဲ၊ ၂၂၉။
၄။ အပဒါန်ပါဠိတော် မြန်မာပြန်၊ ဒုတိယတွဲ၊ ၂၂၁။
၅။ ဓမ္မပဒအဋ္ဌကထာ၊ ပထမတွဲ၊ ၃၁၀။



“ခန္ဓာရှိလို့ အစားရှာရတယ်၊ သံသရာရှိလို့ တရားရှာရတယ်။ ခန္ဓာရှိနေတဲ့အတွက် ခန္ဓာရဲ့ လိုအပ်ချက်ဖြစ်တဲ့ စားဝတ်နေရေး၊ ကျန်းမာရေး အဆင်ပြေစေဖို့ အစားကို မဖြစ်မနေ ရှာကြရတယ်။ ရဟန္တာ မဖြစ်သေးသရွေ့ တစ်ဘဝပြီးတစ်ဘဝ သံသရာ လည်နေရဦးမှာမို့ သံသရာ့ဒုက္ခတွေ ငြိမ်းစေဖို့ တရားကိုလည်း မဖြစ်မနေ ရှာရမှာပဲ၊ ဒါကြောင့် နေ့စဉ်ဘဝမှာ အစားလည်းရှာ၊ တရားလည်း ပါအောင် မဖြစ်မနေ တရားပါ တွဲရှာကြဖို့ အရေးကြီးတယ်၊ အစားရှာတာနဲ့ တရားရှာတာ ခွဲထားလို့ မရပါဘူး”လို့ ဓမ္မဘေရီဆရာတော်ကြီးက မိန့်ပါတယ်။

လူတွေဆိုတာကလည်း အခက်သား။ အစားနဲ့ တရားမှာ အစားကသာ အဓိကအရေးကြီးတယ်။ တရားကတော့ နောင်အလျဉ်း



ဝိနည်းပိဋက ကျွမ်းကျင်တဲ့အရာ အသာဆုံး

ဝိနယဓရ ဧတဒဂ်ရ

# ပဋာစာရာ ထေရီ

သင့်မှ ရှာတာပေါ့ဆိုပြီး တရားကို အရေးမကြီးသလို နောက်မှာ ထားလေ့ရှိကြတယ်။ တကယ်တော့ အစားရှာ တရားပါ နှစ်ခုလုံးဟာ လူတိုင်းအတွက် အရေးကြီးတာပါ။

တရားရှာဖို့ဆိုရင် သံဝေဂဉာဏ်ဖြစ်စရာ အကြောင်းအရာ၊ အာရုံတွေ ရှိပါမှ ကြိုးစားချင်စိတ် ဖြစ်လာတတ်တာပါ။ ဒါကြောင့် 'ဝီရိယံ သံဝေဂဝတ္ထုပဒဋ္ဌာနံ - ဝီရိယဆိုတာ သံဝေဂဝတ္ထုလျှင် နီးစွာသောအကြောင်းရှိတယ်' လို့ အဘိဓမ္မာအဋ္ဌကထာတွေမှာ မိန့်ဆို ထားတာ ဖြစ်ပါတယ်။

သံဝေဂယူပုံနဲ့ ပတ်သက်ပြီး သိလွယ်၊ မြင်လွယ်အောင် မြတ်စွာဘုရားက မြင်းလေးမျိုးနဲ့ ဥပမာပေးပြီး ဟောထားခဲ့တာကို အင်္ဂုတ္တရနိကာယ် စတုက္ကနိပါတ် ပတောဒသုတ်မှာ တွေ့နိုင်ပါတယ်။

မြင်းဆိုတာ အရိပ်ပြရုံနဲ့ ပြေးတဲ့မြင်း၊ အမွေးကျွတ်အောင် ရိုက်မှ ပြေးတဲ့မြင်း၊ အရေစုတ်အောင် ရိုက်မှ ပြေးတဲ့မြင်းနဲ့ အရိုးကွဲ အောင်ရိုက်မှ ပြေးတဲ့မြင်းဆိုပြီး လေးမျိုး ရှိပါတယ်။ ဒီအတူပဲ လူ ဆိုတာလည်း လေးမျိုး ရှိတယ်။

အချို့မြင်းတွေဟာ မြင်းလှည်းမောင်းတဲ့သူက တုတ်ကလေး ဝင့်ပြီး အရိပ်ပြလိုက်တာနဲ့ အလိုက်သိ ပြေးကြတယ်။ ဒီမြင်းလိုပဲ အချို့လူတွေဟာ 'ဘယ်အရပ် ဘယ်ဒေသမှာတော့ လူတွေ ဒုက္ခ ရောက်နေကြတယ်၊ လူတွေ သေသွားကြတယ်' လို့ ကြားရုံနဲ့ 'ငါလည်း တစ်နေ့ သူတို့လို ဒုက္ခ ရောက်နိုင်တယ်၊ သေရမှာ အမှန်ဖြစ်တယ်' လို့ သံဝေဂဉာဏ်တွေ ဖြစ်ပြီး တရားရှာကြတယ်။ ဒါက အရိပ်ပြရုံနဲ့ ပြေးတဲ့မြင်းလို **'ကြားရုံနဲ့ တရားရှာတဲ့သူ'** ပါ။

တစ်ချို့ကျတော့ အဲဒီလို 'ဘယ်သူတွေ ဒုက္ခရောက်တယ်၊ သေတယ်' လို့ ကြားရုံနဲ့ သံဝေဂ မဖြစ်သေးဘူး။ ဒုက္ခရောက်နေတဲ့ သူတွေ၊ သေနေတဲ့သူတွေကို ကိုယ့်မျက်စိနဲ့ တပ်အပ်မြင်တွေ့ခါမှ 'သြော်… ငါလည်း တစ်နေ့ သူတို့လို ဒုက္ခရောက်နိုင်ပါလား၊

သူတို့လို သေနိုင်ပါလား' လို့ သံဝေဂဉာဏ်တွေ ထင်လာပြီး ဒုက္ခ မရောက်ခင်၊ မသေခင် လက်ဦးမှု ရယူပြီး တရားရှာကြတယ်။ သူတို့ကတော့ အမွေးကျွတ်အောင် ရိုက်မှ ပြေးတဲ့မြင်းနဲ့တူတဲ့သူတွေပါ။ **'ကိုယ်တိုင်မြင်မှ တရားရှာသူ'** လို့ ခေါ်နိုင်ပါတယ်။

တစ်ချို့ကျတော့ ဒီနှစ်မျိုးလောက်နဲ့တော့ သံဝေဂဉာဏ် ယူရကောင်းမှန်း မသိသေးပါဘူး။ အရေစုတ်အောင်၊ အရေစုတ်ပြဲတဲ့ အပြင် သွေးထွက်အောင် ရိုက်မှ ပြေးတဲ့မြင်းလို ကိုယ့်သွေးရင်း သားရင်း ကိုယ့်ထဲကိုယ့်ဟာတွေ ဒုက္ခရောက်ကြတာတွေ၊ သေကျေ ပျက်စီးကြတာတွေ ကြုံရပါမှ 'သြော်··· ဒုက္ခတွေ၊ သေခြင်းတရား တွေဆိုတာ ငါ့လက်တစ်ကမ်း ရောက်လာပါပေါ့လား၊ ငါ့မှာ အားကိုး စရာ ဘာတရားမှလည်း မရှိသေးဘူး၊ ဒီဒုက္ခတွေ မကြုံခင်၊ အသေ မဦးခင် ငါ့အတွက် အားကိုးစရာတရား ရှာဦးမှ ဖြစ်မှာပါလေ' ဆိုပြီး တရားရှာကြတယ်။ သူ့တိုကတော့ **'အရင်းအချာတွေ ပျက်တာ ကြုံမှ တရားရှာသူ'** တွေပေါ့။

နောက်ဆုံးတစ်မျိုးကတော့ ရှေ့က သုံးမျိုးလောက် ကြုံရရုံနဲ့ သံဝေဂဉာဏ် မဖြစ်သေးဘဲ အရိုးကွဲအောင် ရိုက်မှ ထော့နဲ့ ထော့နဲ့နဲ့ မပြေးချင်ပြေးချင် ရုန်းရရှာတဲ့မြင်းလို ကိုယ်ကိုယ်တိုင် ဒုက္ခတွေ နဖူးတွေ့ ဒူးတွေ့ ကြုံပါမှ၊ ရောဂါဝေဒနာတွေ စွဲကပ်ပြီး အိပ်ရာ ဖျာကပ် ဖြစ်ခါမှ 'သြော်··· ငါ့မှာ အားကိုးစရာ တရားဆိုလို့ ဘာမှလည်း မည်မည်ရရ မရှိသေးပါလား။ တတ်နိုင်သလောက် တရားရှာဦးမှ ဖြစ်မှာပါလေ' လို့ ဆိုပြီး သံဝေဂရတဲ့ လူမျိုးပါ။ **'ကိုယ်တိုင်ကြုံမှ တရားရှာသူ'** လို့ ဆိုနိုင်ပါတယ်။

ခု ကြည့်ညိုရမယ့် ပဋာစာရာ ထေရီမကတော့ သား၊ လင်၊ မိဘမောင်ဖွားတွေ သေကျေ ပျက်စီးခါမှ တရားရှာသူမို့ အရေ စုတ်အောင် အရိုက်ခံလိုက်ရမှ ပြေးတဲ့မြင်းနဲ့ တူပါတယ်။ ဘယ်လိုပဲ ဖြစ်ဖြစ် ဘဝမှာ ကြုံတွေ့ရတဲ့ အဆိုးလောကဓံတွေကို စိတ်ပျက်စရာလို့

မမြင်ဘဲ 'တရားရှာဖို့ သံဝေဂဉာဏ်ဖြစ်စရာ တွန်းအားတွေ'လို့ ခံယူတတ်ဖို့ပါ။ အဲဒီလို အမြင်လေး ပြောင်းနိုင်ခဲ့ရင် ပဋာစာရာ ထေရီမလို အဆိုးဆုံးလောကဓံတွေဆီကနေ အကောင်းဆုံး တရား လက်ဆောင်တွေ ရလာမှာ မလွဲဧကန်ပါပဲလို့ ဆိုပါရစေ။

## (က) ထေရီမရဲ့ နာမည်နဲ့ ဧတဒဂ်အဓိပ္ပာယ်

ထေရီမရဲ့ နာမည်က 'ပဋာစာရာ' ပါ။ ထေရီမမှာ မိဘ တွေ ပေးခဲ့တဲ့ နာမည် မထင်ရှားဘဲ သား၊ လင်၊ မိဘ၊ မောင်တွေ အဖြစ်ဆိုးနဲ့ သေသွားတဲ့အတွက် ခန္ဓာကိုယ်မှာ အဝတ်မကပ်နိုင် လောက်အောင် သတိလက်လွတ် ရူးသွပ်သွားပြီး မိမွေးတိုင်းအသွင်နဲ့ လျှောက်သွားနေတာကြောင့် 'ပဋာစာရာ'ဆိုတဲ့ အမည် တွင်ခဲ့တာ ဖြစ်ပါတယ်။ ထေရီမဟာ နောင်တစ်ချိန် ရဟန္တာဖြစ်ပြီးနောက် ဝိနည်း ပိဋကတ်အရာ အကျွမ်းကျင်ဆုံး တတ်မြောက်သူ၊ ဟောနိုင်သူ၊ အဆုံး အဖြတ်ပေးနိုင်သူဖြစ်ခဲ့တာကြောင့် 'ဝိနည်းပိဋကတ်ဆောင်သူတွေ ထဲမှာ အသာဆုံး' လို့ အဓိပ္ပာယ်ရတဲ့ 'ဝိနယဓရ ဧတဒဂ်' နဲ့ ချီးမြှောက်ခံရသူ ဖြစ်ပါတယ်။

## (ခ) အတိတ်ဘဝပါရမီနဲ့ ဆုတောင်း
## ပဒုမုတ္တရဘုရားရှင်လက်ထက် သူဌေးသမီးဘဝ

ပဋာစာရာထေရီမအလောင်း အမျိုးကောင်းသမီးဟာ ပဒုမုတ္တရ မြတ်စွာဘုရားရှင် လက်ထက်တော်အခါမှာ ဟံသာဝတီမင်း နေပြည်က သူဌေးမျိုးမှာ ဖြစ်ခဲ့ပါတယ်။ သူဌေးသမီး အရွယ်ရောက် ပြီးလို့ တစ်နေ့မှာတော့ မြတ်စွာဘုရားထံ ဖူးတွေ့ပြီး တရားနာယူခဲ့ ပါတယ်။ အဲဒီ တရားပွဲမှာပဲ ပဒုမုတ္တရ မြတ်စွာဘုရားက ဝိနည်း ပိဋကတ်အရာ အလွန်ကျွမ်းကျင်တဲ့ ဘိက္ခုနီရဟန်းမ တစ်ပါးကို ဝိနည်း

ဆောင်အရာ အသာဆုံး ဝိနယဓရဧတဒဂ်အရာထားပြီး ချီးမြှောက်တာကိုလည်း တွေ့မြင်ခဲ့တယ်။

ဒီအခါ သူဌေးသမီးဟာ ဝမ်းမြောက်ဝမ်းသာဖြစ်ပြီး ဒီဝိနယဓရဧတဒဂ်ကို လိုချင်တဲ့အတွက် မြတ်စွာဘုရားအမှူးရှိတဲ့ သံဃာတော်တွေကို ပင့်ဖိတ်ပြီး ခုနစ်ရက်လုံးလုံး ဆွမ်းဆက်ကပ်လှူဒါန်းခဲ့တယ်။ နောက်ဆုံးရက်မှာတော့ သင်္ကန်းတွေပါ လှူဒါန်းပြီး ဝိနယဓရဧတဒဂ် ရလိုပါကြောင်း ဆုပန် ဆုတောင်းခဲ့တယ်။ တစ်သက်လုံးလည်း ကုသိုလ်ကောင်းမှုတွေ ပြုလုပ်ခဲ့တယ်။ ဒီကုသိုလ်ကံတွေကြောင့်ပဲ သူဌေးသမီး ကွယ်လွန်တဲ့အခါ တာဝတိံသာနတ်ပြည်မှာ ဖြစ်ခဲ့တယ်။

## ကဿပဘုရားရှင်လက်ထက် ကိကီမင်းကြီးရဲ့ သမီးတော်ဘဝ

ဒီလိုနဲ့ နတ်ပြည်၊ လူ့ပြည်တွေမှာ သံသရာ ကျင်လည်ရင်းက ဒီဘဒ္ဒကမ္ဘာရောက်လို့ ကဿပမြတ်စွာဘုရား ပွင့်တော်မူတဲ့အခါမှာတော့ ဗာရာဏသီပြည်က ကိကီမင်းကြီးရဲ့ သမီးတော် ခုနစ်ပါးအနက် တတိယသမီးတော် ဖြစ်ခဲ့ပါတယ်။ အရွယ်ရောက်တဲ့အခါ ကဿပမြတ်စွာဘုရား တရားတော်ကို နာရလို့ ကြည်ညိုသဒ္ဓါဖြစ်ပြီး ကိကီမင်းကြီးထံ ရဟန်းပြုခွင့်တောင်းခဲ့ပေမယ့် မင်းကြီးက ခွင့်မပြုခဲ့ပါဘူး။ ဒါနဲ့ ညီမ ခုနစ်ဖော်လုံးဟာ အိမ်ထောင်မပြုကြဘဲ အပျိုစင်ဘဝနဲ့ ကောမာရီဗြဟ္မစရိယ အကျင့်ကို အနှစ် နှစ်သောင်း ကျင့်ခဲ့ကြတယ်။ ဒါတင်မက တစ်သက်လုံး မြတ်စွာဘုရားကို ဆည်းကပ်ကိုးကွယ် လှူဒါန်းခဲ့ကြပြီး သံဃာတော်တွေ သီတင်းသုံးဖို့ သံဃာ့အရာမ် ကျောင်းတိုက်ကြီးကိုလည်း ညီမခုနစ်ဖော် စုပေါင်းဆောက်လုပ်လှူဒါန်းခဲ့တယ်။

ဒီကုသိုလ်တွေကြောင့်ပဲ ထေရီမအလောင်း မင်းသမီးဟာ ကဿပမြတ်စွာဘုရားနဲ့ ဂေါတမမြတ်စွာဘုရား နှစ်ဆူအကြား

ရှည်လျားတဲ့ ကာလတစ်လျှောက်လုံး နတ်ပြည်၊ လူ့ပြည်တွေမှာပဲ ဖြစ်ခဲ့ရတယ်။

## (ဂ) ပစ္စုပ္ပန်ဝတ္ထု
## အိမ်မှာ ခိုင်းစေတဲ့ အလုပ်သမားနဲ့ ခိုးရာလိုက်ပြေး

ယခု နောက်ဆုံး ဘဝမှာတော့ သာဝတ္ထိပြည်က ကုဋေရှစ်ဆယ် ကြွယ်ဝတဲ့ သူဌေးအိမ်မှာ ပဋိသန္ဓေတည်ခဲ့ပြီး သူဌေးသမီး ဖြစ်လာခဲ့ပါတယ်။ သူဌေးသမီး အရွယ်ရောက်တဲ့အခါ အိမ်မှာ ခိုင်းစေတဲ့ အလုပ်သမားတစ်ယောက်နဲ့ ရည်ငံချစ်ကြိုက်ခဲ့တယ်။ မိဘတွေကတော့ ဂုဏ်ရည်တူ သူဌေးသားတစ်ယောက်နဲ့ နေရာချပေးဖို့ စီမံခဲ့ကြတယ်။ ဒီအခါ သူဌေးသမီးက သူ့ရည်းစား အလုပ်သမားကို သူ့ကို ခိုးပြေးဖို့ ပြောပါတယ်။ အလုပ်သမားလည်း သူဌေးသမီး ပြောတဲ့အတိုင်း သာဝတ္ထိနဲ့ အတော်လေး ဝေးတဲ့ ရွာငယ်လေး တစ်ရွာဆီ သူဌေးသမီးကို ခိုးပြေးခဲ့ပါတယ်။ လင်မယား နှစ်ယောက် စလုံးက ဘာအတတ်ပညာမှ မည်မည်ရရ တတ်ကြပုံမပေါ်ဘူး။ ဒါကြောင့် အတော်လေး ပင်ပင်ပန်းပန်း ဆင်းဆင်းရဲရဲ လုပ်ကိုင်စားသောက် နေထိုင်ခဲ့ကြရတယ်။

ဒီလိုနဲ့ နေရင်းက နောက်တော့ သူဌေးသမီးမှာ ကိုယ်ဝန်ရှိလာတယ်။ ဖွားမြင်ခါနီးတဲ့အခါ သူဌေးသမီးက မိဘအိမ် ပြန်ပြီး ဖွားမြင်ချင်တယ်။ ဒါပေမဲ့ ယောကျ်ားဖြစ်သူက လိုက်မပို့ရဲလို့ ဟိုနေ့ ပို့ပေးမယ်၊ ဒီနေ့ ပို့ပေးမယ်ဆိုပြီး အချိန်ဆွဲနေတာနဲ့ မိဘအိမ် မပြန်ရရှာပါဘူး။ ဒီအခါ သူဌေးသမီးဟာ သူ့ယောကျ်ား အိမ်မှာ မရှိခိုက် မိဘအိမ်ပြန်ဖို့ သာဝတ္ထိမြို့ဆီ တစ်ယောက်တည်း ထွက်သွားခဲ့ပါတယ်။ ယောကျ်ားဖြစ်သူ အိမ်ပြန်ရောက်လာတဲ့အခါ မိန်းမဖြစ်သူကို မတွေ့တာနဲ့ အိမ်နီးနားချင်းတွေဆီ စုံစမ်းမေးမြန်းကြည့်တော့ သာဝတ္ထိမြို့က မိဘအိမ် ပြန်သွားကြောင်း သိလိုက်ပါတယ်။ ဒါနဲ့ ချက်ချင်းပဲ

နောက်ကနေ အမြန်လိုက်သွားလို့ လမ်းခုလတ်မှာပဲ သူ့မိန်းမကို မီခဲ့ပါတယ်။ သူဌေးသမီးလည်း သာဝတ္ထိမရောက်ခင် လမ်းမှာတင်ပဲ ကမ္ဘလေ လှုပ်ပြီး မီးဖွားခဲ့ပါတယ်။ ဒီအခါ ဇနီးမောင်နှံ နှစ်ယောက်လုံးဟာ 'မီးဖွားဖို့ သာဝတ္ထိ သွားတာ၊ ခုတော့ ဒီကိစ္စက လမ်းမှာတင်ပဲ ပြီးခဲ့ပြီ၊ ဒီတော့ သာဝတ္ထိ သွားစရာ မလိုတော့ပါဘူး' လို့ သဘောတူတိုင်ပင်ပြီး နေရပ်ရင်း ရွာငယ်လေးဆီပဲ ပြန်ခဲ့ကြတယ်။

ဒီလိုနဲ့ အတော်လေး ကြာတော့ သူဌေးသမီးမှာ နောက်ထပ်ကိုယ်ဝန်ရှိလာပြန်တယ်။ ဒီအခါမှာလည်း သူဌေးသမီးက မိဘအိမ်ပြန်ပြီး မီးဖွားချင်ပေမယ့် ယောကျ်ားဖြစ်သူက အရင်လိုပဲ လိုက်မပို့ပေးလို့ မသွားရပြန်ပါဘူး။ ဒါနဲ့ သူဌေးသမီးလည်း ယောကျ်ား အိမ်မှာ မရှိခိုက် သားကို ခေါ်ပြီး မိဘအိမ် ပြန်သွားခဲ့တယ်။ ယောကျ်ားလည်း သိတာနဲ့ ချက်ချင်းပဲ နောက်က လိုက်သွားခဲ့တယ်။ သူဌေးသမီးလည်း လမ်းမှာတင်ပဲ မီးဖွားခဲ့ပြန်ပါတယ်။ မီးဖွားပြီးတယ်ဆိုရင်ပဲ မိုးကြီးလေကြီး ကျလာတယ်။ ဒါနဲ့ သူဌေးသမီးက သူ့ယောကျ်ားကို မိုးခိုဖို့အတွက် တဲလေးတစ်လုံး ထိုးပေးဖို့ ပြောတယ်။ ယောကျ်ားဖြစ်သူလည်း ထင်းချောင်း တုတ်ချောင်းကလေးတွေ ရနိုင်သမျှ လိုက်စုပြီး တဲကုပ်ကလေး ဖြစ်ကတတ်ဆန်း ဆောက်လိုက်တယ်။ အမိုးမိုးဖို့အတွက် မြက်လိုက်ရှာတဲ့အခါ မှောင်ကလည်း မှောင်လာပြီမို့ မမြင်မကမ်းနဲ့ တောင်ပို့တစ်ခုရဲ့ အခြေမှာ မြက်တွေ နုတ်ဖြတ်ခဲ့တယ်။

ဒီအခါ တောင်ပို့ထဲကနေ မြွေတစ်ကောင် ထွက်လာပြီး အဲဒီယောကျ်ားရဲ့ ခြေထောက်ကို ပေါက်လိုက်လို့ အဲဒီယောကျ်ားလည်း အဲဒီနေရာမှာပဲ မြွေဆိပ်တက်ပြီး လဲကျသေသွားခဲ့ပါတယ်။ မိန်းမဖြစ်တဲ့ သူဌေးသမီးလည်း ယောကျ်ားဖြစ်သူ ပြန်လာနိုး ပြန်လာနိုး မျှော်နေခဲ့တယ်။ နောက်တော့ 'ဧကန္တ ငါ့ယောကျ်ား ငါ့ကို ပစ်ထားပြီး ထွက်ပြေးတာ ဖြစ်မယ်' လို့ တွေးရင်းတောရင်းနဲ့ပဲ မိုးစင်စင် လင်းခဲ့တယ်။ မိုးလင်းတဲ့အခါ ခြေရာခံပြီး ယောကျ်ားနောက် လိုက်သွားတော့

တောင်ပို့နားမှာ လဲကျ သေနေတဲ့ ယောကျ်ားကို တွေ့လိုက်ရတယ်။ ဒီအခါ ‘သြော်… ငါ့အတွက်နဲ့ ငါ့ယောကျ်ား သေရရှာလေပြီ’လို့ တွေးပြီး ဖြေမဆည်နိုင်ဖြစ်ကာ ငိုကြွေးခဲ့တယ်။

သားဖွားရတဲ့ ဒုက္ခနဲ့ ပင်ပန်းနေရှာတဲ့ သူဌေးသမီးဟာ လင်ယောကျ်ားပါ သေသွားတဲ့အတွက် အားကိုးရာမဲ့ ဖြစ်ခဲ့တာကြောင့် သားငယ်လေးကို ရင်မှာပိုက်၊ သားကြီးကို လက်ကဆွဲပြီး မိဘတွေနေတဲ့ သာဝတ္ထိမြို့ဆီ ဦးတည်ထွက်လာခဲ့ပါတယ်။ အတော်လေး ထွက်လာပြီးတဲ့အခါ မြစ်ငယ်တစ်ခုကို တွေ့လိုက်တယ်။ ဒီအခါ ‘ငါ ဒီကလေးနှစ်ယောက်နဲ့ မြစ်ကို ကူးနိုင်မှာ မဟုတ်ဘူး၊ ဒီတော့ ဒီဘက်ကမ်းမှာ သားကြီးကို ခဏထားခဲ့မယ်၊ သားငယ်နဲ့ ဟိုဘက်ကမ်း ကူးသွားမယ်၊ သားငယ်ကို ဟိုဘက်ကမ်းမှာ သိပ်ထားခဲ့ပြီးမှ သားကြီးကို ပြန်လာခေါ်မယ်’လို့ ဆုံးဖြတ်ချက်ချပြီး မြစ်ကို ကူးခဲ့ပါတယ်။

## သားငယ်ကို စွန်ချီ၊ သားကြီးက ရေမျော

သူဌေးသမီးဟာ သူ့ဆုံးဖြတ်ချက်အတိုင်း သားကြီးကို ဒီဘက်ကမ်း ထားခဲ့ပြီး မြစ်ကို ကူးခဲ့တယ်။ ဟိုဘက်ကမ်း ရောက်တဲ့အခါ သားငယ်လေးကို အနီးဝတ်ကလေးနဲ့ သိပ်ထားခဲ့ပြီး သားကြီးကို ပြန်ခေါ်ဖို့ ဒီဘက်ကမ်း ပြန်ကူးလာခဲ့တယ်။ မြစ်လယ်ကောင်လောက် ရောက်တဲ့အခါ သိမ်းစွန်ငှက် တစ်ကောင်က သားတစ်အထင်နဲ့ သားငယ်လေးကို ထိုးသုတ်ဖို့ တစ်ဟုန်ထိုး ပျံဆင်းလာခဲ့တယ်။ ဒီအခါ သူဌေးသမီးဟာ သိမ်းစွန်ငှက်ကို ခြောက်လှန့်တဲ့အနေနဲ့ လက်ကို မြှောက်ပြီး အသံကုန် ဟစ်အော်လိုက်တယ်။ သူဌေးသမီးရဲ့ လက်မြှောက်တဲ့ အမူအရာကို မြင်ရတဲ့အခါ ဒီဘက်ကမ်းမှာ ရှိနေတဲ့ သားအကြီးက သူ့ကို ခေါ်တယ်ထင်မှတ်ပြီး မြစ်ထဲ ပြေးဆင်းခဲ့လို့

မြစ်ရေစီးနဲ့ မျောပါပြီး ရေနစ်သေခဲ့ရှာတယ်။ သိမ်းစွန်ရဲ့ငှက်ကလည်း သူဌေးသမီး သားအငယ်နား မရောက်ခင်မှာပဲ သားအငယ်ကို သုတ်ချီသွားခဲ့တယ်။

ယောက်ျားလည်း သေ၊ သားနှစ်ယောက်လုံးလည်း ဆုံးရှုံးပျက်စီးကုန်တာကြောင့် သောကလောင်မီးတွေ ဖိစီးနှိပ်စက်ခံရပြီး ဒုက္ခသည်ဖြစ်နေရှာတဲ့ သူဌေးသမီးဟာ "ငါ့ သားနှစ်ယောက် ရှိတဲ့အနက် သားကြီးက ရေမျော၊ သားအငယ်က စွန်ချီလို့ နှစ်ယောက်လုံး သေဆုံးပျက်စီးကုန်ကြပေါ့။ ငါ့လင်ယောက်ျားကလည်း လမ်းမှာ မြွေကိုက်လို့ သေရှာပါပေါ့"လို့ ပါးစပ်က တတွတ်တွတ် ရေရွတ်အော်ဟစ်ငိုကြွေးရင်း သာဝတ္ထိမြို့ဆီ ခရီးဆက်ထွက်လာခဲ့တယ်။

## သောကကြောင့် အရူးမ ဖြစ်

သူဌေးသမီး သာဝတ္ထိမြို့ထဲ ရောက်လာတဲ့အခါ မိဘအိမ်နားလေး ရောက်နေတာတောင် သောကအပူမီးတွေ အားကြီးနေလို့ မိဘအိမ်ကို မမှတ်မိတော့ပါဘူး။ ဒါကြောင့် အနားမှာ တွေ့တဲ့သူတွေကိုပဲ မိဘတွေရဲ့ နာမည်ကို ပြောပြပြီး မိဘတွေရဲ့ အိမ်ရှိရာကို မေးမြန်းခဲ့ရပါတယ်။ ဒီအခါ ကြားရသူတွေက "အို အမိ... ဒီသူဌေးမိသားစုအကြောင်း မေးလို့ အကျိုးရှိမှာ မဟုတ်တော့ပါဘူး၊ မနေ့ညက မိုးကြီးလေကြီးကျလို့ အိမ်ပြိုတဲ့အတွက် အဲဒီသူဌေးမိသားစုတွေ အကုန်လုံး သေသွားကြရှာတယ်။ အဲဒီ သူဌေးမိသားစုကို ထင်းပုံတစ်ခုတည်းပေါ်မှာပဲတင်ပြီး မီးသင်္ဂြိုဟ်ကြရတယ်၊ အို အမိ... ဟောဟိုက မီးခိုးတွေကိုသာ ကြည့်ပါတော့၊ အဲဒီ မီးခိုးတွေဟာ သူဌေးမိသားစု မီးသင်္ဂြိုဟ်တဲ့ ထင်းပုံက ထွက်လာတဲ့ မီးခိုးတွေပဲ"လို့ စိတ်မကောင်းစွာနဲ့ပဲ ပြောခဲ့ကြတယ်။

ဒီအခါ သူဌေးသမီးဟာ "အို... ရှင်တို့ ဘယ်လို ပြောလိုက်ကြတာလဲ"လို့ တစ်ခွန်းတည်းပဲ ပြောနိုင်ရှာတော့တယ်၊ ပြီးတော့

ဝတ်ထားတဲ့အဝတ်တွေကိုတောင် မဆီးနိုင် မဝတ်နိုင်တော့ဘဲ မိမွေးတိုင်းအသွင်နဲ့ လက်တွေမြှောက်၊ အော်ဟစ်ငိုယိုပြီး မိဘဆွေမျိုးတွေကို သင်္ဂြိုဟ်တဲ့ ထင်းပုံရှိရာဆီ ပြေးသွားပါတော့တယ်။

နောက်ပြီး 'ငါ့ရဲ့ သားကြီးနဲ့ သားငယ်တွေလည်း တစ်ယောက် ရေနစ်၊ တစ်ယောက် သိမ်းစွန်သုတ်လို့ သေခဲ့ကြပြီ၊ ငါ့လင်လည်း လမ်းမှာ မြွေကိုက်လို့ သေခဲ့ပြီ၊ ငါ့ အမေ၊ အဖေနဲ့ မောင်တွေလည်း အိမ်ပြို အိမ်ပိပြီး သေကြလို့ အခု သူတို့အလောင်းတွေကို မီးသင်္ဂြိုဟ်နေကြပြီ'လို့ အဓိပ္ပာယ်ရတဲ့ ငိုချင်းဂါထာကို ပါးစပ်က တတွတ်တွတ် ရွတ်ရင်း၊ အဆက်မပြတ် ငိုကြွေးမြည်တမ်းရင်း ခြေဦးတည့်ရာ လျှောက်သွားနေတော့တယ်။

## 'ပဋာစာရာ'လို့ အမည်တွင်လာခဲ့

အခုလို သူဌေးသမီး ခန္ဓာကိုယ်မှာ အဝတ်မကပ်ဘဲ မိမွေးတိုင်းအသွင်နဲ့ ဟိုသွားဒီသွား လျှောက်သွားနေတာကို မြင်ရလို့ သနားကြတဲ့ သူတွေက ထဘီ၊ အင်္ကျီ အဝတ်အစားတွေ ပေးကြပေမယ့် ဝတ်ဆင်ဖို့ သတိမရဘဲ ဆုတ်ဖြဲ ဆုတ်ဖြဲပြီး လွှင့်ပစ်နေတယ်။ သူမကို မြင်တဲ့ နေရာတိုင်းမှာ လူတွေက ဝိုင်းအုံပြီး နောက်က လိုက်နေကြလို့ လူအုပ်ကြီး တရုန်းရုန်းနဲ့ ဟိုသွား၊ ဒီသွား ရောက်မိရောက်ရာ သွားနေတော့တယ်။

ဒီအခါ လူတွေက သူဌေးသမီးကို အဝတ်အစားမဝတ်ဘဲ လျှောက်သွားနေတာကြောင့် 'ပဋာစာရာ'လို့ နာမည်မှည့်ခေါ်ခဲ့ကြတယ်။ 'ပဋာစာရာ' ဆိုတာ 'ပဋ - အဝတ်အစား + အစာရာ - မဝတ်ဘဲ မပါဘဲ လျှောက်သွားနေသူ'လို့ အဓိပ္ပာယ်ရပါတယ်။ ဒါ့အပြင် ဒီသူဌေးသမီးမှာ အဝတ်မဝတ်တဲ့အတွက် အရှက်မရှိသူတွေရဲ့ အကျင့်ပုံစံ ပေါက်နေတယ်၊ အခုလို အရှက်ရှိသူတွေရဲ့ နေပုံထိုင်ပုံမျိုး

မဟုတ်ဘဲ အရှက်မရှိသူတွေရဲ့ နေပုံထိုင်ပုံက ထင်ရှားနေတာကြောင့်လည်း 'ပဋာစာရာ'လို့ လူတွေက အမည်ပေးခဲ့ကြတာပါ။

ပဋာစာရာ သူဌေးသမီးဟာ ကိုယ့်စိတ်ကို အစိုးမရဘဲ မိမွေးတိုင်းအသွင် အဝတ်ဗလာနဲ့ ငိုချင်းဂါထာကို ပါးစပ်က တတွတ်တွတ် ရွတ်ဆိုပြီး၊ ဦးတည့်ရာ လျှောက်သွားနေခဲ့တယ်။ သူမကို တွေ့တဲ့ လူတွေက "ဟဲ့ အရူးမ… သွား ဒီနားမလာနဲ့"လို့ ပြောဆိုပြီး တုတ်နဲ့ ပစ်လွှတ်ကြ၊ ခဲနဲ့ ပစ်လွှတ်ကြတယ်။

တစ်နေ့မှာတော့ မြတ်စွာဘုရားရှင်ဟာ သာဝတ္ထိပြည် ဇေတဝန်ကျောင်းတိုက်မှာ ပရိသတ်တွေကို တရားဟောရင်းက ဉာဏ်တော်နဲ့ ဆင်ခြင်လိုက်တဲ့အခါ ဟိုဟိုဒီဒီ လျှောက်သွားနေတဲ့ ပဋာစာရာ သူဌေးသမီးဟာ သစ္စာလေးပါး သိမြင်ဖို့ အသိဉာဏ် ရင့်ကျက်နေပြီဖြစ်တဲ့ အကြောင်း မြင်တော်မူခဲ့ပါတယ်။ ဒါနဲ့ မြတ်စွာဘုရားက 'ပဋာစာရာ သူဌေးသမီး ကျောင်းလာစေသတည်း'လို့ အဓိဋ္ဌာန်တော်မူလိုက်ပါတယ်။ ဒါကြောင့် ပဋာစာရာ သူဌေးသမီးဟာ ဇေတဝန်ကျောင်းဆီ ရောက်လာခဲ့ပါတယ်။

တရားနာပရိသတ်တွေက ပဋာစာရာကို မြင်တော့ "ဟေ့ အရူးမ… ဒီကို မလာနဲ့"လို့ ပြောပြီး မောင်းထုတ်ကြတယ်။ ဒီအခါ မြတ်စွာဘုရားက "ပဋာစာရာကို မတားကြနဲ့"လို့ မိန့်တော်မူလိုက်ပြီး ပဋာစာရာ အနားရောက်လာတဲ့အခါ သူမအပေါ် မေတ္တာဓာတ်တွေ ပို့လွှတ်၊ မေတ္တာဓာတ် အပြည့်နဲ့ "ချစ်သမီး… သတိထားလော့၊ ချစ်သမီး… သတိထားလော့"လို့ မိန့်တော်မူခဲ့ပါတယ်။

ပဋာစာရာ သူဌေးသမီးလည်း မြတ်စွာဘုရား စကားကို ကြားလိုက်တာနဲ့ သတိတွေ ပြန်ကောင်းလာပြီး သူမခန္ဓာကိုယ်မှာ အဝတ်ဗလာဖြစ်နေတာကို သတိထားမိလို့ ရှက်စိတ်၊ ကြောက်စိတ်တွေ ဝင်နေခဲ့တယ်။ ပြီးတော့ အတတ်နိုင်ဆုံး ကိုယ့်ကိုယ်ကိုယ် ဖုံးပြီး ဒူးလေးထောက်၊ ခါးလေး ညွတ်ကာ ထိုင်နေလိုက်တယ်။

ဒီအခါ အနားမှာရှိတဲ့ လူတစ်ယောက်က အပေါ်ရုံအဝတ်ကို ပစ်ပေးလိုက်တယ်။ ပဋာစာရာဟာ အဲဒီအဝတ်ကို ဝတ်ပြီး မြတ်စွာဘုရားအထံ ဆည်းကပ်၊ တည်ခြင်းငါးပါးနဲ့ ကန်တော့လိုက်တယ်။ ပြီးတော့–

“မြတ်စွာဘုရား··· တပည့်တော်မရဲ့ အားကိုးရာ အားထားရာ မှီခိုရာ ဖြစ်တော်မူပါဘုရား၊ တပည့်တော်မရဲ့ သားတစ်ယောက်ကို သိမ်းစွန်ငှက်က ချီသုတ်ခဲ့ပြီး၊ သားတစ်ယောက်ကတော့ မြစ်ရေထဲ မျောပါသွားခဲ့ပါတယ် ဘုရား၊ တပည့်တော်မရဲ့ ယောကျ်ားကတော့ လမ်းမှာ မြွေကိုက်ခံရလို့ သေခဲ့ပြီး၊ မိဘနှစ်ပါးနဲ့ မောင်ဖြစ်သူကတော့ အိမ်ပြိုလို့ အိမ်ပိသေသွားကြတဲ့အတွက် ထင်းပုံတစ်ပုံတည်းမှာ တင်ပြီး မီးသင်္ဂြိုဟ်ခဲ့ကြပါတယ် ဘုရား”လို့ သောကဖြစ်ရတဲ့အကြောင်းရင်းကို ရှင်းလင်းလျှောက်ထားလိုက်ပါတယ်။

**ပဋာစာရာ အရှူးမ သောတာပန်ဖြစ်**

မြတ်စွာဘုရားရှင်က “ချစ်သမီး··· သင် ဘာမှ ကြံစည်တွေးတောမနေပါနဲ့၊ သင့်ရဲ့ အားထား မှီခိုရာ ဖြစ်နိုင်တဲ့သူထံ သင် ချစ်သမီး ရောက်လို့နေပါပြီ၊ သင်ချစ်သမီး ယခုလို သား၊ လင်၊ မိဘ၊ မောင်တွေ သေရတဲ့အတွက် မျက်ရည်ကျပြီး ငိုကြွေးခဲ့ရသလို၊ အနမတဂ္ဂ သံသရာတစ်ခွင်မှာလည်း သား၊ လင်၊ မိဘ၊ မောင်တွေ သေတဲ့အတွက် ကျခဲ့ရတဲ့မျက်ရည်တွေဆိုတာ မဟာသမုဒ္ဒရာလေးစင်းမှာ ရှိတဲ့ ရေစက်ရေပေါက်တွေထက် များလှပါပြီကွယ်”လို့ တရားစကား မိန့်ကြားပြီး ဖော်ပြပါ အဓိပ္ပာယ်ရတဲ့ ဂါထာနဲ့ မျက်ရည်ထိန်း၊ သောကငြိမ်းတရား ဟောတော်မူခဲ့ပါတယ် –

**“ချစ်သမီး ပဋာစာရာ··· သမုဒ္ဒရာ လေးစင်းထဲမှာ ရှိတဲ့ ရေစက်ရေပေါက်တွေဆိုတာ သတ္တဝါတစ်ဦးတစ်ယောက်ရဲ့ သံသရာတစ်လျှောက်က မျက်ရည်ပေါက်တွေနဲ့ နှိုင်းစာလိုက်ရင် နည်းပါသေးတယ်။**

**ကိုယ်ဆင်းရဲနဲ့ စိတ်ဆင်းရဲဆိုတဲ့ ဒုက္ခနှစ်မျိုး နှိပ်စက်ခံရတဲ့ သတ္တဝါတစ်ဦး တစ်ယောက်ရဲ့ သောကအပူမီးကြောင့် ငိုခဲ့ရ၊ ကျခဲ့ရတဲ့ မျက်ရည်တွေဆိုတာ မဟာသမုဒ္ဒရာ လေးစင်းမှာရှိတဲ့ ရေစင်ရေပေါက်တွေထက် နှိုင်းဆမရ များလှပါပေတယ်။**

**ချစ်သမီး ပဋာစာရာ… သင်ဟာ ဘာလို့ မေ့လျော့ပေါ့ဆ သတိလက်လွတ် နေနေရတာလဲ၊ သတိတရား လက်ကိုင်ထားပြီး နေပါ”**

အခုလို မြတ်စွာဘုရား တရားဟောလိုက်တယ် ဆိုရင်ပဲ ပဋာစာရာရဲ့ စိတ်နှလုံးမှာ သောကမီးတွေ တဖြည်းဖြည်း ငြိမ်းအေးပြီး နည်းသွားတယ်။ ဒီအခါ မြတ်စွာဘုရားက ပဋာစာရာရဲ့ စိတ်အစဉ်မှာ သောကတွေ နည်းပါးသွားတာကို သိမြင်တော်မူတဲ့အတွက် “ချစ်သမီး ပဋာစာရာ… သား၊ လင်၊ မိဘ၊ မောင်တွေဆိုတာ တကယ်သေရတော့မယ့်သူအတွက်တော့ အစောင့်အရှောက်လည်း မဖြစ်နိုင်၊ မှီခိုအားထားရာလည်း မဖြစ်နိုင်ကြဘူး၊ ဒါကြောင့်မို့ ဒီ သား၊ လင်၊ မိဘ၊ မောင်ဖွားစတဲ့သူတွေဆိုတာ သက်ရှိထင်ရှား ရှိနေကြပေမယ့် တကယ်သေရတော့မယ့်သူအတွက်တော့ မရှိတာနဲ့ အတူတူပါပဲ၊ ဒါကြောင့် ဉာဏ်ပညာရှိတဲ့သူဆိုတာ ကိုယ့်သီလကို စင်ကြယ်အောင် ကြိုးစားပြီး နိဗ္ဗာန်ရောက်ကြောင်း အကျင့်ကောင်းတွေကိုသာ ပြည့်စုံအောင် အားထုတ်သင့်တယ်”လို့ တရားစကား မိန့်ကြားပြီး ဖော်ပြပါ အဓိပ္ပာယ်ရတဲ့ ဂါထာ နှစ်ပုဒ်ကို ဆက်လက်ဟောကြားခဲ့ပါတယ်။

**“ချစ်သမီး ပဋာစာရာ… နောက်ဆုံး သေချိန်ရောက်နေသူအတွက်တော့ သားတွေ သမီးတွေကလည်း မသေအောင် မတားနိုင်၊ မစောင့်ရှောက်နိုင်ပါ၊ မိဘတွေ၊ ဆွေမျိုး သားချင်းတွေကလည်း မသေအောင် မတတ်နိုင်ကြပါ၊ သို့အတွက်ကြောင့် မိဘ၊ သား၊ သမီး၊ ဆွေမျိုးသားချင်းတွေမှာ သေမင်းရန်ကို တွန်းလှန်စောင့်ရှောက် နိုင်တဲ့ အားကိုးရာ၊ အားထားရာဆိုတာ လုံးဝကို မရှိဘူး။**

**ဒါကြောင့် ပညာရှိသူဆိုတာ အခုလို သေချိန်ရောက်လာရင် မသေအောင် တားပေးနိုင်မယ့် အားကိုးစရာပုဂ္ဂိုလ် မရှိဘူးဆိုတဲ့ သဘောကို ဉာဏ်နဲ့ဆင်ခြင် သိမြင်ပြီးတော့ ကိုယ်ကျင့်တရား မပျက်ယွင်းအောင် စောင့်ထိန်းပါ၊ နိဗ္ဗာန်ကို ရောက်စေနိုင်တဲ့ မဂ္ဂင်ရှစ်ပါး အကျင့်တရားကို လျင်မြန်စွာပဲ ဖြည့်ကျင့်ပါ''**

ဒီတရားဒေသနာ အဆုံးမှာတော့ ပဋာစာရာ သူဌေးသမီးဟာ မြေမှုန့်ပမာ အလွန်တရာ များပြားတဲ့ ကိလေသာတွေကို သောတာပတ္တိမဂ်ဉာဏ်နဲ့ ပယ်သတ်နိုင်တဲ့အတွက် သောတာပန်အရိယာပုဂ္ဂိုလ် ဖြစ်ခဲ့ပါတယ်။

ပဋာစာရာ သူဌေးသမီးဟာ သောတာပန်ဖြစ်ပြီးတဲ့နောက် မြတ်စွာဘုရားထံမှာ ဘိက္ခုနီ ရဟန်းမ ဝတ်ခွင့်ရဖို့ တောင်းပန်လျှောက်ထားခဲ့ပါတယ်။ ဒီအခါ မြတ်စွာဘုရားရှင်က ပဋာစာရာကို ဘိက္ခုနီ ရဟန်းမတွေထံ အပ်နှံပြီး ဘိက္ခုနီရဟန်းမ ပြုစေတော်မူခဲ့ပါတယ်။ ရဟန်း ဘဝ ရောက်တဲ့အခါမှာလည်း 'ပဋာစာရာ'လို့ပဲ အမည်ထင်ရှားခဲ့ပါတယ်။

ပဋာစာရာ ဘိက္ခုနီမဟာ ရဟန်းအဖြစ်ကို ရပြီးတဲ့နောက် အထက်မဂ်၊ဖိုလ်ရဖို့ ဝိပဿနာတရား ကျင့်ကြံအားထုတ်နေခိုက်မှာပဲ တစ်နေ့မှာတော့ ရေအိုးနဲ့ရေခပ်ပြီး ခြေထောက်ဆေးဖို့ ရေလောင်းလိုက်ပါတယ်။ အဲဒီရေဟာ ခြေထောက်အနီးဝန်းကျင်မှာ အနည်းငယ်စီးဆင်းသွားပြီး ပြတ်သွားတယ်။ ဒုတိယအကြိမ် လောင်းလိုက်တဲ့ရေကတော့ ပထမရေ ပြတ်သွားတဲ့ အရပ်ထက် အနည်းငယ် ဝေးတဲ့ အရပ်အထိ စီးဆင်းသွားပြီး ပြတ်သွားခဲ့တယ်။ တတိယအကြိမ် လောင်းလိုက်တဲ့ အခါမှာတော့ ဒုတိယရေ ပြတ်သွားတဲ့အရပ်ထက် နည်းနည်းပိုဝေးတဲ့အထိ စီးဆင်းသွားပြီး ပြတ်သွားခဲ့ပါတယ်။

**ခြေထောက်ရေဆေးရင်း ရဟန္တာဖြစ်**

ပဋာစာရာထေရီမဟာ ဒီရေသုံးမျိုး ရောက်တဲ့ အရပ်သုံးမျိုးကိုပဲ အာရုံယူလိုက်တယ်၊ ပြီးတော့ အရွယ်သုံးပါးကို ဉာဏ်နဲ့ပိုင်းခြားပြီး –

**"ငါ ပထမအကြိမ် လောင်းလိုက်တဲ့ ရေလို ဒီသတ္တဝါတွေဟာ ပထမအရွယ်မှာလည်း သေကျေပျက်စီးနိုင်ကြပါလား၊ ပထမရေထက် အနည်းငယ် စီးဆင်းသွားပြီး ပြတ်သွားတဲ့ ဒုတိယလောင်းလိုက်တဲ့ ရေလို လူလတ်ပိုင်း မဇ္ဈိမအရွယ်မှာလည်း သေကျေ ပျက်စီးနိုင်ကြပါလား၊ ဒုတိယရေထက် အတော်လေးဝေးတဲ့အထိ စီးဆင်းသွားပြီး ပြတ်သွားတဲ့ တတိယ လောင်းလိုက်တဲ့ ရေလို လူကြီးပိုင်း တတိယအရွယ်မှာလည်း ဧကန်ပဲ သေကျေပျက်စီးနိုင်ကြပါလား"**လို့ ဆင်ခြင်စဉ်းစားနေခဲ့ပါတယ်။

အဲဒီလို ဆင်ခြင်နေတဲ့ ပဋာစာရာထေရီမရဲ့သန္တာန်မှာ **"ဒီရေသုံးမျိုးလုံး ကုန်ခန်းပျက်စီးရသလို သတ္တဝါတွေရဲ့ အာယုသင်္ခါရတွေဟာလည်း ကုန်ခန်းပျက်စီးခြင်းသဘော ရှိပါလား"**လို့ အနိစ္စလက္ခဏာဉာဏ်တွေ၊ ဒီအနိစ္စလက္ခဏာဉာဏ်က တစ်ဆင့် ဒုက္ခလက္ခဏာဉာဏ်နဲ့ အနတ္တလက္ခဏာဉာဏ်တွေ ထင်မြင်လာခဲ့ပါတယ်။ အဲဒီလို ဝိပဿနာဉာဏ်နဲ့ ရှုမှတ်ပွားများရင်း ဥတုသပ္ပာယ မျှစေဖို့ ကမ္မဋ္ဌာန်းကျောင်းထဲ ဝင်၊ အလင်းရောင်ရစေဖို့ ဆီမီးခွက်ကို ထွန်းပြီး နေရာတကျ ထားလိုက်တယ်။ ဒီနောက်မှာတော့ ခုတင်ညောင်စောင်းမှာ ထိုင်လိုက်ပြီး ဆီမီး ငြိမ်းဖို့အတွက် ဆီမီးစာကို ဆီထဲ ဆွဲနှစ်လိုက်ပါတယ်။ ဒီအခါ ထေရီမရဲ့ သန္တာန်မှာ "သြော်··· ဆီနဲ့ မီးစာ ဒီအကြောင်းတရား နှစ်မျိုးရှိတဲ့ အတွက်ကြောင့် ဆီမီးဆိုတဲ့ အကျိုးတရား ဖြစ်ရတာပါလား၊ ဆီနဲ့ မီးစာ မရှိတော့ရင် ဆီမီးဆိုတာလည်း မရှိနိုင်တော့ပါလား၊ ဒီဥပမာလိုပဲ ကိလေသဝဋ်နဲ့ ကမ္မဝဋ်ဆိုတဲ့ အကြောင်းသမုဒယသစ္စာတွေ ရှိနေသရွေ့ ဝိပါကဝဋ်လို့ ခေါ်တဲ့

ဒုက္ခသစ္စာ ခန္ဓာ့ဖြစ်စဉ်တွေ မပြတ်ဖြစ်နေတာပါလား၊ ကိလေသဝဋ္ဋ်နဲ့ ကမ္မဝဋ္ဋ် အကြောင်း သမုဒယသစ္စာတွေ ချုပ်ငြိမ်းသွားရင် ဝိပါကဝဋ္ဋ် အကျိုး ဒုက္ခသစ္စာတရားတွေ ချုပ်ငြိမ်းပြီး လွတ်မြောက်မှုဆိုတာ ဖြစ်တာပါလား''လို့ အကြောင်းကြောင့် အကျိုးဖြစ်တယ်၊ အကြောင်း ချုပ်ရင် အကျိုးလည်း ချုပ်တယ်ဆိုတဲ့ ပဋိစ္စသမုပ္ပာဒ် သဘောဉာဏ်တွေ ထင်လာခဲ့ပါတယ်။

ဒီအခါ မြတ်စွာဘုရားရှင်ဟာ ဂန္ဓကုဋိကျောင်းတော်မှာ ထိုင်နေတော်မူရင်းကပဲ ရောင်ခြည်တော် လွှတ်လိုက်တယ်။ ပြီးတော့ ထေရီမရဲ့ရှေ့မှာ ရပ်ပြီး ဟောတော်မူနေသလို ဖော်ပြပါအဓိပ္ပာယ်ရတဲ့ ဂါထာနဲ့ တရားဟောကြားတော်မူခဲ့ပါတယ် -

**''ချစ်သမီး ပဋာစာရာ··· သင်စဉ်းစားဆင်ခြင်တဲ့ အကြောင်းအရာတွေဟာ စဉ်းစား ဆင်ခြင်တဲ့အတိုင်း မှန်ပါတယ်၊ သတ္တဝါ မှန်သမျှ သေကြရမှာပဲ၊ ဒါကြောင့် ခန္ဓာငါးပါး ရုပ်နာမ်တရားတွေရဲ့ အဖြစ်နဲ့အပျက်ကို မမြင်ဘဲ အသက်တစ်ရာ ရှည်ရတဲ့သူထက် ခန္ဓာငါးပါး ရုပ်နာမ်တရားတွေရဲ့ အဖြစ်နဲ့ အပျက်ကို ဝိပဿနာဉာဏ်ပညာနဲ့ သိမြင်တဲ့သူရဲ့ တစ်ရက် တစ်ခဏမျှ အသက်ရှင်နေရတာက ပိုပြီး မြတ်လှပါပေတယ်''**

ဒီတရားဒေသနာအဆုံးမှာ ပဋာစာရာထေရီမဟာ ပဋိသမ္ဘိဒါ လေးပါးနဲ့တကွ အရဟတ္တဖိုလ် ဆိုက်ရောက်ပြီး ကိလေသာ အာသဝေါကုန်ခန်းတဲ့ ရဟန္တာ ဖြစ်ခဲ့ပါတယ်။

## ဝိနယဓရဧတဒဂ်ရ

ပဋာစာရာထေရီမဟာ ရဟန္တာဖြစ်ပြီးတဲ့နောက် မြတ်စွာဘုရား ထံမှာ ဝိနည်းပိဋကတ်ကို အကျယ်တဝင့် သင်ယူတတ်မြောက်ခဲ့ပြီး ဝိနည်းနဲ့စပ်ဆိုင်တဲ့ အကြောင်းအရာ အရေးအခင်းတွေကို ဟုတ်မှန်တဲ့အတိုင်း ဟောကြားဖြေဆိုလေ့ရှိတယ်။ ဒါကြောင့်ပဲ နောင်တစ်ချိန်

မြတ်စွာဘုရားရှင် ဇေတဝန်ကျောင်းတိုက်မှာကျင်းပတဲ့ သံဃာ့အစည်း အဝေးသဘင်မှာ သီတင်းသုံးထိုင်နေတော်မူရင်း ဘိက္ခုနီရဟန်းမတွေကို ဧတဒဂ်အရာထား ချီးမြှောက်တဲ့အခါ “ဝိနည်းဆောင် ဘိက္ခုနီရဟန်းမ တွေထဲမှာ ပဋာစာရာ ဘိက္ခုနီဟာ အသာဆုံး အမြတ်ဆုံး ဖြစ်ပါပေ တယ်”လို့ ပဋာစာရာထေရီမကို ဝိနယဓရ ဧတဒဂ်ဘွဲ့ထူးနဲ့ ချီးမြှောက် တော်မူခဲ့ပါတယ်။

တချို့လူတွေက “တရား အားထုတ်ရင် ရူးတတ်တယ်”လို့ ပြောကြတယ်။ တကယ်တော့ စနစ်တကျ ညွှန်ပြတတ်တဲ့ ကမ္မဋ္ဌာန်း ဆရာနဲ့ အားမထုတ်ရလို့ ဖြစ်မှာပါ။ အမှန်တော့ တရားက အရူး အနှမ်းကို ပျောက်ကင်းစေပါတယ်။ အဝတ်အစား မကပ်နိုင်လောက် အောင် သတိလက်လွတ် ဖြစ်ပြီး သွက်သွက်ခါ ရူးနေတဲ့ ပဋာစာရာ သူဌေးသမီး အရူးပျောက်သွားတာဟာ တရားကြောင့်ပါ။ ဒါကြောင့် မှန်မှန်ကန်ကန် ညွှန်ပြနိုင်တဲ့ ကမ္မဋ္ဌာန်းဆရာနဲ့ အားထုတ်ဖို့ပဲ လိုပါ တယ်။

‘နေရောင်ခြည်ဟာ တချို့သစ်သီးတွေကို ပုပ်သိုးစေတတ် ပေမယ့် မရင့်မမှည့်သေးတဲ့ သစ်သီးတွေကိုတော့ ရင့်မှည့်စေပါတယ်၊ တချို့ပန်းတွေကို ညှိုးနွမ်းရော်ရင့်စေနိုင်ပေမယ့် ဖူးစငုံစ ပန်းလေး တွေကိုတော့ လှပတဲ့ပန်းအဖြစ် ပွင့်လန်းစေပါတယ်”လို့ လောက ပညာရှင်တွေက ဆိုကြတယ်။

ဒီဥပမာလိုပါပဲ အဆိုးလောကဓံတွေကြောင့် တချို့သူတွေ ဘဝမှာ အကြီးအကျယ် ပျက်စီး ကျရှုံးသွားရပေမယ့် ဒီအဆိုးလောကဓံ တွေကပဲ အချို့သူတွေကိုတော့ လောကရဲ့ အကောင်းဆုံး အရာတွေ ပိုင်ဆိုင်ပြီး အမြင့်ဆုံး အောင်မြင်မှုတွေရအောင် မြှင့်တင်ပေးနိုင်ကြ ပါတယ်။ အခု ကြည်ညိုခဲ့ကြရတဲ့ ပဋာစာရာထေရီမရဲ့ ဖြစ်ရပ်က သက်သေပါပဲ။ ပဋာစာရာထေရီမဟာ လောကရဲ့ အဆိုးဆုံးလို့ ဆိုနိုင်တဲ့ ဆုံးရှုံးမှုတွေနဲ့ ကြုံတွေ့ခဲ့ရသူပါ၊ ဒါပေမဲ့ ဒီအဆိုးဆုံး အရာတွေကပဲ

ထေရီမကို အမြင့်ဆုံး ရဟန္တာဖြစ်အောင် ကျေးဇူးပြုနိုင်ခဲ့တယ်ဆိုရင် မှားမယ်မဟုတ်ပါဘူး။ ဒါကြောင့် လောကဓံဆိုးတွေ ဆိုတာ အသိဉာဏ်မဲ့သူတွေအတွက် ကျရှုံးကြောင်းလို့ ထင်ရပေမယ့် အသိဉာဏ်ရှိသူတွေအတွက်တော့ အောင်မြင်မှုရဲ့ အခြေခံအုတ်မြစ်တွေလို့ ခံယူတတ်ဖို့ပါ။

တိပိဋက(ယော) ဆရာတော်ကတော့ "လောကဓံဆိုးတွေဆိုတာ အရိုင်းစိတ်ကို မီးဖုတ်ပေးနေတာပါ၊ လောကဥပမာအနေနဲ့ ပြောရရင် အသုံးဝင်တဲ့ ဓား၊ လှံ စတဲ့ လက်နက်တွေ ရဖို့ဆိုရင် သံရိုင်းတုံးကို ရဲနေအောင် မီးဖုတ်၊ ပေပေါ်မှာ အကြိမ်ကြိမ် တူနဲ့ ထုပြီး ပုံဖော်ယူရတာပါ၊ ဒီလိုပါပဲ အသိဉာဏ်ရှိသူ အတွက်တော့ လောကဓံမီးနဲ့ စိတ်အရိုင်းတုံးကို ရဲနေအောင် မီးဖုတ်ပြီး သတိညှပ်နဲ့ ဆွဲယူ၊ ကမ္မဋ္ဌာန်းအာရုံဆိုတဲ့ ပေပေါ်မှာတင်၊ ဝီရိယတူနဲ့ အကြိမ်ကြိမ် ထုနှက်ပေးရင် တန်ဖိုးမဖြတ်နိုင်တဲ့ ဝိပဿနာဉာဏ်၊ မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်ဆိုတဲ့ ဉာဏ်လက်နက်ကောင်းတွေ ရလာမှာပါ၊ ဒီလက်နက်တွေနဲ့ပဲ ကိလေသာ ရန်သူတွေကို ပယ်သတ်ပြီး နိဗ္ဗာန်ဆိုတဲ့ သံသရာလမ်းဆုံးဖြစ်တဲ့ အမြင့်ဆုံးပန်းတိုင်ကို ရောက်မှာ ဖြစ်ပါတယ်"လို့ လောကဓံဆိုးတွေနဲ့ ပတ်သက်တဲ့ အကောင်းဆုံး အသုံးချနည်းကို လမ်းညွှန်ပြခဲ့ပါတယ်။

ပဋာစာရာ ထေရီမလည်း အဆိုးဆုံးလောကဓံမီးတွေနဲ့ အဖုတ်ခံထားရတဲ့ စိတ်ရိုင်းကို မြတ်စွာဘုရား ညွှန်ပြတဲ့ ကမ္မဋ္ဌာန်း အာရုံဆိုတဲ့ ပေပေါ်မှာ သတိဆိုတဲ့ ညှပ်နဲ့ ဆွဲတင်ပြီး ဝီရိယတူနဲ့ အကြိမ်ကြိမ် ရှုပွားထုနှက်ပေးလိုက်နိုင်တာကြောင့် အကောင်းဆုံး ဉာဏ်လက်နက်တွေ ရရှိခဲ့တယ်။ ဒီလက်နက်တွေနဲ့ပဲ ကိလေသာ ရန်သူတွေကို အကြွင်းမဲ့ ပယ်သတ်ပြီး အမြင့်ဆုံး နိဗ္ဗာန်ဓာတ်ကို ရရှိခဲ့တာ ဖြစ်ပါတယ်။

လောကထဲမှာ နေကြတဲ့ မိမိတို့တစ်တွေလည်း မကြုံချင်လည်း ကြုံခဲ့ရ၊ ကြုံနေရ၊ ကြုံရမယ့် လောကဓံဆိုးတွေကို ပဋာစာရာ ထေရီမလို အကောင်းဆုံး အသုံးချနိုင်ဖို့က အဓိကပါလို့ပဲ ဆိုပါရစေ။

**ကျမ်းကိုး** –

၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ၁။ ၂၇၅။
၂။ မဟာဗုဒ္ဓဝင်၊ ဆဋ္ဌတွဲ၊ ဒုတိယပိုင်း၊ ၆၇။
၃။ အပဒါန်ပါဠိတော်၊ ၂။ ၂၃၆။
၄။ အပဒါန်ပါဠိတော် မြန်မာပြန်၊ ၂။ ၂၂၈။
၅။ ထေရီဂါထာပါဠိ၊ ၃၉၂။
၆။ ထေရီဂါထာအဋ္ဌကထာ၊ ၁၁၁။
၇။ ဓမ္မပဒအဋ္ဌကထာ၊ ၁။ ၄၃၇။
၈။ ဓမ္မပဒအဋ္ဌကထာ၊ ၂။ ၂၇၁။



ဝိပဿနာတရားပြတဲ့ ကမ္မဋ္ဌာနာစရိယ ဆရာတော်တိုင်း မဖြစ်မနေ ဟောလေ့ရှိတဲ့ သုတ္တန်တစ်ခု ရှိပါတယ်။ အဲဒါက မဇ္ဈိမ နိကာယ်၊ မူလပဏ္ဏာသပါဠိတော်မှာ မှတ်တမ်းတင်ထားတဲ့ စူဠဝေဒလ္လ သုတ္တန်ပဲ ဖြစ်ပါတယ်။ ဒီသုတ္တန်က အခု ကြည့်ညိုမယ့် ဓမ္မဒိန္နာ



### တရားဟောတဲ့အရာ အသာဆုံး

### ဓမ္မကထိက ဧတဒဂ်ရ

# ဓမ္မဒိန္နာ ထေရီ

ထေရီမ ဟောခဲ့တဲ့ သုတ္တန်ပါ။ ထေရီမရဲ့ လူ့ဘဝတုန်းက ခင်ပွန်းဖြစ်ခဲ့တဲ့ ဝိသာခသူဌေးက တရားဓမ္မနဲ့ပတ်သက်တဲ့ မေးခွန်းတွေ မေးလျှောက်လို့ ထေရီမက ပြန်လည် ဖြေကြားတဲ့အနေနဲ့ ဟောထားတဲ့ သုတ္တန် ဖြစ်ပါတယ်။ ဝိသာခ သူဌေးက အနာဂါမ် အရိယာပုဂ္ဂိုလ် ဖြစ်ပြီး ထေရီမက ရဟန္တာပုဂ္ဂိုလ် ဖြစ်ပါတယ်။

အနာဂါမ်ပုဂ္ဂိုလ်က မေးပြီး ရဟန္တာပုဂ္ဂိုလ်က ဖြေထားတာမို့ ဒီ စူဠဝေဒလ္လသုတ္တန်ကို ဝိပဿနာတရား အားထုတ်သူတိုင်း မဖြစ်မနေ လေ့လာထားသင့်ပါတယ်။ ဒါမှ ကမ္မဋ္ဌာနာစရိယ ဆရာတော်ကြီးတွေ ဟောတာကို အလွယ်တကူ သဘောပေါက်နိုင်မှာ ဖြစ်ပါတယ်။

ဒီသုတ္တန်မှာ 'သက္ကာယ' ဆိုတာ ဘာလဲ၊ ဘယ်ဟာကို 'သက္ကာယဒိဋ္ဌိ' ခေါ်တာလဲ၊ သက္ကာယဒိဋ္ဌိပြုတ်အောင် ဆိုရင် ဘယ်လို နှလုံးသွင်းကျင့်ကြံရမှာလဲစတဲ့ ဝိပဿနာတရားပိုင်းဆိုင်ရာ ဗဟုသုတ တွေ တွေ့ရမှာ ဖြစ်ပါတယ်။ မြတ်စွာဘုရားကလည်း "ရင်ဝလှံစူးတာကို နောက်မှ နုတ်ကွ၊ ဦးခေါင်းမီးလောင်တာကို နောက်မှ ငြိမ်းကွ၊ သက္ကာယဒိဋ္ဌိပြုတ်အောင် အရင်ကျင့်ရမယ်"လို့ သက္ကာယဒိဋ္ဌိ ပယ်တဲ့ ကိစ္စက ပိုအရေးကြီးတဲ့အကြောင်း ဟောခဲ့တာမို့ သက္ကာယနဲ့ သက္ကာယ ဒိဋ္ဌိတို့ရဲ့ အဓိပ္ပာယ်ကို သိဖို့က ယောဂီတိုင်းအတွက် အရေးကြီးတယ် မဟုတ်လား။

ဒါတင်မက နိရောဓသမာပတ်ဝင်စားတာနဲ့ ပတ်သက်တဲ့ ပဋိပတ်နယ်က အဆင့်မြင့် တရားဗဟုသုတတွေကိုလည်း ဒီသုတ္တန် ကနေ ရနိုင်မှာ ဖြစ်ပါတယ်။ အခုလို တရားကျင့်သူတိုင်း အတွက် မဖြစ်မနေ သိထားရမယ့် အချက်အလက်တွေ များစွာ ပါဝင်တဲ့ ဒီစူဠဝေဒလ္လသုတ္တန်ကို ဟောကြားပြီး ဓမ္မကထိကဧတဒဂ် ရခဲ့တဲ့ ဓမ္မဒိန္နာထေရီမအကြောင်းကို ကြည်ညိုကြပါစို့။

## (က) ထေရီမရဲ့ နာမည်နဲ့ ဧတဒဂ်အဓိပ္ပာယ်

ထေရီမရဲ့ နာမည်က 'ဓမ္မဒိန္နာ'ပါ။ တရားပေးသူ၊ တရား ဟောသူလို့ အဓိပ္ပာယ်ရပါတယ်။ ရတဲ့ ဧတဒဂ်ကတော့ ဓမ္မကထိက ဧတဒဂ်ပါ။ လူ့ဘဝတုန်းက ခင်ပွန်းတော်ခဲ့တဲ့ အနာဂါမ် ဝိသာခ သူဌေး မေးတဲ့ မေးခွန်းတိုင်းကို ပြန်လည် ရှင်းလင်းဖြေကြားပြီး ဟောကြားခဲ့တဲ့ စူဠဝေဒလ္လသုတ် တရားတော်ကြောင့် ဒီဓမ္မကထိက

တောဒဂ်ကို ရခဲ့တာ ဖြစ်ပါတယ်။ တရားဟောကောင်းတဲ့ ဘိက္ခုနီမတွေ ထဲမှာ အသာဆုံးသူလို့ အခိပ္ပာယ်ရပါတယ်။

## (ခ) အတိတ်ဘဝပါရမီနဲ့ ဆုတောင်း အလုပ်သမဘဝကနေ သူဌေးချွေးမ ဖြစ်

ဓမ္မဒိန္နာထေရီမအလောင်း အမျိုးကောင်းသမီးဟာ ပဒုမုတ္တရ မြတ်စွာဘုရားရှင် လက်ထက်တော်မှာ ဆင်းရဲနွမ်းပါး မထင်ရှားတဲ့ အမျိုးမှာ ဖြစ်ခဲ့ပြီး သူတစ်ပါးခိုင်းစေတဲ့အလုပ်ကို လုပ်ရတဲ့ အလုပ်သမ ဖြစ်ခဲ့ပါတယ်။ ဒါပေမဲ့ သူမဟာ ပညာရင့်ကျက်သူ၊ ကိုယ်ကျင့်သီလ ကို တန်ဖိုးထား စောင့်ထိန်းသူ ဖြစ်ပါတယ်။

တစ်နေ့မှာတော့ ပဒုမုတ္တရ မြတ်စွာဘုရားရှင်ရဲ့ အဂ္ဂသာဝက ဖြစ်တဲ့ အရှင်သုဇာတမထေရ် ဆွမ်းခံကြွလာတာကို ရေခပ်သွားရင်း ဖူးခဲ့ရပါတယ်။ ဒီအခါ ကြည်ညိုစိတ် ဖြစ်ပေါ်လာလို့ သူစားဖို့ ယူလာ တဲ့ မုန့်ကို မထေရ်မြတ်အား လောင်းလှူလိုက်ပါတယ်။ မထေရ်မြတ် လည်း သူမကို ချီးမြှောက်တဲ့အနေနဲ့ မုန့်ကို အလှူခံပြီး အဲဒီနေရာမှာပဲ ထိုင်ကာ ဘုဉ်းပေးတော်မူပါတယ်။ သူမအတွက် ကံကောင်းတာက သူမ လှူဒါန်းရတဲ့ အရှင်သုဇာတမထေရ်ဟာ အဲဒီအချိန်မှာ နိရောဓ သမာပတ် ဝင်စားရာကနေ ထတော်မူခါစ အချိန် ဖြစ်ပါတယ်။ ဒီလို သမာပတ်မှ ထပြီးစအချိန် လှူဒါန်းရတဲ့ ကောင်းမှုဆိုတာ မကြာခင် မှာပဲ အကျိုးပေးနိုင်စွမ်းရှိပါတယ်။

ဒီထေရီမအလောင်းအလျာ အလုပ်သမ အမျိုးသမီးလေးဟာ အရှင်မြတ်ကို မုန့်လှူရရုံနဲ့ အားမရသေးလို့ သူမရဲ့ ဆံပင်တွေကို ရသမျှနဲ့ ရောင်းချပြီး အရှင်မြတ်ကို အိမ်ပင့်ကာ ဆွမ်းခဲဖွယ် ဘောဇဉ် တွေ လှူဒါန်းခဲ့ပြန်ပါတယ်။ ဒီလို အလှူရက်ရောတာကို သူမရဲ့ အလုပ်ရှင်သူဌေး ကြားသိရတဲ့အခါ နှစ်သက်သဘောကျလို့ သူဌေးက သူ့သားနဲ့ ပေးစားပြီး ချွေးမအရာ ထားခဲ့ပါတယ်။ အလုပ်သမ

ဘဝကနေ အခုလို သူဌေးချွေးမ ဖြစ်ရတာဟာ နိရောဓသမာပတ်မှ ထခါစ အရှင်မြတ်ကို လှူဒါန်းရတဲ့ ကုသိုလ်က ချက်ချင်း အကျိုး ပေးတဲ့အတွက်ကြောင့်ပဲ ဖြစ်ပါတယ်။

## ဓမ္မကထိကဧတဒဂ် ရလိုကြောင်း ဆုတောင်း

တစ်နေ့မှာတော့ သူဌေးချွေးမဟာ ယောက္ခမသူဌေးကတော် ကြီးနဲ့အတူ မြတ်စွာဘုရားကျောင်းတော် သွားရောက်ပြီး တရားနာ ခဲ့ပါတယ်။ ဒီတရားပွဲမှာပဲ ပဒုမုတ္တရ မြတ်စွာဘုရားက ဘိက္ခုနီမ တစ်ပါးကို တရားဟောကောင်းတဲ့အရာ အသာဆုံး ဓမ္မကထိက ဧတဒဂ်ဘွဲ့ထူးနဲ့ ချီးမြှောက်တော်မူခဲ့ပါတယ်။ ဒီလို ချီးမြှောက်တာကို သူဌေးချွေးမ ဖူးတွေ့ရတဲ့အခါ အားကျစိတ်ဖြစ်ပေါ်လာလို့ ဘုရားအမှူး ပြုတဲ့ သံဃာတော်တွေကို ပင့်ဖိတ်ပြီး မဟာဒါန ကြီးကျယ်တဲ့အလှူကို ပေးလှူခဲ့ပါတယ်။ အလှူပွဲပြီးတဲ့အခါမှာတော့ ဓမ္မကထိကဧတဒဂ်ရတဲ့ ဘိက္ခုနီမလို သူမလည်း နောင်တစ်ဆူဆူသော ဘုရားရှင်လက်ထက် တော်မှာ ဒီဧတဒဂ်မျိုးရပြီး ကျွတ်တမ်းဝင်ပါရစေလို့ ဆုတောင်းခဲ့ပါ တယ်။

## ဖုဿဘုရားရှင်လက်ထက် ဘဏ္ဍာစိုးသူဌေးကတော်ဘဝ

သူဌေးချွေးမဟာ အသက်ထက်ဆုံး ကောင်းမှုကုသိုလ်တွေ ပြုခဲ့ပြီး အဲဒီ ဘဝကနေ ကွယ်လွန်တဲ့အခါ တာဝတိံသာနတ်ပြည် ရောက်ခဲ့ပါတယ်။ နတ်ပြည်ကနေ စုတေကွယ်လွန်တဲ့အခါ လူ့ပြည်၊ နတ်ပြည်တွေမှာ သံသရာကျင်လည်ခဲ့ပြီး ဖုဿဘုရားရှင် လက်ထက် တော် ရောက်တဲ့အခါမှာတော့ မြတ်စွာဘုရားနဲ့ ဖတူမိကွဲ ညီအစ်ကို တော်စပ်တဲ့ ညီနောင်သုံးယောက်ရဲ့ ဘဏ္ဍာကို ထိန်းသိမ်း စောင့်ရှောက် ရတဲ့ ဘဏ္ဍာစိုးရဲ့ ဇနီး၊ သူဌေးကတော် ဖြစ်ခဲ့ပါတယ်။

တစ်ခါမှာတော့ အဲဒီ ညီနောင်သုံးယောက်က နောင်တော် ဖုဿမြတ်စွာဘုရားအမှူးရှိတဲ့ သံဃာတော်တွေကို အကြီးအကျယ် အလှူဒါနပြုခဲ့ကြတယ်။ ဒီပွဲမှာ ဘဏ္ဍာစိုးသူဌေးကတော်ကြီးဟာ အလှူပွဲအတွက် လှူဖွယ်ပစ္စည်းဝတ္ထု ထုတ်ပေးဖို့ ပြောလာတဲ့အခါ တစ်ခုတောင်းရင် နှစ်ခု၊ နှစ်ခုတောင်းရင် လေးခု စသဖြင့် ရက်ရက် ရောရော ထုတ်ပေးခဲ့ပါတယ်။ အလှူပွဲကြီး အစစအရာရာ အဆင်ပြေ ချောမွေ့အောင် သဒ္ဓါတရား ထက်ထက်သန်သန်နဲ့ စနစ်တကျ စီမံ ဆောင်ရွက်ပေးခဲ့တယ်။ အဲဒီ ဘဝမှာလည်း အသက်ထက်ဆုံး ကောင်းမှုကုသိုလ်တွေ ကြိုးစားပြုခဲ့တယ်။

## ကဿပဘုရားရှင်လက်ထက် သုဓမ္မာမင်းသမီးဘဝ

ဘဏ္ဍာစိုးသူဌေးကတော်ဘဝကနေ သံသရာတစ်လျှောက် နတ်ပြည်၊ လူ့ပြည်တွေမှာ ကျင်လည်ခဲ့ပြီး ကဿပမြတ်စွာဘုရားရှင် လက်ထက်တော် ရောက်တဲ့အခါမှာတော့ ကိကီမင်းကြီးရဲ့ သမီးတော် ခုနစ်ဖော်အနက် ခြောက်ယောက်မြောက် သမီးတော် ဖြစ်ခဲ့ပါတယ်။ နာမည်ကတော့ 'သုဓမ္မာ'လို့ ခေါ်ပါတယ်။ သုဓမ္မာမင်းသမီးဟာ ကျန်တဲ့ညီအစ်မတွေနဲ့အတူ ဘိက္ခုနီရဟန်းမ ဝတ်ဖို့ ကိကီမင်းကြီးထံ ခွင့်တောင်းပေမယ့် မင်းကြီးက ခွင့်မပြုလို့ လူဝတ်ကြောင်ဘဝနဲ့ပဲ ရှစ်ပါး သီလ ထိန်းပြီး ကောမာရီဗြဟ္မစရိယအကျင့်ကို အနှစ်နှစ်သောင်း ကျင့်ခဲ့တယ်။ ဒါတင်မက ညီမခုနစ်ဖော်ဟာ ကဿပမြတ်ဘုရားအမှူး ရှိတဲ့ သံဃာတော်တွေ သီတင်းသုံးဖို့ သံဃာ့အရာမ် ကျောင်းတိုက်ကြီး ကိုလည်း ဆောက်လုပ်လှူဒါန်းခဲ့တယ်။

ထေရီမအလောင်းအလျာ သုဓမ္မာမင်းသမီးဟာ အဲဒီ ဘဝမှာ ကုသိုလ်ကောင်းမှုတွေ အသက်ထက်ဆုံး ပြုခဲ့ပြီးနောက် ကဿပ ဘုရားရှင်နဲ့ ဂေါတမဘုရားရှင် နှစ်ဆူအကြား ရှည်လျားတဲ့ ကာလ

တစ်လျှောက်လုံးမှာ အပါယ်လေးပါး မလားဘဲ လူ့ပြည်၊ နတ်ပြည်တွေမှာ ကျင်လည်ခဲ့ရတယ်။

## (ဂ) ပစ္စုပ္ပန်ဘဝ ဇာတ်ကြောင်း
## ဝိသာခသူဌေးနဲ့ ဓမ္မဒိန္နာသူဌေးကတော်တို့ အပြန်အလှန် စကားပြောကြပုံ

အဲဒီလို ကျင်လည်ရင်းက အခုနောက်ဆုံးဘဝ ရောက်တဲ့အခါမှာတော့ ရာဇဂြိုဟ်ပြည်မှာ သူဌေးသမီး ဖြစ်ခဲ့တယ်။ နာမည်က 'ဓမ္မဒိန္နာ'လို့ တွင်ခဲ့တယ်။ အရွယ်ရောက်တဲ့အခါ ဝိသာခ သူဌေးနဲ့ အကြောင်းပါခဲ့ပြီး သူဌေးကတော် ဖြစ်ခဲ့ပါတယ်။ လွန်ခဲ့တဲ့ ၉၂ ကမ္ဘာက ဖုဿဘုရားရှင်လက်ထက်တော်မှာ သဒ္ဓါတရား ထက်သန်ခဲ့ကြတဲ့ ဘဏ္ဍာစိုးဇနီးမောင်နှံတို့ဟာ အခု ဂေါတမဘုရားရှင်လက်ထက် ရောက်လာတဲ့အခါမှာတော့ ဝိသာခသူဌေးနဲ့ ဓမ္မဒိန္နာသူဌေးကတော်ဆိုပြီး ဖြစ်လာကြတာပါ။

ဝိသာခသူဌေးဆိုတာ ဗိမ္ဗိသာရမင်းကြီးနဲ့ အလွန်ခင်မင်ရင်းနှီးတဲ့သူ ဖြစ်ပါတယ်။ မြတ်စွာဘုရားရှင် ဘုရားဖြစ်တော်မူပြီးနောက် ပြာသိုလပြည့်နေ့ ရောက်တဲ့အခါ ရာဇဂြိုဟ်မြို့ကို ကြွတော်မူခဲ့ပါတယ်။ ဒီအခါ ဗိမ္ဗိသာရမင်းကြီးနဲ့အတူ ဝိသာခသူဌေးအမှူးပြုတဲ့ မြို့သူမြို့သား တစ်သိန်း နှစ်သောင်းတို့ဟာ မြတ်စွာဘုရားကို ခရီးဦးကြိုဆိုမှု ပြုခဲ့ကြပြီး မြတ်စွာဘုရားဟောတဲ့ တရားကို နာယူခဲ့ကြတယ်။ ဒီတရားပွဲမှာ ဗိမ္ဗိသာရမင်းကြီးနဲ့အတူ ပရိသတ် တစ်သိန်းတစ်သောင်း သောတာပန် အရိယာဖြစ်ခဲ့ကြပြီး၊ တစ်သောင်းကတော့ ရတနာသုံးပါးကို သက်ဝင်ယုံကြည် ကြည်ညိုကြတဲ့ ဥပါသကာ၊ ဥပါသိကာမတွေ ဖြစ်ခဲ့ကြတယ်။ ဝိသာခသူဌေးလည်း သောတာပန် အရိယာဖြစ်တဲ့ ပရိသတ်ထဲမှာ တစ်ဦးအပါအဝင် ဖြစ်ခဲ့တယ်။

ဝိသာခသူဌေးဟာ အဲဒီလို မြတ်စွာဘုရားကို ပထမဦးဆုံး ဖူးတွေ့ရတဲ့ အချိန်ကတည်းကပဲ သောတာပန် အရိယာ ဖြစ်ခဲ့ပြီး၊

နောက်ပိုင်းကာလ တစ်ချိန်မှာ မြတ်စွာဘုရားရဲ့ တရား နာရတဲ့အခါ သကဒါဂါမ်အရိယာ ဖြစ်ခဲ့တယ်။ အဲဒီနောက် တစ်ချိန်မှာ မြတ်စွာဘုရားဟောတဲ့ တရား နာရပြန်လို့ အနာဂါမ်အရိယာ ဖြစ်ခဲ့ပါတယ်။ ဝိသာခသူဌေး အနာဂါမ်ဖြစ်သွားတဲ့ အခါမှာတော့ သွားပုံလာပုံ အမူအရာတွေဟာ အရင်ကလို မဟုတ်တော့ပါဘူး။ အနာဂါမ်မဖြစ်ခင်က တရားနာပြီး အိမ်ပြန်ရင် မျက်စိကလည်း ဟိုကြည့် ဒီကြည့်၊ မျက်နှာကလည်း ပြုံးလို့ ရွှင်လို့၊ အဲဒီလို မတည်ငြိမ်သေးတဲ့ အမူအရာနဲ့ အိမ်ပြန်လာလေ့ရှိပါတယ်။ အနာဂါမ်အရိယာ ဖြစ်ပြီးတဲ့နောက် အိမ်ပြန်လာတဲ့ အခါမှာတော့ အရင်ကလို မဟုတ်တော့ဘဲ အလွန်ငြိမ်သက်တဲ့ ကိုယ်အမူအရာ၊ အလွန်ငြိမ်းအေးတဲ့စိတ်ထားနဲ့ တည်တည်ငြိမ်ငြိမ် ပြန်လာခဲ့ပါတယ်။

ဒီလို ဣန္ဒြေကြီးကြီးနဲ့ ပြန်လာနေတာကို အိမ်အပေါ်ထပ် ဝရန်တာလသာဆောင်ကနေ သူဌေးကြီးပြန်အလာကို မျှော်နေတဲ့ ဓမ္မဒိန္နာသူဌေးကတော်ကြီးက သတိထားမိလိုက်တယ်။ ဘယ်လို အကြောင်းထူးများ ရှိပါလိမ့်လို့ တွေးပြီး သူဌေးကြီးကို ကြိုဆိုဖို့ အောက်ထပ်ဆင်း၊ အိမ်ဦးလှေကားရင်းမှာ ရပ်ပြီးနောက် သူဌေးကြီးကို လက်ကလေး ကမ်းပေးလိုက်တယ်။ အရင်ရက်တွေကတော့ ဝိသာခသူဌေးဟာ ဓမ္မဒိန္နာသူဌေးကတော်ကြီးရဲ့လက်ကို ဆွဲကိုင်ပြီး အိမ်ပေါ်တက်နေကျပါ။ ဒါပေမဲ့ အဲဒီနေ့မှာတော့ သူဌေးကြီးဟာ သူဌေးကတော်ကြီးရဲ့လက်ကို မကိုင်တဲ့အပြင် သူ့လက်ကို ကွေးတောင်ကွေးထားလိုက်သေးတယ်။ ဒါနဲ့ သူဌေးကတော်ကြီးက 'သြော်··· ထမင်းစားချိန်ကျ သိရပါလိမ့်မယ်လေ' လို့ တွေးပြီး စိတ်ကို ဖြေလိုက်ပါတယ်။

အရင်ကဆို ဝိသာခသူဌေးကြီးဟာ ဓမ္မဒိန္နာသူဌေးကတော်ကြီးနဲ့အတူ ထမင်းလက်ဆုံစားနေကျ ဖြစ်ပေမယ့် အဲဒီနေ့ ထမင်းစားချိန်မှာတော့ သူဌေးကြီးဟာ သူဌေးကတော်ကြီးကို မခေါ်တော့ဘဲ

ကမ္မဋ္ဌာန်း အားထုတ်နေတဲ့ ရဟန်းတော်တစ်ပါးလို ဣန္ဒြေကြီးစွာနဲ့ တစ်ယောက်တည်းပဲ စားနေခဲ့တယ်။ ဒီအခါမှာလည်း 'သြော်… ညအချိန်ရောက်ရင် အဖြေတစ်ခုတော့ သိရမှာပါလေ'လို့ တွေးပြီး တော့ စိတ်ကို ဖြေသိပ်လိုက်ပြန်ပါတယ်။

ညအိပ်ချိန် ရောက်ပြန်တော့လည်း သူဌေးကြီးဟာ နှစ်ယောက် အိပ်ခန်းထဲ မဝင်ဘဲ သီးသန့် အခန်းလွတ်တစ်ခန်းမှာ ခုတင်လေး ချခိုင်းပြီး တစ်ယောက်တည်း အိပ်စက်ခဲ့တယ်။ ဒီအခါမှာတော့ သူဌေး ကတော်ကြီးဟာ 'သြော်… သူဌေးကြီးမှာ ငါ့အပြင် စိတ်ဝင်စားရတဲ့ သူများ ရှိနေရော့သလား၊ ဒါမှမဟုတ် တစ်ယောက်ယောက်ကများ ငါတို့နှစ်ယောက် စိတ်ဝမ်းကွဲအောင် ကုန်းတိုက်ထားလေရော့သလား၊ ဒါမှမဟုတ် ငါ ဘာများ အပြစ်လုပ်မိပါလိမ့်'စသဖြင့် အမျိုးမျိုးတွေး ပြီး အကြီးအကျယ် စိတ်မချမ်းမမြေ့ ဖြစ်ခဲ့တယ်။ ဒီလိုနဲ့ တစ်ရက်၊ နှစ်ရက် အကြာမှာတော့ သူဌေးကတော်ကြီးဟာ ရင်ထဲ မျိုသိပ်မထား နိုင်တော့ဘဲ သူဌေးကြီး တစ်ယောက်တည်း အိပ်စက်အနားယူနေချိန် သူဌေးကြီးထံ သွားပြီး လက်အုပ်ကလေးချီကာ မဝံ့မရဲနဲ့ မေးခွန်းတွေ မေးခဲ့လို့ သူဌေးကြီးကလည်း အခုလို ပြန်လည် ဖြေကြားခဲ့တယ်–

"ဓမ္မဒိန္နာ၊ ညကြီးမင်းကြီး အခါမဟုတ် ဘာလို့ လာရတာတုံး"

"ဟုတ်ပါတယ် အရှင်သူဌေး… ကျွန်မ အခါမဟုတ်ဘဲ လာခဲ့မိပါတယ်၊ အရှင်သူဌေးဟာ အရင်ကလို မဟုတ်တော့ဘူးနော်၊ ဘယ်လိုလဲ အရှင်သူဌေးမှာ ကျွန်မအပြင် အခြား တစ်ယောက်ယောက် အပေါ်များ စိတ်ဝင်စားနေရော့သလား"

"မရှိပါဘူး ဓမ္မဒိန္နာ"

"ဒါဆိုရင် တစ်ယောက်ယောက်ကများ ကျွန်မတို့နှစ်ယောက် ကို စိတ်ဝမ်းကွဲအောင် ကုန်းတိုက်ထားလို့လား"

"အဲဒီလို စိတ်ဝမ်းကွဲအောင် ကုန်းတိုက်သူဆိုတာလည်း မရှိ ပါဘူး"

“ဒါဖြင့်ရင် ကျွန်မမှာ အပြစ်တစ်ခုခုများ ရှိနေပါသလား”

“အဲဒီလိုလည်း မရှိပါဘူး”

“ဒါဆိုရင် ဘာလို့ အရှင်သူမြတ်ဟာ ကျွန်မနဲ့ အရင်ကလို စကားမပြောတော့တာလဲ”

ဓမ္မဒိန္နာသူဌေးကတော်က ခုလို တိုက်ရိုက်မေးမြန်းလာတဲ့ အခါ ဝိသာခသူဌေးကြီးမှာ ခုလို ဆင်ခြင်စဉ်းစားမိခဲ့တယ် –

‘သြော်… ငါရထားတဲ့ လောကုတ္တရာတရားဆိုတာ လျှို့ဝှက်ထားရမယ့် တရား ဖြစ်တယ်၊ ရပ်စကား ရွာစကားတွေလို လျှောက်ပြောရမယ့်အရာမျိုး မဟုတ်ဘူး၊ ဒါပေမဲ့လည်း သူမေးတာ ငါမဖြေခဲ့ရင် သူဌေးကတော်ဟာ ဒီနေရာမှာပဲ နှလုံးကွဲပြီး သေသွားနိုင်တယ်’

ဒါနဲ့ ဝိသာခသူဌေးဟာ ခုလိုပဲ ပွင့်ပွင့်လင်းလင်း ပြောလိုက်ရတော့တယ်။

“ဓမ္မဒိန္နာ… ငါဟာ မြတ်စွာဘုရားဟောတဲ့ တရားကို နာရတဲ့ အတွက် လောကုတ္တရာ တရားထူးကို ရရှိသိမြင်ခဲ့တယ်၊ လောကုတ္တရာတရား သိမြင်ထားတဲ့သူအတွက် ဒီလို လောကီ အပြုအမူတွေဆိုတာ ဘယ်လိုမှ မသင့်တော်တော့ဘူး၊ တကယ်လို့ သင်ဆန္ဒရှိမယ်ဆိုရင် သင့်ဘက်က ပါလာတဲ့ ကုဋေလေးဆယ်၊ ငါ့ဘက်ကပါတဲ့ ကုဋေလေးဆယ်၊ ပေါင်း ကုဋေ ရှစ်ဆယ်သော ပစ္စည်းဥစ္စာတွေ ဒီအိမ်မှာ ရှိတယ်၊ ဒီပစ္စည်းဥစ္စာတွေကို သင်ပိုင်ပြုလုပ်ပြီး ငါရဲ့ အမိအရာမှာဖြစ်ဖြစ်၊ အစ်မကြီးအရာမှာဖြစ်ဖြစ် နေပေးပါ၊ သင်ပေးတဲ့ အစာအာဟာရနဲ့ပဲ ငါမျှတပြီး နေသွားပါ့မယ်။

ဒါမှမဟုတ် ဒီပစ္စည်းဥစ္စာတွေ အကုန်လုံးယူပြီး မိဘအိမ် ပြန်ချင်တယ်ဆိုရင်လည်း ပြန်နိုင်ပါတယ်။

ဒါမှမဟုတ် သင့်မှာ အခြားသူတစ်ယောက်ကို တောင့်တမျှော်လင့်တဲ့စိတ် မရှိခဲ့ရင်လည်း ငါဟာ သင့်ကို နှမအရင်း တစ်ယောက်

လိုဖြစ်ဖြစ် သမီးအရင်း တစ်ယောက်လိုဖြစ်ဖြစ် ကျွေးမွေးစောင့်ရှောက်ပါ့မယ်"

ဝိသာခသူဌေး ပွင့်ပွင့်လင်းလင်း ပြောလိုက်တဲ့ ဒီစကားကို ကြားလိုက်ရတဲ့အခါ ဓမ္မဒိန္နာ သူဌေးကတော်မှာ ခုလို အတွေးတွေ ဖြစ်ပေါ်ခဲ့တယ် -

"သာမန်ယောကျ်ားတစ်ယောက်ဆိုရင် ဒီလိုမျိုး မပြောနိုင်လောက်ဘူး။ တကယ်ကိုပဲ အရှင်သူဌေးဟာ လောကုတ္တရာတရား သိသွားတာ ဖြစ်နိုင်တယ်။ ငါ အထူးသိချင်တာက ဒီလောကုတ္တရာတရားကို ယောကျ်ားတွေပဲ သိနိုင်တာလား၊ ငါတို့ မိန်းမသားတွေကော မသိနိုင်ဘူးလား"

ဒီအတွေးတွေ ဖြစ်ပေါ်ပြီးတဲ့နောက် ဓမ္မဒိန္နာသူဌေးကတော်ဟာ ဝိသာခသူဌေးကို ခုလိုပဲ တိုက်ရိုက် မေးလိုက်ပါတယ် -

"အရှင်သူဌေး... ဘယ်လိုလဲ၊ ဒီလောကုတ္တရာတရားကို ယောကျ်ားတွေပဲ ရနိုင်တာလား၊ မိန်းမသားတွေကော မရနိုင်ဘူးလား"

ဒီအခါ ဝိသာခသူဌေးက "ဘယ့်နှယ်ပြောပါလိမ့် ဓမ္မဒိန္နာ... ဝိပဿနာတရား အားထုတ်သူတိုင်း ဒီလောကုတ္တရာတရားကို ရနိုင်ပါတယ်။ ရေးကောင်းမှုရှိသူတိုင်း ဒီလောကုတ္တရာတရားကို ရနိုင်ပါတယ်"လို့ ပြန်လည် ဖြေကြားခဲ့ပါတယ်။ ဒီအဖြေကြားရပြီးတဲ့အခါမှာတော့ ဓမ္မဒိန္နာသူဌေးကတော်ဟာ ဘိက္ခုနီ ရဟန်းမ ဝတ်ပြီး တရားအားထုတ်ခွင့်ပြုဖို့ ဝိသာခသူဌေးထံ ခွင့်တောင်းလိုက်ပါတယ်။ ဒီအခါ ဝိသာခသူဌေးက "ကောင်းပြီ ဓမ္မဒိန္နာ... ငါလည်း သင့်ကို အဲဒီလို ဖြစ်စေချင်ခဲ့တာပါ၊ ဒါပေမဲ့ သင့်စိတ်ဆန္ဒကို မသိရလို့သာ သင့်ကို ဘိက္ခုနီရဟန်းမ ဝတ်ဖို့ မတိုက်တွန်းခဲ့တာပါ"လို့ ဝမ်းသာစကား ပြန်ပြောခဲ့တယ်။

အဲဒီနောက်မှာတော့ ဝိသာခသူဌေးဟာ ဗိမ္ဗိသာရမင်းကြီးထံ သွားပြီး ဓမ္မဒိန္နာသူဌေးကတော် ဘိက္ခုနီရဟန်းမ ဝတ်တော့မှာ ဖြစ်

ကြောင်း၊ ဒါကြောင့် ရွှေထမ်းစင် ရလိုပါကြောင်း၊ မြို့တော်ကိုလည်း သန့်ရှင်းအောင် စေခိုင်းပေးစေလိုပါကြောင်း သံတော်ဦးတင် လျှောက်ထားခဲ့တယ်။ မင်းကြီးလည်း ဝိသာခသူဌေး တောင်းဆိုတဲ့အတိုင်း ရွှေထမ်းစင် ပေးလိုက်ပြီး မြို့တော်တစ်ခွင် သန့်ရှင်းဖို့လည်း အမှုထမ်းတွေကို ခိုင်းစေခဲ့တယ်။

**ဓမ္မဒိန္နာသူဌေးကတော်ကြီး ဘိက္ခုနီရဟန်းမဘဝ ခံယူ**

ဝိသာခသူဌေးဟာ ဓမ္မဒိန္နာသူဌေးကတော်ကို နံ့သာရေနဲ့ ရေချိုးစေပြီး၊ အဆင်တန်ဆာတွေနဲ့ ဝတ်ဆင်တန်ဆာဆင်စေတယ်။ ပြီးတဲ့အခါ ရွှေထမ်းစင်ပေါ်တင်ပြီး ဘိက္ခုနီမတွေနေတဲ့ ကျောင်းတိုက်ကို ဆွေမျိုးတွေ ဝန်းရံပြီး တခမ်းတနား ပို့ပေးခဲ့တယ်။ လမ်းတစ်လျှောက်မှာလည်း တစ်မြို့လုံး မွှေးကြိုင်နေလောက်အောင် ပန်းနံ့သာတွေနဲ့ ဓမ္မဒိန္နာကို ပူဇော်ခဲ့တယ်။ ဘိက္ခုနီမကျောင်း ရောက်တဲ့အခါ "အရှင်မကြီးတို့ဘုရား… တပည့်တော်ရဲ့ ကြင်ဖော် ဓမ္မဒိန္နာသူဌေးကတော်ကို ရှင်ရဟန်းမ ပြုပေးတော်မူကြပါဘုရား"လို့ တောင်းပန်လျှောက်ထားတယ်။ ဘိက္ခုနီမတွေက သူဌေးကြီးဇနီး မောင်နှံတို့ ခေတ္တခဏ စိတ်အခန့်မသင့် ဖြစ်ကြလို့ လျှောက်တယ်ထင်ပြီး "သူဌေးကြီး… တစ်ခါ၊ နှစ်ခါ မှားမိတဲ့အပြစ်ကို သည်းခံသင့်ပါတယ်"လို့ ပြောဆိုခဲ့ကြတယ်။ ဒီအခါ ဝိသာခသူဌေးက "အရှင်မကြီးတို့ဘုရား… ဓမ္မဒိန္နာ သူဌေးကတော်မှာ ဘာအပြစ်မှ မရှိပါ၊ ဓမ္မဒိန္နာဟာ သဒ္ဓါကြည်ညိုစိတ်နဲ့ ရှင်ရဟန်းမ ပြုလိုသူ ဖြစ်ပါတယ် ဘုရား"လို့ လျှောက်ထားခဲ့တယ်။

ဝိနည်းအရာ ကျွမ်းကျင်တဲ့ ဘိက္ခုနီမတစ်ပါးက ဓမ္မဒိန္နာသူဌေးကတော်ကို တစပဉ္စက ကမ္မဋ္ဌာန်း သင်ပြပေးတယ်။ ပြီးတဲ့အခါ ဆံရိတ်ပယ် ဆံချပေးပြီး ရှင်ရဟန်းမ ပြုပေးလိုက်ပါတယ်။ ဝိသာခသူဌေးလည်း ဓမ္မဒိန္နာထေရီကို "အရှင်မဘုရား… သာသနာ့ဘောင်

မှာ ပျော်ပျော် နေတော်မူပါ၊ မြတ်စွာဘုရားရှင်က တရားတော်ကို အစ၊ အလယ်၊ အဆုံး ကောင်းမွန်အောင် အပြည့်အစုံ ဟောထားပါတယ် ဘုရား”လို့ လျှောက်ထား ရှိခိုးပြီး အိမ်ပြန်ခဲ့ပါတယ်။

ဓမ္မဒိန္နာထေရီမ ရဟန်းပြုတဲ့နေ့ကစပြီး ပစ္စည်းပစ္စယ လာဘ်လာဘတွေ ပေါပေါများများ ရရှိခဲ့ပါတယ်။ ဒီပစ္စည်းပစ္စယတွေကို စီမံခန့်ခွဲနေရတာနဲ့ပဲ တရားအားထုတ်ခွင့်တောင် ကောင်းကောင်း မရခဲ့ပါဘူး။ ဒီအခါ ဓမ္မဒိန္နာ ထေရီမမှာ ‘ဝိသာခသူဌေးဟာ လူ့ဘောင်မှာ နေရင်းနဲ့တောင် သံသရာဝဋ်ဒုက္ခဆုံးအောင် ကျင့်ကြံအားထုတ်နိုင်ခဲ့တယ်၊ ရဟန်းမဘဝ ရထားတဲ့ငါက သံသရာဝဋ်ဒုက္ခတွေ ဆုံးအောင် ပိုပြီး ကျင့်ကြံအားထုတ်မှ သင့်တော်မယ်’လို့ အတွေး ဝင်လာခဲ့တယ်။ ဒီနောက်မှာတော့ ဓမ္မဒိန္နာထေရီဟာ ဆရာဥပဇ္ဈာယ်တွေဖြစ်တဲ့ ထေရီမကြီးတွေထံ သွားရောက်ပြီး “အရှင်မကြီးတို့ ဘုရား… တပည့်တော်ဟာ အာရုံငါးပါး ရှုပ်ထွေးရောပြွမ်းတဲ့ ဒီနေရာမှာ မပျော်ပိုက်ပါ ဘုရား၊ ရွာငယ် တောကျောင်းတစ်ခုကို သွားလိုပါတယ်”လို့ လျှောက်ထားခဲ့တယ်။ ဓမ္မဒိန္နာထေရီဟာ အမျိုးကြီးကနေ ရဟန်းပြုလာတဲ့သူ ဖြစ်တာမို့ ထေရီမကြီးတွေလည်း ဓမ္မဒိန္နာထေရီမရဲ့ အလိုဆန္ဒကို မတားနိုင်ဘဲ ဓမ္မဒိန္နာထေရီမကို ခေါ်ပြီး ရွာငယ်တောကျောင်းဆီ သွားခဲ့ကြတယ်။

## ဓမ္မဒိန္နာထေရီမ ရဟန္တာဖြစ်

ရွာငယ်တောကျောင်း ရောက်တဲ့အခါ ဓမ္မဒိန္နာထေရီမဟာ ထေရီမကြီးတွေထံကနေ ကမ္မဋ္ဌာန်းတရား သင်ယူပြီး တရားအားထုတ်ခဲ့ပါတယ်။ ဓမ္မဒိန္နာထေရီမဟာ ရှေးဘဝများစွာက ရုပ်နာမ်ဓမ္မသင်္ခါရတရားတွေကို ဝိပဿနာဉာဏ်နဲ့ ကြိတ်ချေသုံးသပ် ရှုမှတ်ပွားများခဲ့ဖူးသူ ဖြစ်တာကြောင့် မကြာခင်မှာပဲ ပဋိသမ္ဘိဒါဉာဏ်

လေးပါးနဲ့တကွ အရဟတ္တဖိုလ် ဆိုက်ရောက်ပြီး ရဟန္တာထေရီမ ဖြစ်ခဲ့ပါတယ်။

ဒီနောက်မှာတော့ ဓမ္မဒိန္နာ ထေရီမဟာ 'ငါ့မှာ ရဟန်းကိစ္စ ပြီးသွားပြီ၊ ဒီတောအရပ်မှာ ငါလုပ်စရာကိစ္စ ဘာမှ မရှိတော့ဘူး၊ ဒါကြောင့် ရာဇဂြိုဟ်ပြန်မယ်၊ ရာဇဂြိုဟ်မှာ ငါ့ကို အကြောင်းပြုပြီး ဆွေတွေမျိုးတွေ ကောင်းမှုကုသိုလ် ပြုကြနိုင်ပေလိမ့်မယ်' လို့ စဉ်းစား ဆင်ခြင်ပြီးနောက် ဆရာ ဥပဇ္ဈာယ် ထေရီမကြီးတွေကို ပြန်လည် ပင့်ဆောင်ပြီး ရာဇဂြိုဟ်ကို ပြန်လာခဲ့ပါတယ်။ ဒီအခါ ဝိသာခ သူဌေး ဟာ 'ဓမ္မဒိန္နာထေရီမ ရာဇဂြိုဟ်ကို ပြန်လာသတဲ့' ဆိုတဲ့သတင်းကို ကြားရတာနဲ့ 'သြော်… ဓမ္မဒိန္နာထေရီမ၊ ရဟန်းမ ဝတ်ပြီး မကြာခင် ရွာငယ်တောကျောင်းဆီ သွားခဲ့တယ်၊ သွားပြီးတော့လည်း မကြာခင်မှာပဲ ရာဇဂြိုဟ်ပြန်လာခဲ့တယ်၊ ဘယ်လို ဖြစ်တာပါလိမ့်၊ ငါကိုယ်တိုင် သိအောင် သွားစုံစမ်းဦးမှပဲ' လို့ တွေးမိခဲ့တယ်။

ညနေ ရောက်တဲ့အခါ ဝိသာခသူဌေးဟာ ဓမ္မဒိန္နာထေရီမထံ သွားရောက်ပြီး ရှိခိုးဦးချ ကန်တော့ခဲ့တယ်။ ဒီနောက်တော့ 'အရှင်မ… သာသနာ့ဘောင်မှာ ပျော်သလား၊ မပျော်ဘူးလား' လို့ မေးလို့ကတော့ ပညာရှိမဆန်ဘူး။ ဒီတော့ ဥပါယ်တံမျဉ်နဲ့ ခန္ဓာငါးပါးနဲ့ ဆက်စပ်တဲ့ မေးခွန်းပြဿနာကို မေးလျှောက်မယ်၊ ဒီအခါ ပြဿနာ ဖြေဆိုပုံကို ကြည့်ပြီးတော့ပဲ ဓမ္မဒိန္နာထေရီမရဲ့ သာသနာ့ဘောင်မှာ ပျော်၊ မပျော်ကို သိအောင် အကဲခတ်တော့မယ်' လို့ တွေးကြံမိပြီး ဓမ္မဒိန္နာထေရီမကို တရားသဘောနဲ့ပတ်သက်တဲ့ ပြဿနာတွေကို မေးလျှောက်ခဲ့တယ်။ ဝိသာခသူဌေးမေးတဲ့ မေးခွန်းတိုင်းကို ဓမ္မဒိန္နာ ထေရီမကလည်း ဖော်ပြပါအတိုင်း မဆိုင်းမတွ ရဲဝံ့စွာပဲ ပြန်လည် ဖြေကြားခဲ့တယ်။

**မဇ္ဈိမနိကာယ်၊ မူလပဏ္ဏာသပါဠိတော် စူဠဝေဒလ္လသုတ်လာ ဝိသာခသူဌေးနဲ့ ဓမ္မဒိန္နာထေရီမ တရားဆွေးနွေးခန်း**

(၁) “‘အရှင်မ… ‘သက္ကာယ သက္ကာယ’လို့ ဆိုကြတယ်၊ ‘အဘယ်ကို သက္ကာယ’လို့ ဘုရား ဟောပါသလဲ”

“ဒါယကာ ဝိသာခ… တဏှာ၊ ဒိဋ္ဌိဆိုတဲ့ ဥပါဒါန်နှစ်ပါးတို့ရဲ့ စွဲလမ်းစရာအာရုံဖြစ်တဲ့ ခန္ဓာ ငါးပါးကို ‘သက္ကာယ’လို့ ဘုရား ဟောပါတယ်၊ အဲဒီ ခန္ဓာ ငါးပါးဆိုတာ ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရနဲ့ ဝိညာဏ်တို့ပဲ ဖြစ်တယ်၊ ဒီ စွဲလမ်းဖွယ် ခန္ဓာ ငါးပါးကို ‘သက္ကာယ’လို့ ခေါ်တယ်”

(**မှတ်ချက်**။ ။***သက္ကာယ***’*ဆိုတာ ထင်ရှားဖြစ်ဆဲ ခန္ဓာ ငါးပါးကို ဆိုလိုတာ ဖြစ်ပါတယ်။*)

(၂) “‘အရှင်မ… ‘သက္ကာယသမုဒယ သက္ကာယသမုဒယ’လို့ ဆိုကြတယ်၊ ‘အဘယ်ကို သက္ကာယသမုဒယ’လို့ ဘုရား ဟောပါသလဲ”

“ဒါယကာ ဝိသာခ… ‘တဏှာ’ကို ‘သက္ကာယသမုဒယ’ လို့ ဘုရား ဟောပါတယ်၊ ‘တဏှာ’ ဆိုတာ ဘဝသစ်တွေကို ဖြစ်စေနိုင်တယ်၊ နှစ်သက်မှု စွဲလမ်းမှုနဲ့ အတူတကွ ဖြစ်တယ်၊ ထိုထိုဘဝ ထိုထိုအာရုံတွေအပေါ် အလွန်နှစ်သက်တတ်တယ်၊ အဲဒီတဏှာက ကာမတဏှာ (ကာမဂုဏ်ကို တပ်မက်မှု)၊ ဘဝတဏှာ (ဘဝဖြစ်မှုကို တပ်မက်မှု)၊ ဝိဘဝတဏှာ (ဘဝပြတ်မှုကို တပ်မက်မှု)ဆိုပြီး သုံးမျိုး ရှိတယ်၊ အဲဒီတပ်မက်မှု တဏှာကို ‘သက္ကာယသမုဒယ’လို့ ဘုရား ဟောပါတယ်”

(**မှတ်ချက်**။ ။***သက္ကာယသမုဒယ***’*ဆိုတာ ‘သက္ကာယဖြစ်ကြောင်း’ကို ဆိုလိုတာ ဖြစ်ပါတယ်။*)

(၃) “‘အရှင်မ… ‘သက္ကာယနိရောဓ သက္ကာယနိရောဓ’လို့ ဆိုကြတယ်၊ အဘယ်ကို ‘သက္ကာယနိရောဓ’လို့ ဘုရား ဟောပါသလဲ”

“ဒါယကာ ဝိသာခ… တဏှာ အကြွင်းမဲ့ ချုပ်ငြိမ်းရာဖြစ်တဲ့ နိဗ္ဗာန်ကို ‘သက္ကာယနိရောဓ’ လို့ ဘုရား ဟောပါတယ်”

(**မှတ်ချက်**။ ။ ***‘သက္ကာယနိရောဓ’*** *ဆိုတာ ‘သက္ကာယချုပ်ငြိမ်းရာ’ ကို ဆိုလိုတာ ဖြစ်ပါတယ်။)*

(၄) “အရှင်မ… ‘သက္ကာယနိရောဓဂါမိနီပဋိပဒါ၊ သက္ကာယနိရောဓဂါမိနီပဋိပဒါ’ လို့ ဆိုကြတယ်၊ အဘယ်ကို ‘သက္ကာယနိရောဓဂါမိနီပဋိပဒါ’ လို့ ဘုရား ဟောပါသလဲ”

“ဒါယကာ ဝိသာခ… မဂ္ဂင်ရှစ်ပါးကို ‘သက္ကာယနိရောဓဂါမိနီပဋိပဒါ’ လို့ ဘုရား ဟောပါတယ်၊ အဲဒီ မဂ္ဂင်ရှစ်ပါးဆိုတာ သမ္မာဒိဋ္ဌိ၊ သမ္မာသင်္ကပ္ပ၊ သမ္မာဝါစာ၊ သမ္မာကမ္မန္တ၊ သမ္မာအာဇီဝ၊ သမ္မာဝါယာမ၊ သမ္မာသတိနဲ့ သမ္မာသမာဓိတို့ ဖြစ်တယ်”

(**မှတ်ချက်**။ ။ ***‘သက္ကာယနိရောဓဂါမိနီ ပဋိပဒါ’*** *ဆိုတာ ‘သက္ကာယချုပ်ရာနိဗ္ဗာန်ကို ရောက်စေနိုင်တဲ့အကျင့်’ ကို ဆိုလိုတာ ဖြစ်ပါတယ်။)*

(၅) “အရှင်မ… စွဲလမ်းတဲ့ ဥပါဒါန်သည်ပင် စွဲလမ်းဖွယ် ဥပါဒါနက္ခန္ဓာ ငါးပါးလား၊ ဒါမှမဟုတ် စွဲလမ်းတဲ့ ဥပါဒါန်ဆိုတာ စွဲလမ်းဖွယ် ဥပါဒါနက္ခန္ဓာ ငါးပါးမှ တခြားလား”

“ဒါယကာ ဝိသာခ… ဥပါဒါန်သည်ပင် ဥပါဒါနက္ခန္ဓာ ငါးပါးလည်း မဟုတ်၊ ဥပါဒါနက္ခန္ဓာ ငါးပါးမှ တခြားလည်း မဟုတ်၊ တကယ်တော့ စွဲလမ်းဖွယ်ရာဖြစ်တဲ့ ဥပါဒါနက္ခန္ဓာ ငါးပါးအပေါ် လိုချင်၊စွဲလမ်းတပ်မက်နေတဲ့သဘောကို ‘ဥပါဒါန်’ လို့ ခေါ်တာပါ”

(၆) “အရှင်မ… ဘယ်လိုရှုရင် ‘သက္ကာယဒိဋ္ဌိ’ ဖြစ်ပါသလဲ”

“ဒါယကာ ဝိသာခ… ထင်ရှားဖြစ်ပေါ်ဆဲ ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ်ဆိုတဲ့ ခန္ဓာငါးပါး ရုပ်နာမ်တရားတွေအပေါ် ဘယ်တော့မှ မပျက်စီးနိုင်တဲ့ ငါကောင်၊ သူကောင်၊ အတ္တကောင်၊ အသက်ကောင်၊ ဝိညာဉ်ကောင်၊ လိပ်ပြာကောင်လေးပဲလို့ ရှုထင်နေရင် ‘သက္ကာယဒိဋ္ဌိ’ ဖြစ်တာပဲ”

(၇) “အရှင်မ… ဘယ်လိုရှုရင် ‘သက္ကာယဒိဋ္ဌိ’ မဖြစ်ပါသလဲ”

“ဒါယကာ ဝိသာခ… ထင်ရှားဖြစ်ပေါ်ဆဲ ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ်ဆိုတဲ့ ခန္ဓာငါးပါး ရုပ်နာမ်တရားတွေအပေါ် ဘယ်တော့မှ မပျက်စီးနိုင်တဲ့ ငါကောင်၊ သူကောင်၊ အတ္တကောင်၊ အသက်ကောင်၊ ဝိညာဉ်ကောင်၊ လိပ်ပြာကောင်လို့ မရှုဘဲ ‘ရုပ်တရား၊ နာမ်တရား သက်သက်မျှသာပဲ၊ ဖြစ်ပြီး ပျက်နေတဲ့သဘော မျှသာပဲ’လို့ ရှုပွားနေရင် ‘သက္ကာယဒိဋ္ဌိ’ မဖြစ်ပါဘူး”

(၈) “အရှင်မ… မြတ်သော အင်္ဂါရှစ်ပါးရှိတဲ့ မဂ်လို့ ခေါ်ရတဲ့ မဂ္ဂင်ရှစ်ပါးဆိုတာ ဘာတွေလဲ”

“ဒါယကာ ဝိသာခ… မဂ္ဂင်ရှစ်ပါးဆိုတာ သမ္မာဒိဋ္ဌိ၊ သမ္မာသင်္ကပ္ပ၊ သမ္မာဝါစာ၊ သမ္မာ ကမ္မန္တ၊ သမ္မာအာဇီဝ၊ သမ္မာ ဝါယာမ၊ သမ္မာသတိနဲ့ သမ္မာသမာဓိတွေပဲ ဖြစ်တယ်”

(၉) “အရှင်မ… အဲဒီ မဂ္ဂင်ရှစ်ပါးဟာ အပြုပြင်ခံ သင်္ခတ တရားလား၊ အပြုပြင်ခံ မဟုတ်တဲ့ အသင်္ခတတရားလား”

“ဒါယကာ ဝိသာခ… မဂ္ဂင်ရှစ်ပါးဟာ အပြုပြင်ခံ သင်္ခတ တရား ဖြစ်တယ်”

(၁၀) “အရှင်မ… အဲဒီ မဂ္ဂင်ရှစ်ပါးကို အစုခန္ဓာသုံးပါးနဲ့ အကျဉ်း ချုပ်လို့ ရပါသလား”

“ဒါယကာ ဝိသာခ… သမ္မာဝါစာ၊ သမ္မာကမ္မန္တ၊ သမ္မာ အာဇီဝ မဂ္ဂင်သုံးပါးကို ‘သီလက္ခန္ဓ- သီလအစု’၊ သမ္မာဝါယာမ၊ သမ္မာသတိ၊ သမ္မာသမာဓိ မဂ္ဂင်သုံးပါးကို ‘သမာဓိက္ခန္ဓ-သမာဓိ အစု’နဲ့၊ သမ္မာဒိဋ္ဌိ၊ သမ္မာသင်္ကပ္ပ မဂ္ဂင်နှစ်ပါးကို ‘ပညာက္ခန္ဓ- ပညာအစု’ဆိုပြီး သိမ်းယူ အကျဉ်းချုပ်နိုင်ပါတယ်”

(ဆိုလိုတာက မဂ္ဂင်ရှစ်ပါးကို အကျဉ်းချုပ်လိုက်ရင် သီလ မဂ္ဂင်၊ သမာဓိမဂ္ဂင်၊ ပညာမဂ္ဂင်ဆိုပြီး သုံးမျိုး အကျဉ်းမှတ်နိုင်တယ်လို့ ဆိုလိုတာ ဖြစ်ပါတယ်။)

(၁၁) ‘‘အရှင်မ… အဘယ်အရာဟာ ‘သမာဓိ’လဲ၊ အဘယ်တရားတွေက သမာဓိဖြစ်ကြောင်း ‘သမာဓိနိမိတ်’တရားတွေလဲ၊ အဘယ်တရားတွေက သမာဓိရဲ့ အခြံအရံတွေ ဖြစ်သလဲ၊ အဘယ် ဟာက သမာဓိကို ပွားများတာ ဖြစ်ပါသလဲ’’

‘‘ဒါယကာ ဝိသာခ… စိတ်ကို အာရုံတစ်မျိုးတည်းအပေါ်မှာ တည်နေအောင် ထားနိုင်တာဟာ ‘သမာဓိ’ပဲ၊ သတိပဋ္ဌာန်တရား လေးပါးဟာ သမာဓိဖြစ်ကြောင်း ‘သမာဓိနိမိတ်’ တရားတွေပဲ၊ သမ္မပ္ပဓာန်တရား လေးပါးဟာ သမာဓိရဲ့ အခြံအရံတွေပဲ၊ ဒီသတိပဋ္ဌာန် တရားတွေ၊ သမ္မပ္ပဓာန်တရားတွေကို မပြတ်ပွားများနေတာဟာ သမာဓိကို ပွားများနေတာ ဖြစ်ပါတယ်’’

(၁၂) ‘‘အရှင်မ… သင်္ခါရတရားတွေက ဘယ်နှစ်ပါး ရှိပါသလဲ’’

‘‘ဒါယကာ ဝိသာခ… သင်္ခါရတရားတွေက ကာယသင်္ခါရ၊ ဝစီသင်္ခါရ၊ စိတ္တသင်္ခါရလို့ သုံးပါး ရှိပါတယ်’’

‘‘အရှင်မ… ဘယ်ဟာက ကာယသင်္ခါရ၊ ဘယ်ဟာက ဝစီသင်္ခါရ၊ ဘယ်ဟာက စိတ္တသင်္ခါရလဲ’’

‘‘ဒါယကာ ဝိသာခ… ထွက်လေ ဝင်လေက ‘ကာယသင်္ခါရ’ပါ၊ ဝိတက်နဲ့ ဝိစာရက ‘ဝစီသင်္ခါရ’ပါ၊ သညာနဲ့ ဝေဒနာတွေက ‘စိတ္တသင်္ခါရ’ ဖြစ်ပါတယ်’’

‘‘အရှင်မ… ဘာလို့ ထွက်လေ၊ဝင်လေကို ‘ကာယသင်္ခါရ’၊ ဘာလို့ ဝိတက်နဲ့ ဝိစာရကို ‘ဝစီသင်္ခါရ’၊ ဘာလို့ သညာနဲ့ ဝေဒနာတွေကို ‘စိတ္တသင်္ခါရ’ ခေါ်ရတာလဲ’’

‘‘ဒါယကာ ဝိသာခ… ထွက်လေ၊ ဝင်လေဆိုတာ ဒီခန္ဓာကိုယ်မှာ ဖြစ်တာ၊ ဒီခန္ဓာကိုယ်နဲ့ ဆက်စပ်နေတာ၊ ဒါကြောင့် ထွက်လေ၊ ဝင်လေကို ကိုယ်နဲ့ ပြုစီရင်ရတဲ့ ‘ကာယသင်္ခါရ’လို့ ခေါ်တာ ဖြစ်တယ်။

စကားမပြောခင် ဝိတက်နဲ့ အရင်ကြံစည်ရတယ်၊ ဝိစာရနဲ့ အရင် စဉ်းစားရတယ်၊ ပြီးမှ စကားပြောရတာ ဖြစ်တယ်။ အဲဒီလို

ဝိတက်နဲ့ ဝိစာရက နှုတ်နဲ့စကားပြောတာကို ပြုစီမံတတ်လို့ ဝိတက်နဲ့ ဝိစာရကို 'ဝစီသင်္ခါရ'လို့ ခေါ်တာ ဖြစ်တယ်။

နောက်ပြီး သညာနဲ့ ဝေဒနာတွေဆိုတာ စိတ်နဲ့ယှဉ်တွဲပြီး ဖြစ်ကြတာ၊ စိတ်နဲ့ ကင်းကွာပြီး ဖြစ်လို့မရဘူး၊ ဒါကြောင့် သညာနဲ့ ဝေဒနာတွေကို စိတ်နဲ့ ပြုပြင်ရတဲ့ 'စိတ္တသင်္ခါရ'လို့ ခေါ်တာ ဖြစ်တယ်''

(**မှတ်ချက်**။ ။ ဝိသာခသူဌေးက ဓမ္မဒိန္နာထေရီမကို ဈာန်သမာပတ်တွေ ရထားတဲ့အနာဂါမ်နဲ့ ရဟန္တာမှသာ ဝင်စားနိုင်တဲ့ နိရောဓသမာပတ်အကြောင်း ဆက်ပြီး မေးခဲ့ပါတယ်။ မေးတဲ့ မေးခွန်းတိုင်းကိုလည်း ဓမ္မဒိန္နာထေရီမက မဆိုင်းမတွ ဟုတ်တိုင်းမှန်စွာ ဖြေဆိုခဲ့ပါတယ်။

သူဌေးနဲ့ ထေရီမတို့ ခုမေးကြ၊ ဖြေကြမယ့် အမေး၊ အဖြေတွေကို နားလည်နိုင်ဖို့ အတွက် နိရောဓသမာပတ်အကြောင်း အနည်းငယ် ရှင်းပြပါမယ်။ နိရောဓသမာပတ်ကို ဈာန်သမာပတ်တွေလည်း ရပါမှ အနာဂါမ်နဲ့ ရဟန္တာလည်း ဖြစ်ပါမှ ဝင်စားနိုင်ပါတယ်။ ဘာလို့ ဒီသမာပတ်ကို ဝင်စားကြတာလဲဆိုရင် ရုပ်နာမ်ဓမ္မ သင်္ခါရတရားတွေ အပေါ်မှာ ငြီးငွေ့နေကြတဲ့ ဈာန်ရ အနာဂါမ်၊ ရဟန္တာပုဂ္ဂိုလ်တွေဟာ ခုနစ်ရက်လောက် စိတ်၊ စေတသိက် နာမ်တရားတွေမရှိဘဲ ချမ်းချမ်းသာသာ နေလိုတဲ့အတွက် ဝင်စားကြတာ ဖြစ်ပါတယ်။ ဒီလို နာမ်တရားတွေ ချုပ်ပြီး နေနေရတဲ့ ချမ်းသာကို 'လက်တွေ့ရတဲ့နိဗ္ဗာန်-ဒိဋ္ဌဓမ္မနိဗ္ဗာန်'လို့ ခေါ်ပါတယ်။ ဒီသမာပတ်ဝင်စားနေသမျှ သမာပတ်ရှင်မှာ စိတ်၊ စေတသိက်ဆိုတဲ့ နာမ်ခန္ဓာလေးပါး ချုပ်ငြိမ်းနေတယ်။ စိတ်၊ စေတသိက်တွေ ချုပ်နေတာကြောင့် စိတ်ကြောင့်ဖြစ်တဲ့ စိတ္တဇရုပ်တွေလည်း ချုပ်ငြိမ်းနေပါတယ်။ ကမ္မဇရုပ်၊ ဥတုဇရုပ်၊ အာဟာရဇရုပ်ဆိုတဲ့ ရုပ်ခန္ဓာ တချို့တစ်ဝက်နဲ့ပဲ အသက်ရှင်နေတာ ဖြစ်ပါတယ်။

နိရောဓသမာပတ်ဝင်စားတော့မယ်ဆိုရင် မဝင်စားခင် မိမိရဲ့ သက်တမ်းကို ဆင်ခြင်ကြည့်ရသလို ဘုရားနဲ့ သံဃာက ခေါ်ရင် အလိုလို သမာပတ်က ထပြီးသား ဖြစ်အောင်၊ မိမိခန္ဓာကိုယ်နဲ့ သက်န်း၊ သပိတ် ပရိက္ခရာတွေ မီးမလောင်အောင်နဲ့ ဘယ်အချိန်မှာ သမာပတ်ကနေ ထမယ် ဆိုတာတွေ ကြိုတင်ပြီး အဓိဋ္ဌာန်ထားရတယ်။

အဓိက မှတ်စေချင်တာက ‘ဒီနိရောဓသမာပတ် ဝင်စားနေတဲ့ ပုဂ္ဂိုလ်မှာ သိစိတ်တွေ၊ ခံစားမှုတွေ လုံးဝ ရှိမနေဘူးဆိုတာနဲ့ သမာပတ်ကနေ ပြန်ထပြီဆိုရင်လည်း အနာဂါမ်ပုဂ္ဂိုလ်ဆိုရင် အနာဂါမိဖိုလ်စိတ်၊ ရဟန္တာဆိုရင် အရဟတ္တဖိုလ်စိတ် အရင်ဆုံး စပြီး ပြန်ဖြစ်ပေါ်လာတယ်’ ဆိုတာပဲ ဖြစ်ပါတယ်။ ဒီလောက်ဆိုရင် ရှေ့ဆက်ဖတ်ရမယ့် မေးခွန်းနဲ့ အဖြေတွေကို နားလည်နိုင်ပါပြီ။)

(၁၃) ‘‘အရှင်မ… ‘နိရောဓသမာပတ်’ ဝင်စားတယ်ဆိုတာ ဘယ်လိုပါလဲ’’

‘‘ဒါယကာ ဝိသာခ… နိရောဓသမာပတ် ဝင်စားနေသူမှာ ‘ငါ နိရောဓသမာပတ် ဝင်စားဦးမယ်၊ ငါ နိရောဓသမာပတ် ဝင်စားနေတယ်၊ ငါ နိရောဓသမာပတ် ဝင်စားပြီးသွားပြီ’ ဆိုတဲ့ စိတ်တောင် မဖြစ်တော့ပါဘူး၊ တကယ်တော့ ဒီသမာပတ်မဝင်စားခင်ကတည်းက သမာပတ် ဝင်စားချိန်မှာ စိတ်ချုပ်နေဖို့အတွက် စွမ်းဆောင်နိုင်တဲ့ ဈာန်စိတ်ကို အရင်ပွားထားရပါတယ်’’

(၁၄) ‘‘အရှင်မ… နိရောဓသမာပတ် ဝင်စားနေတဲ့ပုဂ္ဂိုလ်မှာ ဘယ်တရားက အရင်ချုပ်ပါသလဲ၊ ကာယသင်္ခါရက အရင်ချုပ်ပါသလား၊ ဒါမှမဟုတ် ဝစီသင်္ခါရက အရင်ချုပ်ပါသလား၊ ဒါမှမဟုတ် စိတ္တသင်္ခါရက အရင်ချုပ်ပါသလား’’

‘‘ဒါယကာ ဝိသာခ… နိရောဓသမာပတ် ဝင်စားနေတဲ့ ပုဂ္ဂိုလ်သန္တာန်မှာ ဝိတက်၊ ဝိစာရလို့ ခေါ်တဲ့ ဝစီသင်္ခါရက အရင်ချုပ်တယ်၊ ဒီနောက်မှာတော့ ထွက်လေ၊ ဝင်လေလို့ ခေါ်တဲ့ ကာယ

သင်္ခါရနဲ့ သညာ၊ ဝေဒနာလို့ ခေါ်တဲ့ စိတ္တသင်္ခါရတွေ အစဉ်အတိုင်း ချုပ်ကြတယ်''

(၁၅) ''အရှင်မ··· 'နိရောဓသမာပတ်ကနေ ထတယ်'ဆိုတာ ဘယ်လိုပါလဲ''

''ဒါယကာ ဝိသာခ··· နိရောဓသမာပတ်ကနေ ထနေတဲ့ ပုဂ္ဂိုလ်သန္တာန်မှာ 'ငါ နိရောဓသမာပတ်ကနေ ထတော့မယ်၊ ငါ နိရောဓသမာပတ်ကနေ ထနေတယ်၊ ငါ နိရောဓသမာပတ် ကနေ ထပြီးသွားပြီ'ဆိုတဲ့ စိတ် ဖြစ်မနေပါဘူး၊ (တကယ်ဖြစ်နေတာက နိရောဓသမာပတ်ကနေ ထတာနဲ့ အနာဂါမ်ဆိုရင် အနာဂါမိဖိုလ်စိတ်နဲ့ ရဟန္တာဆိုရင် အရဟတ္တဖိုလ်စိတ် ဖြစ်ပြီး နိဗ္ဗာန်ကို အာရုံပြုနေတဲ့ အခိုက်ပဲ ဖြစ်ပါတယ်။) တကယ်စင်စစ်တော့ သမာပတ်ကနေ ထတဲ့ အခါ အနာဂါမ်ဆိုရင် အနာဂါမိဖိုလ်စိတ်နဲ့ ရဟန္တာဆိုရင် အရဟတ္တဖိုလ် စိတ်တွေ ဖြစ်လာစေဖို့ သမာပတ်မဝင်စားခင်ကတည်းက ကြိုတင် ပိုင်းခြား ပွားများထားရတာ ဖြစ်ပါတယ်''

(၁၆) ''အရှင်မ··· နိရောဓသမာပတ်ကနေ ထပြီးတဲ့ ပုဂ္ဂိုလ်မှာ ဘယ်တရားတွေက အရင် ဖြစ်ပါသလဲ၊ ကာယသင်္ခါရက အရင် ဖြစ်ပါသလား၊ ဒါမှမဟုတ် ဝစီသင်္ခါရက အရင် ဖြစ်ပါသလား၊ ဒါမှမဟုတ် စိတ္တသင်္ခါရက အရင် ဖြစ်ပါသလား''

''ဒါယကာ ဝိသာခ··· နိရောဓသမာပတ်ကနေ ထပြီးတဲ့ ပုဂ္ဂိုလ်မှာ သညာ၊ ဝေဒနာလို့ ခေါ်တဲ့ စိတ္တသင်္ခါရက အရင် ဖြစ်တယ်၊ ပြီးမှ ထွက်လေ၊ ဝင်လေခေါ်တဲ့ ကာယသင်္ခါရနဲ့ ဝိတက်၊ ဝိစာရလို့ ခေါ်တဲ့ ဝစီသင်္ခါရတွေ ဆက်တိုက် ဖြစ်ပေါ်လာတယ်''

(၁၇) ''အရှင်မ··· နိရောဓသမာပတ်ကနေ ထပြီးတဲ့ ပုဂ္ဂိုလ်ကို အဘယ် ဖဿတရားတွေက တွေ့ထိပါသလဲ''

''ဒါယကာ ဝိသာခ··· နိရောဓသမာပတ်ကနေ ထပြီးတဲ့ ပုဂ္ဂိုလ်ကို အနာဂါမိဖိုလ်စိတ်၊ ဒါမှမဟုတ် အရဟတ္တဖိုလ်စိတ်နဲ့ ယှဉ်တဲ့

သုညတဖဿ၊ အနိမိတ္တဖဿ၊ အပ္ပဏိဟိတဖဿ ဆိုတဲ့ ဖဿတရား သုံးပါးက တွေ့ထိပါတယ်''

(၁၈) ''အရှင်မ… နိရောဓသမာပတ်ကနေ ထပြီးတဲ့ ပုဂ္ဂိုလ်ရဲ့ စိတ်ဟာ အဘယ်ပေါ်မှာ ညွှတ်နေပါသလဲ''

''ဒါယကာ ဝိသာခ… နိရောဓသမာပတ်ကနေ ထပြီးတဲ့ ပုဂ္ဂိုလ်ရဲ့ စိတ်ဟာ နိဗ္ဗာန်အာရုံအပေါ်မှာ ညွှတ်နေပါတယ်''

(၁၉) ''အရှင်မ… ဝေဒနာ ဘယ်နှစ်ပါး ရှိပါသလဲ''

''ဒါယကာ ဝိသာခ… သုခဝေဒနာ၊ ဒုက္ခဝေဒနာ၊ ဥပေက္ခာဝေဒနာဆိုပြီး ဝေဒနာ သုံးပါး ရှိပါတယ်''

''အရှင်မ… သုခဝေဒနာဆိုတာ ဘာလဲ၊ ဒုက္ခဝေဒနာဆိုတာ ဘာလဲ၊ ဥပေက္ခာဝေဒနာ ဆိုတာ ဘာလဲ''

''ဒါယကာ ဝိသာခ… ကိုယ်မှာ ဖြစ်စေ၊ စိတ်မှာ ဖြစ်စေ ချမ်းသာတဲ့၊ သာယာကောင်းမွန်တဲ့ ခံစားမှုသဘောကို 'သုခဝေဒနာ' လို့ ခေါ်တယ်။ ကိုယ်မှာ ဖြစ်စေ၊ စိတ်မှာ ဖြစ်စေ ဆင်းရဲ ငြိုငြင်စွာ ခံစားတဲ့ သဘောကို 'ဒုက္ခဝေဒနာ' လို့ ခေါ်တယ်၊ ကိုယ်မှာ ဖြစ်စေ၊ စိတ်မှာ ဖြစ်စေ သာယာတာလည်း မဟုတ်၊ မသာယာတာလည်း မဟုတ်တဲ့ ခံစားမှုသဘောကို 'ဥပေက္ခာဝေဒနာ' လို့ ခေါ်တယ်''

(၂၀) ''အရှင်မ… သုခဝေဒနာဆိုတာ ဘယ်လိုဖြစ်ရင် ချမ်းသာပါသလဲ၊ ဘယ်လိုဖြစ်ရင် ဆင်းရဲပါသလဲ၊ ဒုက္ခဝေဒနာကရော ဘယ်လိုဖြစ်ရင် ဆင်းရဲပြီး ဘယ်လိုဖြစ်ရင် ချမ်းသာပါသလဲ။ ဥပေက္ခာဝေဒနာလည်း ဘယ်လိုဖြစ်ရင် ချမ်းသာပြီး ဘယ်လို ဖြစ်ရင် ဆင်းရဲပါသလဲ''

''ဒါယကာ ဝိသာခ… သုခဝေဒနာဆိုတာ တည်နေရင် ချမ်းသာတယ်၊ ပျက်သွားရင်၊ ဖောက်ပြန်သွားရင် ဆင်းရဲတယ်၊ ဒုက္ခဝေဒနာက တည်နေရင် ဆင်းရဲပြီး ပျက်သွားရင်၊ ဖောက်ပြန်သွားရင်

ချမ်းသာတယ်၊ ဥပေက္ခာဝေဒနာက သိနေရင် ချမ်းသာပြီး မသိနေရင် ဆင်းရဲပါတယ်”

(၂၁) “အရှင်မ… သုခဝေဒနာမှာ အဘယ်အနုသယ၊ ဒုက္ခဝေဒနာမှာ အဘယ်အနုသယ၊ ဥပေက္ခာဝေဒနာမှာ အဘယ်အနုသယ ဓာတ်တွေ ကိန်းပါသလဲ”

“ဒါယကာ ဝိသာခ… သုခဝေဒနာမှာ ရာဂါနုသယ၊ ဒုက္ခဝေဒနာမှာ ပဋိဃာနုသယ၊ ဥပေက္ခာဝေဒနာမှာ အဝိဇ္ဇာနုသယ ဓာတ်တွေ ကိန်းပါတယ်”

(၂၂) “အရှင်မ… သုခဝေဒနာတိုင်းမှာ ရာဂါနုသယ ကိန်းပါသလား၊ ဒုက္ခဝေဒနာတိုင်းမှာ ပဋိဃာနုသယ ကိန်းပါသလား၊ ဥပေက္ခာဝေဒနာတိုင်းမှာ အဝိဇ္ဇာနုသယ ကိန်းပါသလား”

“ဒါယကာ ဝိသာခ… သုခဝေဒနာတိုင်းမှာ ရာဂါနုသယ မကိန်းပါ၊ ဒုက္ခဝေဒနာတိုင်းမှာ ပဋိဃာနုသယ မကိန်းပါ၊ ဥပေက္ခာဝေဒနာတိုင်းမှာ အဝိဇ္ဇာနုသယ မကိန်းပါ”

(၂၃) “အရှင်မ… သုခဝေဒနာမှာ အဘယ်ကို ပယ်ရမလဲ၊ ဒုက္ခဝေဒနာမှာ အဘယ်ကို ပယ်ရမလဲ၊ ဥပေက္ခာဝေဒနာမှာ အဘယ်ကို ပယ်ရမလဲ”

“ဒါယကာ ဝိသာခ… သုခဝေဒနာမှာ ရာဂါနုသယကို ပယ်ရမယ်၊ ဒုက္ခဝေဒနာမှာ ပဋိဃာနုသယကို ပယ်ရမယ်၊ ဥပေက္ခာဝေဒနာမှာ အဝိဇ္ဇာနုသယကို ပယ်ရမယ်”

(၂၄) “အရှင်မ… သုခဝေဒနာအားလုံးမှာ ရာဂါနုသယကို ပယ်သင့်ပါသလား၊ ဒုက္ခဝေဒနာ အားလုံးမှာ ပဋိဃာနုသယကို ပယ်သင့်ပါသလား၊ ဥပေက္ခာဝေဒနာအားလုံးမှာ အဝိဇ္ဇာနုသယကို ပယ်သင့်ပါသလား”

“ဒါယကာ ဝိသာခ… သုခဝေဒနာအားလုံးမှာ ရာဂါနုသယကို မပယ်ရပါ၊ ဒုက္ခဝေဒနာ အားလုံးမှာ ပဋိဃာနုသယကို မပယ်ရပါ၊

ဥပေက္ခာဝေဒနာအားလုံးမှာ အဝိဇ္ဇာနုသယကို မပယ်ရပါ"

(၂၅) "အရှင်မ··· သုခဝေဒနာရဲ့ ပြိုင်ဘက်က ဘာလဲ"

"ဒါယကာ ဝိသာခ··· သုခဝေဒနာရဲ့ ပြိုင်ဘက်က ဒုက္ခဝေဒနာပဲ"

"အရှင်မ··· ဒုက္ခဝေဒနာရဲ့ ပြိုင်ဘက်က ဘာလဲ"

"ဒါယကာ ဝိသာခ··· ဒုက္ခဝေဒနာရဲ့ ပြိုင်ဘက်က သုခဝေဒနာပဲ"

"အရှင်မ··· ဥပေက္ခာဝေဒနာရဲ့ ပြိုင်ဘက်က ဘာလဲ"

"ဒါယကာ ဝိသာခ··· ဥပေက္ခာဝေဒနာရဲ့ ပြိုင်ဘက်က မသိမှု အဝိဇ္ဇာပဲ"

(၂၆) "အရှင်မ··· မသိမှု အဝိဇ္ဇာရဲ့ ပြိုင်ဘက်က ဘာလဲ"

"ဒါယကာ ဝိသာခ··· မသိမှု အဝိဇ္ဇာရဲ့ ပြိုင်ဘက်က သိမှု ဝိဇ္ဇာပဲ"

"အရှင်မ··· သိမှု ဝိဇ္ဇာရဲ့ ပြိုင်ဘက်က ဘာလဲ"

"ဒါယကာ ဝိသာခ··· သိမှု ဝိဇ္ဇာရဲ့ ပြိုင်ဘက်က လွတ်မြောက်မှု ဝိမုတ္တိပဲ"

"အရှင်မ··· လွတ်မြောက်မှု ဝိမုတ္တိရဲ့ ပြိုင်ဘက်က ဘာလဲ"

"ဒါယကာ ဝိသာခ··· လွတ်မြောက်မှု ဝိမုတ္တိရဲ့ ပြိုင်ဘက်က ငြိမ်းအေးမှု နိဗ္ဗာန်ပဲ"

"အရှင်မ··· ငြိမ်းအေးမှု နိဗ္ဗာန်ရဲ့ ပြိုင်ဘက်က ဘာလဲ"

"ဒါယကာ ဝိသာခ··· ဒီအမေးကတော့ လွန်သွားပြီ၊ ဒီလိုသာ ဆက်မေးနေရင် ဆုံးမှာ မဟုတ်တော့ဘူး၊ ဘာလို့လဲဆိုတော့ တရားကျင့်တာမှန်သမျှရဲ့ ဦးတည်ချက်ပန်းတိုင် လမ်းဆုံးက နိဗ္ဗာန်ဖြစ်လို့ပဲ။

ဒါယကာ ဝိသာခ··· သင် အလိုရှိသေးရင် မြတ်စွာဘုရားထံသာ သွားပြီး မေးလျှောက်ပါတော့၊ မြတ်စွာဘုရား ဖြေတော်မူတဲ့အတိုင်းသာ မှတ်ပါတော့"

ဓမ္မဒိန္နာထေရီမဟာ အခုလို မိန့်ပြီး အမေး၊ အဖြေကို အဆုံးသတ်လိုက်ပါတယ်။ ဝိသာခသူဌေးလည်း ထေရီမရဲ့ ဖြေဆိုချက်တွေကို ကျေနပ်အားရ ဝမ်းမြောက်ဝမ်းသာဖြစ်ခဲ့တယ်။ ဒီနောက်တော့ ထေရီမကို ရှိခိုးဦးချ အရိုအသေပြုပြီး မြတ်စွာဘုရားထံ ချဉ်းကပ်ခဲ့တယ်။ မြတ်စွာဘုရား အထံတော်မှာ သူနဲ့ ဓမ္မဒိန္နာထေရီမတို့ အပြန်အလှန် တရားစကား မေးမြန်းဆွေးနွေး ပြောဆိုခဲ့တာတွေကို အားလုံး လျှောက်ထားလိုက်တယ်။

ဒီအခါ မြတ်စွာဘုရားရှင်က ဝိသာခသူဌေးကို ''ဝိသာခ... ဓမ္မဒိန္နာဟာ ကြောင်းကျိုး မြင်သိ ပညာရှိ ဖြစ်ပါပေတယ်၊ ဓမ္မဒိန္နာဟာ ကြီးမြတ်တဲ့ပညာရှိ ဖြစ်ပါပေတယ်၊ ဒီအကြောင်းအရာတွေကို ငါ့ မေးခဲ့ရင်လည်း ငါလည်းပဲ ဓမ္မဒိန္နာ ဖြေတဲ့အတိုင်း ဖြေမှာ ဖြစ်တယ်၊ သင့်မေးခွန်းတွေရဲ့ အဖြေဟာ ဓမ္မဒိန္နာ ဖြေတဲ့အတိုင်း ဖြစ်တယ်။ ဒါကြောင့် အဲဒီအတိုင်းသာ မှတ်ပါတော့''လို့ မိန့်တော်မူခဲ့ပါတယ်။

## (ဃ) ဓမ္မကထိက ဧတဒဂ်ရ

ဒီအကြောင်းအရာကပဲ ဓမ္မဒိန္နာထေရီမကို တရားဟောကောင်းတဲ့အရာ အသာဆုံးဆိုတဲ့ ဓမ္မကထိကဧတဒဂ်ဘွဲ့ထူး ရဖို့ရန် အကြောင်းအထွတ်ပွတ် ဖြစ်ခဲ့ပါတယ်။ (ဒီသုတ္တန်ကို စူဠဝေဒလ္လသုတ်လို့ မဇ္ဈိမနိကာယ် မူလပဏ္ဏာသပါဠိတော်မှာ မှတ်တမ်းတင်ခဲ့ပါတယ်။) နောင်တစ်ချိန် မြတ်စွာဘုရား သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်မှာ သီတင်းသုံး နေတော်မူပြီး ဘိက္ခုနီမတွေကို ဧတဒဂ်ရာထူး ချီးမြှင့်တဲ့အခါ ဓမ္မဒိန္နာထေရီမကို ဒီစူဠဝေဒလ္လသုတ်ကြောင့်ပဲ ဓမ္မကထိကဧတဒဂ်ဘွဲ့ထူးနဲ့ ချီးမြှောက်တော်မူခဲ့ပါတယ်။

ဓမ္မဒိန္နာထေရီမအကြောင်း ကြည်ညိုရတဲ့အခါ 'ဝိသာခသူဌေး... ရှင် မလိုချင်တော့လို့ တံတွေးပေါက်ပမာ စွန့်ထွေးလိုက်တဲ့ ကုဋေရှစ်ဆယ် ပစ္စည်းဥစ္စာတွေကို မြိန်ရေရှက်ရေ မက်မက်မောမော

သုံးစားနေမယ့် မိန်းမမျိုးလို့ ရှင် ထင်လို့လား၊ အဲဒီလိုအမျိုးအစားထဲမှာ ကျွန်မ မပါဘူး’ဆိုတဲ့ သဘောအသွင်ဆောင်တဲ့ ဓမ္မဒိန္နာထေရီမရဲ့ မာန်မာနကို သတိထားမိကြမယ် ထင်ပါတယ်။ ဒီမာနမျိုးကတော့ ထားသင့်တဲ့ မာနလို့ ဆိုနိုင်ပါတယ်။ ဒီမာနကပဲ ဓမ္မဒိန္နာထေရီမကို ဓမ္မလမ်းကြောင်းပေါ် တင်ပေးလိုက်တာကြောင့်ပါ။

နောက်ပြီး အတိတ်ဘဝတွေက ဝိပဿနာတရား အားထုတ်ခဲ့ဖူးတဲ့ ပါရမီကောင်းမှုကြောင့် ရဟန္တာ လွယ်လင့်တကူ ဖြစ်ခဲ့တာကလည်း ဝိပဿနာတရား အားထုတ်နေသူတိုင်းအတွက် အားကျစရာ ဖြစ်မယ် ထင်ပါတယ်။

အဓိကလမ်းညွှန်အဖြစ် မှတ်သားစရာကတော့ ‘‘ဝိမုတ္တိဆိုတဲ့ ငြိမ်းအေးမှု နိဗ္ဗာန်ကို ရလိုတယ် ဆိုရင် ‘ဝိဇ္ဇာ’ဆိုတဲ့ ဉာဏ်အလင်းကို ရအောင် အားထုတ်ဖို့ပါပဲ’’ဆိုတဲ့ အချက်ပဲ ဖြစ်ပါတယ်။

ဗြဟ္မစရိယအကျင့်ကို ကျင့်သုံးတဲ့အတွက် ဝိဇ္ဇာဉာဏ်အလင်းတွေ ရပြီး ဝိမုတ္တိဆိုတဲ့ ငြိမ်းအေးမှု နိဗ္ဗာန်ကို ဓမ္မဒိန္နာထေရီမလို လွယ်လင့်တကူ ရနိုင်ကြပါစေ။

**ကျမ်းကိုး** –


၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ၁။ ၂၇၈။

၂။ မဟာဗုဒ္ဓဝင်၊ ဆဋ္ဌတွဲ၊ ဒုတိယပိုင်း၊ ၈၁။

၃။ အပဒါန်ပါဠိတော်၊ ၂။ ၂၄၇။

၄။ အပဒါန်ပါဠိတော် မြန်မာပြန်၊ ၂။ ၂၃၉။

၅။ ထေရီအဋ္ဌကထာ၊ ၁၆။

၆။ မူလပဏ္ဏာသပါဠိ၊ ၃၇၁။

၇။ မူလပဏ္ဏာသအဋ္ဌကထာ၊ ၂။ ၂၅၅။



## ဈာန်ဝင်စားတဲ့အရာ အသာဆုံး

## ဈာယီ ဧတဒဂ်ရ

# (ဇနပဒကလျာဏီ) ရူပနန္ဒာ ထေရီ

ကမ္မဋ္ဌာန်းနည်းပြ ဆရာတွေဟာ ယောဂီတွေကို တရားအားထုတ်နည်း သင်ပြတဲ့အခါ ပါရိဟာရိယကမ္မဋ္ဌာန်းနဲ့ သဗ္ဗတ္ထကကမ္မဋ္ဌာန်းဆိုတဲ့ ကမ္မဋ္ဌာန်း နှစ်မျိုးကို မဖြစ်မနေ သင်ပေးရမယ်လို့



ဝိသုဒ္ဓိမဂ်အဋ္ဌကထာနဲ့ ဝိနည်းပိဋက တတိယပါရာဇိကအဋ္ဌကထာ အဖွင့်တွေမှာ လမ်းညွှန်ထားပါတယ်။

ပါရိဟာရိယကမ္မဋ္ဌာန်းဆိုတာ ယောဂီရဲ့စရိုက်နဲ့ သင့်လျော်တဲ့၊ အမြဲတမ်း ပင်တိုင်အနေနဲ့ ဆောင်ထားပြီး အားထုတ်ရမယ့် ကမ္မဋ္ဌာန်းကို ဆိုလိုတာ ဖြစ်ပါတယ်။ ဥပမာ - ယောဂီပုဂ္ဂိုလ်က အတွေးဝိတက်တွေ များတဲ့သူဆိုရင် စိတ်မပြေးအောင် အာနာပါနသတိကမ္မဋ္ဌာန်း (ဝင်လေ-ထွက်လေ မှတ်တဲ့ကမ္မဋ္ဌာန်း)ကို အမြဲဆောင်ကမ္မဋ္ဌာန်းအဖြစ် ပေးရပါတယ်။ ဘယ်လိုပဲဖြစ်ဖြစ် သမာဓိ ဖြစ်လွယ်

အောင် အရင်ဆုံး စမှတ်ရတဲ့ ဖောင်းပိန်ကမ္မဋ္ဌာန်း၊ ဝင်လေ-ထွက်လေ ကမ္မဋ္ဌာန်းစတဲ့ ပင်တိုင်ပွားတဲ့ ကမ္မဋ္ဌာန်းတွေကို **ပါရိဟာရိယကမ္မဋ္ဌာန်း** လို့ ခေါ်ပါတယ်။

ယောဂီပုဂ္ဂိုလ်ဟာ ဘယ်ကမ္မဋ္ဌာန်းနည်းနဲ့ပဲ အားထုတ် အားထုတ် ကမ္မဋ္ဌာန်းအားထုတ်တဲ့ အခါတိုင်း လိုအပ်ရင် လိုအပ်သလို ပွားရမယ့် ကမ္မဋ္ဌာန်းတွေလည်း ရှိပါသေးတယ်။ အဲဒါတွေက မေတ္တာ ကမ္မဋ္ဌာန်း၊ မရဏာနုဿတိကမ္မဋ္ဌာန်း၊ အသုဘကမ္မဋ္ဌာန်းတွေပဲ ဖြစ် တယ်။ ဒီကမ္မဋ္ဌာန်းတွေကို ကမ္မဋ္ဌာန်း အားထုတ်တဲ့ အခါတိုင်း လိုအပ်တဲ့ ကမ္မဋ္ဌာန်းတွေ ဖြစ်တာကြောင့် **သဗ္ဗတ္ထကကမ္မဋ္ဌာန်း**လို့ ခေါ်ပါတယ်။

ယောဂီပုဂ္ဂိုလ်ဟာ အတူနေပုဂ္ဂိုလ်တွေရဲ့ မေတ္တာဓာတ် ရအောင်၊ နတ်တွေရဲ့ အနှောင့်အယှက်ကင်းပြီး အစောင့်အရှောက် ရအောင် **မေတ္တာကမ္မဋ္ဌာန်း**ကို တရားအားမထုတ်ခင် အရင်ဆုံး မဖြစ် မနေ ပွားရပါတယ်။ နောက်ပြီး ကိုယ်ကျင့်သီလမပျက်အောင်နဲ့ တရားအားထုတ်ချင်စိတ်တွေ ထက်သန်နေအောင် ''ငါသည် မုချ သေရမည်''စသဖြင့် **မရဏာနုဿတိကမ္မဋ္ဌာန်း**ကိုလည်း ပွားရပါမယ်။ နတ်သား၊ နတ်သမီးလောက် လှပတဲ့ အာရုံဖြစ်စေကာမူ အဲဒီလိုမျိုး လိုချင်တပ်မက်စရာကောင်းတဲ့ ဝိသဘာဂအာရုံတွေအပေါ်မှာ လိုချင် တပ်မက်တဲ့ ဆန္ဒရာဂတွေ မဖြစ်ရလေအောင် **အသုဘကမ္မဋ္ဌာန်း** ကိုလည်း ရံဖန်ရံခါ နှလုံးသွင်း ပွားများပေးရပါတယ်။

ဇနပဒကလျာဏီလို့ ကျော်ကြားတဲ့ နန္ဒာထေရီမရဲ့ ဘဝဖြစ်ရပ် အတ္ထုပ္ပတ္တိကို ကြည်ညိုရတဲ့အခါမှာတော့ ယောဂီတွေအနေနဲ့ ရံဖန်ရံခါ ပွားပေးရမယ့် သဗ္ဗတ္ထကကမ္မဋ္ဌာန်း သုံးမျိုးထဲက အသုဘကမ္မဋ္ဌာန်း ပွားနည်းကို လေ့လာမှတ်သားနိုင်ပါလိမ့်မယ်။ နန္ဒာထေရီမကတော့ ဘုရားပေးတဲ့ အသုဘကမ္မဋ္ဌာန်းနည်းကို နှလုံးသွင်းရင်းပဲ အလှမာန် တွေ ခွာချနိုင်ပြီး မြတ်ဗုဒ္ဓသာသနာရဲ့ အမြင့်ဆုံးပန်းတိုင် ဖြစ်တဲ့

နိဗ္ဗာန်ကို မျက်မှောက်ပြုနိုင်ခဲ့ပါတယ်။

ဒီ နန္ဒာထေရီမရဲ့ ဘဝဖြစ်ရပ်နဲ့ ထေရီမကို အကြောင်းပြုပြီး ဟောထားတဲ့ ဝိဇယသုတ္တန် တရားတော်တွေက တဏှာရာဂတွေ အားကြီးလှတဲ့ မိမိတို့လို ပုထုဇဉ်တွေအဖို့ တဏှာရာဂတွေ၊ အလှမာန် တက်တာတွေကို ပယ်ခွာနိုင်ဖို့ အကောင်းဆုံး နှလုံးသွင်း ဆင်ခြင် ပွားများနည်းတွေကို ပေးနိုင်တယ်ဆိုတာကတော့ ကိုယ်တိုင်ကြည့်ညို ပြီးရင် ကိုယ်တိုင်ပဲ ဆုံးဖြတ်နိုင်ပါလိမ့်မယ်။

## (က) ထေရီမရဲ့ အမည်နဲ့ ဧတဒဂ်အဓိပ္ပာယ်

ထေရီမရဲ့ အမည်က 'နန္ဒာ' ဖြစ်ပါတယ်။ ရုပ်ရည် အလွန် ချောမောလှပသူ ဖြစ်တာမို့ တစ်ဆွေလုံး တစ်မျိုးလုံးက ဝိုင်းပြီးချစ်ကြ တယ်။ ဆွေမျိုးအားလုံးရဲ့ ချစ်မြတ်နိုးတာကို ခံရသူ ဖြစ်တာကြောင့် မိဘတွေက 'နန္ဒာ'လို့ မှည့်ခေါ်ခဲ့ကြတာ ဖြစ်ပါတယ်။ 'အဘိရူပ နန္ဒာ'လို့လည်း ခေါ်ကြတယ်။ သကျနိုင်ငံနယ်ပယ်ဒေသအတွင်းမှာ ကောင်းခြင်းငါးဖြာပိုင်ဆိုင်ထားတဲ့ အလှပိုင်ရှင် ဖြစ်တာကြောင့် 'ဇနပဒကလျာဏီ' ရူပနန္ဒာလို့လည်း ကျော်ကြားခဲ့တယ်။

ရဟန္တာထေရီမဖြစ်ပြီးချိန်ကစပြီး ဘယ်အရပ်ပဲရောက်ရောက် အမြဲမပြတ် ဈာန်ဝင်စားပြီး နေလေ့ရှိတာကြောင့် 'ဈာန်ဝင်စားတဲ့ ဘိက္ခုနီ ရဟန်းမတွေထဲမှာ အသာဆုံး'လို့ အဓိပ္ပာယ်ရတဲ့ 'ဈာယီ ဧတဒဂ်'ကို ရခဲ့တာ ဖြစ်ပါတယ်။

## (ခ) အတိတ်ဘဝ ပါရမီနဲ့ ဆုတောင်း

ဒီကမ္ဘာကနေ နောက်ပြန်ရေတွက်လိုက်ရင် လွန်ခဲ့တဲ့ ကမ္ဘာ တစ်သိန်းထက်ဆီမှာ ပဒုမုတ္တရ မြတ်စွာဘုရားရှင် ပွင့်တော်မူခဲ့ ပါတယ်။ အဲဒီ ပဒုမုတ္တရဘုရားရှင်လက်ထက်မှာ ထေရီမအလောင်း အမျိုးကောင်းသမီးဟာ ဟံသာဝတီမင်းနေပြည်က ရတနာအမျိုးမျိုးနဲ့

ပြည့်စုံကြွယ်ဝ ချမ်းသာတဲ့ သူဌေးမျိုးမှာ ဖြစ်ခဲ့ပါတယ်။ သူဌေးသမီး အရွယ်ရောက်တဲ့အခါ ပဒုမုတ္တရ မြတ်စွာဘုရားထံ ချဉ်းကပ်ပြီး နိဗ္ဗာန်ရောက်ကြောင်း တရားတော်ကို နာယူခဲ့ပါတယ်။ ဒီအခါ မြတ်စွာဘုရားက ရဟန်းမ တစ်ပါးကို ဈာန်ဝင်စားပြီး နေကြတဲ့ ဘိက္ခုနီရဟန်းမတွေထဲမှာ အသာဆုံး ဈာယီဧတဒဂ်နဲ့ ချီးမြှင့်တော်မူခဲ့ပါတယ်။ ဒီလို ချီးမြှင့်တာကို သူဌေးသမီး မြင်တွေ့ရတဲ့အခါ အားကျကြည်ညိုစိတ်ဖြစ်ခဲ့ပြီး ဘုရားအမှူးရှိတဲ့ သံဃာတော်တွေကို ပင့်ဖိတ်ကာ ကိုယ်တိုင်ကိုယ်ကျ အလှူကြီး ပေးလှူခဲ့တယ်။ အလှူပေးပြီးတဲ့အခါ ဈာယီဧတဒဂ်ရတဲ့ ဘိက္ခုနီရဟန်းမလို သူလည်း နောင်တစ်ချိန်မှာ ဒီ ဈာယီဧတဒဂ်ရပြီး ကျွတ်တမ်းဝင်ရပါလိုကြောင်း ဆုပန်ဆုတောင်းခဲ့ပါတယ်။

သူဌေးသမီးဟာ ပဒုမုတ္တရ မြတ်စွာဘုရား အမှူးပြုတဲ့ သံဃာတော်တွေကို သဒ္ဓါကြည်ညိုစိတ်၊ မေတ္တာစိတ်အပြည့်နဲ့ တစ်သက်တာပတ်လုံး ဆည်းကပ်ကိုးကွယ် လှူဒါန်းခဲ့ပြီး ကုသိုလ်ကောင်းမှုတွေကို အသက်ထက်ဆုံး ပြုလုပ်ခဲ့တယ်။ ဒီကုသိုလ်ကံ၊ စေတနာတွေကြောင့်ပဲ သူဌေးသမီးဟာ အဲဒီဘဝကနေ ကွယ်လွန်တဲ့အခါ တာဝတိံသာနတ်ပြည်မှာ ဖြစ်ခဲ့တယ်။ တာဝတိံသာနတ်ပြည်ကနေ စုတေတဲ့အခါ အထက် ယာမာ၊ တုသိတာ၊ နိမ္မာနရတိ၊ ဝသဝတ္တီနတ်ပြည်တွေမှာ အဆင့်ဆင့် ဖြစ်ခဲ့တယ်။ ဖြစ်လေရာ ဘုံဘဝတိုင်းမှာလည်း နတ်မိဖုရားကြီးအနေနဲ့ချည်းပဲ ဖြစ်ခဲ့တယ်။ နတ်ပြည်ကနေ လူ့ဘဝရောက်ပြန်တော့လည်း စကြာမင်း မိဖုရား အကြိမ်ကြိမ်၊ ပဒေသရာဇ်မင်း မိဖုရား အကြိမ်ကြိမ် ဖြစ်ခဲ့တယ်။

## (ဂ) ပစ္ဆိမဘဝ နောက်ဆုံးဘဝဇာတ်ကြောင်း

အဲဒီလိုနဲ့ ကမ္ဘာတစ်သိန်း ကာလပတ်လုံး နတ်ပြည်၊ လူ့ပြည်တွေမှာ ချမ်းသာစွာ ကျင်လည်ခဲ့ပြီး အခုနောက်ဆုံးဘဝ ရောက်တဲ့အခါ

မှာတော့ ကပိလဝတ်ရွှေနန်းတော်မှာ သုဒ္ဓေါဒန မင်းကြီးနဲ့ (မိထွေးတော်) မဟာပဇာပတိဂေါတမီမိဖုရားတို့ရဲ့ သမီးတော် ဖြစ်လာခဲ့ပါတယ်။ ရုပ်ရည်ချောမော လှပသူလေးမို့ ဆွေမျိုးအားလုံးရဲ့ ချစ်မြတ်နိုးတာကို ခံရတာကြောင့် 'နန္ဒာ'လို့ အမည်ပေးခဲ့ကြတယ်။ အစ်မတော် ယသော်ဓရာပြီးရင် သကျသာကီမျိုးထဲမှာ အလှဆုံးကောင်းခြင်းငါးဖြာနဲ့ ပြည့်စုံသူမို့ 'ဇနပဒကလျာဏီ'လို့လည်း ထင်ပေါ်ကျော်ကြားခဲ့တယ်။

ဘုရားလောင်း သိဒ္ဓတ္ထမင်းသားနဲ့ ဖတူမိကွဲ မောင်နှမတော်စပ်ပြီး၊ ညီတော်နန္ဒမင်းသားနဲ့ မောင်နှမရင်း တော်စပ်ပါတယ်။ သကျသာကီမျိုးတွေရဲ့ ထုံးစံက မျိုးဇာတ်ပျက်မှာ စိုးတာကြောင့် မောင်နှမချင်း အိမ်ထောင်ပြုကြတာပါ။ အစ်ကိုရင်း နန္ဒမင်းသားနဲ့ လက်ထပ်တဲ့နေ့မှာပဲ မြတ်စွာဘုရားက နန္ဒမင်းသားကို ရဟန်းပြုပေးခဲ့လို့ ကျန်ရစ်ခဲ့တဲ့ ဇနပဒကလျာဏီဆိုတာ ဒီထေရီမလောင်း နန္ဒာမင်းသမီးပဲ ဖြစ်ပါတယ်။

အလောင်းတော် သိဒ္ဓတ္ထမင်းသား ဘုရားဖြစ်ပြီးတဲ့နောက် ကပိလဝတ်နေပြည်တော်ကို ကြွပြီး ဆွေတော်မျိုးတော်တွေကို တရားဟောတော်မူခဲ့ပါတယ်။ နောက်ပြီး မြတ်စွာဘုရားက ညီတော်နန္ဒမင်းသားနဲ့ သားတော် ရာဟုလာတို့ကိုလည်း ရှင်ရဟန်းပြုပေးခဲ့တယ်။ သာကီဝင်မင်းသားတွေ တော်တော်များများလည်း မြတ်စွာဘုရားနောက် လိုက်သွားပြီး ရဟန်းပြုခဲ့ကြတယ်။

မြတ်စွာဘုရားရှင်ဟာ ဖခမည်းတော် သုဒ္ဓေါဒနမင်းကြီးကိုလည်း ရဟန္တာဖြစ်တဲ့အထိ တရားနဲ့ ကျေးဇူးဆပ်တဲ့အတွက် သုဒ္ဓေါဒနမင်းကြီးဟာ လူဝတ်ကြောင်ဘဝနဲ့ပဲ ရဟန္တာဖြစ်ခဲ့ပြီး ပရိနိဗ္ဗာန်ဝင်စံတော်မူခဲ့ပါတယ်။ သုဒ္ဓေါဒနမင်းကြီး ပရိနိဗ္ဗာန်စံပြီးတဲ့နောက် မဟာပဇာပတိဂေါတမီ မိဖုရားကြီးနဲ့ ယသော်ဓရာ မင်းသမီးတို့လည်း ဘိက္ခုနီရဟန်းမ ဝတ်ခဲ့ကြတယ်။

## နန္ဒာမင်းသမီး ဘိက္ခုနီရဟန်းဝတ်ဖို့ မိထွေးတော်ကြီးက ဆုံးမ

နန္ဒာမင်းသမီးရဲ့ မယ်တော်ဖြစ်တဲ့ မဟာပဇာပတိဂေါတမီ ထေရီမကြီးက နန်းတော်ထက်မှာ တစ်ယောက်တည်း ကျန်ရစ်ခဲ့တဲ့ နန္ဒာမင်းသမီးကို အခုလို ဆုံးမစကား ပြောကြားခဲ့တယ်။

"ချစ်သမီး… သင်ဟာ သာကီဝင်မျိုးနွယ် ဖြစ်တဲ့အတွက် မြတ်စွာဘုရားနောက် လိုက်ရမှာ ဖြစ်တယ်၊ နန္ဒမင်းသားလည်း ရဟန်း ပြုသွားပြီဆိုတော့ တစ်ယောက်တည်း ဘာလို့ နေတော့မလဲ။

နုပျိုတာတွေ၊ အလှအပတွေဆိုတာလည်း အိုခြင်းမှာပဲ အဆုံး သတ်ရတာပါ၊ ဘယ်လောက်ကျန်းမာကျန်းမာ နောက်ဆုံး နာခြင်း နှိပ်စက်တာပဲ ခံရတာပါ၊ အသက်လည်း ဘယ်လောက်ရှည်တယ်ပဲ ပြောပြော နောက်ဆုံး သေခြင်းမှာပဲ အဆုံးသတ်ရတာပါ။

သမီးရဲ့ ရုပ်ရည်အဆင်းဟာ တကယ့်ကို ကျက်သရေလည်း ရှိ၊ လှလည်း လှပပါပေတယ်၊ နှစ်လိုဖွယ်ရှိပြီး သူတစ်ပါးရဲ့ စိတ်ကို လည်း ဆွဲဆောင်နိုင်ပါပေတယ်၊ ဒါကြောင့် တစ်ဆွေလုံး တစ်မျိုးလုံး ကလည်း နှစ်သက်မြတ်နိုးကြတယ်။

အဲဒီလို လှပတင့်တယ်တဲ့ သမီးရဲ့ရုပ်ရည်အဆင်းကို မကြာခင် မှာပဲ ဇရာဆိုတဲ့ အိုခြင်း တရားက လွှမ်းမိုးနှိပ်စက် ဖျက်ဆီးပါ လိမ့်မယ်၊ ဒါကြောင့် ချစ်သမီး… သင်ဟာ နန်းတော်ကို ပယ်စွန့်ပြီး သင့်အတွက် အားကိုးရမယ့် တရားကို ကျင့်ပါ"

## နန္ဒာမင်းသမီး ရဟန်းပြုပေမယ့် ရဟန်းဘဝ မပျော်

ဒီအခါ နန္ဒာမင်းသမီးလည်း 'အင်း… မယ်တော်တွေ၊ အစ်မ တော်တွေ အကုန်လုံး ရဟန်းပြုကုန်မှတော့ ငါတစ်ယောက်တည်း နန်းတော်မှာ နေနေလို့ ဘာအဓိပ္ပာယ်ရှိတော့မလဲလေ'လို့ တွေးပြီး မယ်တော် မဟာပဇာပတိဂေါတမီ ထေရီမကြီးထံ သွားပြီး ဘိက္ခုနီ ရဟန်းမ ဝတ်လိုက်ပါတော့တယ်။ တကယ်တော့ နန္ဒာမင်းသမီးဟာ

သဒ္ဓါတရားနဲ့ ရဟန်းပြုခဲ့တာတော့ မဟုတ်ပါဘူး။ ဒါကြောင့် ခန္ဓာကိုယ်ကတော့ ရဟန်းမ အသွင်နဲ့ပါ၊ ဒါပေမဲ့ စိတ်ကတော့ ရဟန်း ဘဝကို မနှစ်သက်လှပါဘူး၊ သူမရဲ့ ရုပ်ရည်အလှအပ အပေါ်မှာပဲ သာယာယစ်မူးနေခဲ့တယ်။ မယ်တော်က သမာဓိစျာန်တွေ ရအောင် အားထုတ်ခိုင်းပေမယ့် စိတ်က မထက်သန်လှပါဘူး။

'မြတ်စွာဘုရားက ရုပ်အဆင်းကို ကဲ့ရဲ့တော်မူတယ်'လို့ ထင်ပြီး မြတ်စွာဘုရားထံလည်း မသွားခဲ့ပါဘူး။ အဆုံးအမ ဩဝါဒ ခံယူဖို့ အလှည့်ရောက်ခဲ့ပေမယ့် ကိုယ်တိုင်မသွားဘဲ အခြားဘိက္ခုနီမ ကိုပဲ ကိုယ်စားစေလွှတ်ပြီး အဆုံးအမဩဝါဒ ဆောင်ယူစေခဲ့တယ်။ အခုလို နန္ဒာထေရီမ အလှမာန် ယစ်နေကြောင်း မြတ်စွာဘုရား သိတော်မူတဲ့အခါ "ဘိက္ခုနီမတွေဟာ ကိုယ့်အတွက် ဩဝါဒကို ကိုယ်တိုင်ပဲ လာရောက် ခံယူကြရမယ်၊ တခြားသူကို ကိုယ်စား မလွှတ်ရ"ဆိုတဲ့ ထပ်ဆင့် အမိန့်တော် ထုတ်ပြန်တော်မူခဲ့ရတယ်။ ဒီအခါ နန္ဒာထေရီမဟာ တိမ်းရှောင်လို့ မရတော့တာနဲ့ စိတ်မပါ့ တပါနဲ့ပဲ ဆုံးမဩဝါဒခံယူဖို့ မြတ်စွာဘုရားထံ သွားရောက်ခဲ့ရ တော့တယ်။

## မိန်းမလှရုပ်လေး ဖန်ဆင်းပြပြီး တရားဟောတော်မူ

မြတ်စွာဘုရားရှင်ဟာ နန္ဒာထေရီမမှာ ရုပ်လှမှုအပေါ် ငြီးငွေ့ တဲ့ နိဗ္ဗိန္ဒဉာဏ် ထင်စေဖို့အတွက် နန္ဒာထေရီမထက် အဆပေါင်းများစွာ သာလွန်လှပပြီး ကောင်းမြတ်တဲ့လက္ခဏာတွေနဲ့ ပြည့်စုံတဲ့ မိန်းမလှ လေးကို တန်ခိုးနဲ့ ဖန်ဆင်းပြတော်မူခဲ့ပါတယ်။ ခန္ဓာကိုယ်ထဲ စူးဝင်နေ တဲ့ ဆူးကို အခြားဆူးနဲ့ ဖယ်ထုတ်သလို၊ သစ်သားထဲမှာ စိုက်နေတဲ့ သံတစ်ချောင်းကို အခြားသံတစ်ချောင်းနဲ့ ရိုက်ထုတ်သလို မြတ်စွာ ဘုရားရှင်ဟာ ရုပ်ရည်အဆင်းပေါ်မှာ နှစ်သက်သာယာနေတဲ့ နန္ဒာ ထေရီမရဲ့ တပ်မက်မှု ရာဂကို ရုပ်အဆင်းဖောက်ပြန်တာနဲ့ ဖယ်ရှားပေး

လိုတဲ့အတွက် ခုလို နိမ္မိတ မိန်းမလှလေးကို ဖန်ဆင်းပြတော်မူခဲ့တာ ပါ။ ဒီမိန်းမလှလေးကို မြတ်စွာဘုရားနဲ့ နန္ဒာထေရီ နှစ်ဦးပဲ တွေ့မြင် ရပါတယ်။

ကိုယ်လုံးကိုယ်ပေါက် အချိုးအဆစ် အလွန်ပြေပြစ်ပြီး လှပ လွန်းလှတဲ့ မိန်းမချော မိန်းမလှလေးကို မြင်တွေ့လိုက်ရတဲ့ နန္ဒာထေရီမ ဟာ 'သြော်… ငါ လူဖြစ်ကျိုး နပ်လိုက်တာ၊ ဒီလို ချောမောပြီး ကျက်သရေရှိတဲ့ မိန်းမလှလေးကို မြင်ရတဲ့ ငါ့မျက်လုံးတွေလည်း အရတော်လိုက်တာ' လို့တောင် ထင်မိသွားတယ်။ သူမရဲ့ အဆင်း မာန်ကို စွန့်ပယ်ပြီး ဘုရားဖန်ဆင်းတဲ့ မိန်းမလှရဲ့ အဆင်းအပေါ်မှာ တပ်မက်တဲ့ အလိုဆန္ဒတွေ လွန်လွန်ကဲကဲ ဖြစ်လာတဲ့သဘောပါ။

ဆက်ပြီး နန္ဒာထေရီမဟာ အဲဒီမိန်းမချော မိန်းမလှလေးကို ခုလို ပြောခဲ့တယ်။

"အို… သိပ်ကို ချောလွန်းတဲ့ သူငယ်ချင်းမ… ငါ့ဆီ လာပါဦး၊ နင် ဘာလိုချင်လဲ၊ လိုချင်တာ ငါ့ကို ပြောပါ၊ တကယ်လို့ နင် ငါ့ကို ချစ်တယ်ဆိုရင် နင့်အကြောင်းတွေ ပြောပြပါလား။

သူငယ်ချင်းမ… ငါ့ကို မလှည့်စားပါနဲ့။ ငါ့ ရင်ခွင်ထဲမှာ ခေတ္တခဏလောက် လာမနေချင်ဘူးလား၊ ငါ့ရင်ခွင်ထဲမှာ ခဏလောက် လာပြီး မှေးစက်လှည့်ပါ သူငယ်ချင်း"

ဒီအခါ ဘုရားဖန်ဆင်းထားတဲ့ မိန်းမလှလေးက နန္ဒာ ထေရီမရဲ့ ရင်ခွင်ထဲ တိုးဝှေ့ပြီး ခေါင်းလေးထားကာ မှေးစက်နားခိုခဲ့ တယ်။ မကြာခင်မှာပဲ မိန်းမလှလေးရဲ့ နဖူးမှာ အနာကလေး တစ်ခု ပေါက်လာတယ်။ အနာလေးက တဖြည်းဖြည်း ကြီးလာပြီး ပြည်တွေ၊ သွေးပုပ်တွေ ပေါက်ကွဲ ယိုစီးကျလာခဲ့တယ်။ ပြီးတော့ တစ်ကိုယ်လုံး မှာလည်း အနာတွေ ပေါက်ပြီး ဖူးဖူးရောင်လာတယ်၊ အဆင်းတွေ လည်း ညိုပုပ်လာတယ်၊ အပုပ်ရည်တွေလည်း တစ်ကိုယ်လုံးမှာရှိတဲ့

အနာတွေကနေ ယိုစီးထွက်ကျနေတော့တယ်။ အပုပ်နံ့တွေကလည်း မခံမရပ်နိုင်အောင် နံစော်နေခဲ့တယ်။ မိန်းမလှလေးဟာ ခန္ဓာကိုယ်တစ်ကိုယ်လုံး တဆတ်ဆတ် တုန်လှုပ်နေပြီး ဒုက္ခဝေဒနာတွေ အပြင်းအထန် ခံစားနေရတာကြောင့် သနားစဖွယ် ရှိုက်ကြီးတငင် ငိုနေခဲ့တယ်။

ပြီးတော့ မိန်းမလှလေးက နန္ဒာ ထေရီမကို ‘‘အဆွေသူငယ်ချင်းမ··· အကျွန်ုပ်ဟာ အနာတွေ ပေါက်ပြီး အကြီးအကျယ်ဆင်းရဲဒုက္ခ ရောက်နေပါတယ်၊ အနာတွေက မပြတ်နှိပ်စက်နေပါတယ်၊ သူငယ်ချင်းမရယ် အကျွန်ုပ်ကို သနားပါဦး၊ ရောဂါတွေပျောက်အောင် ကယ်ပေးပါဦး’’လို့ အားကိုးတကြီးနဲ့ ငိုပြီး ပြောခဲ့တယ်။

**မိန်းမလှလေးရဲ့ ဖောက်ပြန်ပျက်စီးပုံကို ကြည့်ပြီး သံဝေဂဉာဏ်ဖြစ်**

ဒီအခါ နန္ဒာထေရီမက အနာတွေပေါက်ပြီး ဒုက္ခရောက်နေရှာတဲ့ မိန်းမလှလေးကို ခုလို သံဝေဂဉာဏ်နဲ့ယှဉ်တဲ့ စကားတွေပြန်ပြောခဲ့တယ်။

‘‘အို··· သူငယ်ချင်းမ··· နင့်မျက်နှာက အလှတွေ ဘယ်ရောက်သွားတာလဲ၊ နင့်ရဲ့ သွယ်ပြီး မြင့်နေတဲ့ နှာတံလေးကရော ဘယ်ရောက်သွားလဲ၊ ကျီးအာသီးလို နီမြန်းပြီး လှပလွန်းတဲ့ နှုတ်ခမ်းနဲ့ အာခံတွင်းလေးကရော ဘယ်ရောက်သွားပြီလဲ။

လရောင်လေးလို လှပဝင်းဝါနေတဲ့အဆင်းတွေကရော ဘယ်ရောက်သွားတာလဲ၊ ရွှေမုရိုးစည်လို လှပတဲ့ လည်ပင်းရဲ့ အလှတွေကရော ဘယ်ပျောက်သွားပြီလဲ၊ ဖယောင်း လွှဲသလို လှပလွန်းလှတဲ့ နားရွက်အလှတွေလည်း ခုတော့ ပျောက်ကွယ်ကုန်ပါပေါ့လား သူငယ်ချင်းမရယ်၊ ရုပ်ရည်အဆင်းတွေ အကုန်လုံး ဖေါက်ပြန်ကုန်ကြပြီပဲ။

ပန်းငုံရင့် ပန်းငုံနုသဖွယ်ဖြစ်တဲ့ သားမြတ်တွေလည်း ပန်းပွင့်တွေလို ပျက်စီးကုန်ပြီပဲ၊ နင့်ရဲ့ ခန္ဓာကိုယ်အပုပ်ကောင်ဟာ အနံ့ဆိုးတွေထွက်တဲ့အဆင့်ထိ ရောက်ရှာပေါ့ပဲ။

ပွတ်လုံးပွတ်တိုင်လို ချောမွတ်တင့်တယ်တဲ့ ခါးဟာ ခုတော့ စဉ်းတီတုံးလို ကြမ်းတမ်းသွားပြီပဲ၊ မစင်မကြယ် ရွံစဖွယ်တွေနဲ့ ပြည့်နေပေါ့ပဲ၊ သြော်··· ရုပ်ရည်အဆင်းဟာ မမြဲလေစွ။

ဒီခန္ဓာကိုယ်မှာရှိတဲ့ အရာအားလုံးဟာ ပုပ်တဲ့အနံ့ ရှိပါပေတယ်၊ သုသာန်သင်္ချိုင်းလို ကြောက်မက်ဖွယ်၊ ရွံရှာဖွယ်တွေသာ ဖြစ်ပါပေတယ်၊ အမိုက်မတွေဟာ ဒီသဘောရှိတဲ့ ရုပ်အဆင်းအပေါ်မှာ တပ်မက်ပျော်မွေ့နေကြပါတကား”

မြတ်စွာဘုရား ဖန်ဆင်းပြတဲ့ နိမ္မိတ မိန်းမလှရဲ့ ဆင့်ကဲဆင့်ကဲ ဖောက်ပြန်သွားတဲ့ ဖြစ်စဉ်ကို မြင်လိုက်ရတဲ့ နန္ဒာထေရီမရဲ့ စိတ်အစဉ်မှာ ‘သြော်··· အခု ငါမြင်တွေ့ရတဲ့ မိန်းမလှရဲ့ ဖောက်ပြန်ပျက်စီးသွားတဲ့ သဘောဟာ မွေးလာတဲ့ သတ္တဝါတိုင်းနဲ့ သက်ဆိုင်တဲ့ သဘာဝဖြစ်ပါပေတယ်’လို့ ရှုဆင်ခြင်တဲ့ အနိစ္စသညာတွေ ထင်လာတယ်။ အဲဒီနောက်မှာ ဒုက္ခသညာ၊ အနတ္တသညာတွေလည်း ဆက်တိုက်ထင်လာခဲ့တယ်။ ကာမဘဝ၊ ရူပဘဝ၊ အရူပဘဝဆိုတဲ့ ဘဝသုံးပါးဟာ မီးဟုန်းဟုန်း တောက်လောင်နေတဲ့ အိမ်လို ကိုးကွယ် ရာမဲ့တဲ့အနေနဲ့ ထင်လာခဲ့တယ်။

## နန္ဒာထေရီ သောတာပန်ဖြစ်

ဒီအခါ မြတ်စွာဘုရားရှင်ဟာ ‘နန္ဒာ ဘိက္ခုနီမရဲ့ စိတ်အစဉ်ဟာ ကမ္မဋ္ဌာန်းအလုပ်မှာ သက်ဝင်နေပြီ’လို့ သိတော်မူလိုက်တယ်။ ဒါကြောင့် နန္ဒာထေရီမရဲ့ စရိုက်သဘာဝနဲ့ ကိုက်ညီတဲ့ ဖော်ပြပါ အဓိပ္ပာယ်ရတဲ့ ဂါထာတွေနဲ့ တရားဟောကြားတော်မူခဲ့ပါတယ်။

“ချစ်သမီး နန္ဒာ… လူတွေဟာ သစ်သားတွေကို စိုက်ထောင်ပြီး ကြိမ်နွယ်တွေ၊ ဝါးနှီးတွေနဲ့ ဖွဲ့တုပ်၊ ရွှံ့မြေတွေ၊ နွားချေးတွေနဲ့ လိမ်းကျံကာ စပါး ကောက်ပဲသီးနှံတွေ သိုလှောင်တဲ့ စပါးကျီကို လုပ်ကြတယ်၊ ဒီဥပမာလိုပဲ အရိုး သုံးရာကို စိုက်ထောင်ပြီး အကြောကိုးရာနဲ့ ဖွဲ့ချည်ရစ်ပတ်၊ အသားတစ် ကိုးရာရယ်၊ တစ်ပြည်လောက်ပမာဏရှိတဲ့ သွေးတွေနဲ့ လိမ်းကျံထားတဲ့ စပါးကျီနဲ့တူတဲ့ ဒီခန္ဓာကိုယ်ကြီးကို တဏှာယောကျ်ား လက်သမားက ဆောက်လုပ်ထားတာပါ၊ ဒီခန္ဓာကိုယ်ဆိုတဲ့ စပါးကျီထဲမှာ အိုခြင်း ဇရာတရား၊ သေခြင်း မရဏတရား၊ ထောင်လွှားခြင်း မာနတရားနဲ့ သူ့ကျေးဇူးကို ချေဖျက်ခြင်း မက္ခတရားတွေ ထည့်သွင်း သိုလှောင်ထားကြတယ်။

ချစ်သမီး နန္ဒာ… အခုလို အရိုးတွေနဲ့ စိုက်ထောင်ထားတဲ့ ခန္ဓာကိုယ်ရဲ့အမြဲမပြတ် နာကျင်နေတဲ့သဘော၊ မစင်ကြယ်တဲ့သဘော၊ ပုပ်တဲ့သဘော၊ အထက်ကို လျှံတက်ယိုစီးတဲ့ သဘော၊ အောက်ကို လျှောကျယိုစီးတဲ့သဘောတွေကို ဉာဏ်နဲ့ စေ့ငုသေချာ ကြည့်ပါလေ့၊ ဒီလိုသဘောရှိတဲ့ ခန္ဓာကိုယ်ကို လူမိုက်တွေက အလွန်ပဲ ခုံမင်နှစ်သက်တောင့်တကြတယ်။

ချစ်သမီး နန္ဒာ… သင်ရဲ့အတွင်းအဇ္ဈတ္တ ခန္ဓာကိုယ်ဟာ မမြဲသလို သင်မြင်ရတဲ့ ဒီဗဟိဒ္ဓ ခန္ဓာကိုယ်ဟာလည်း မမြဲတဲ့သဘောရှိတယ်၊ သင်မြင်ရတဲ့ မိန်းမလှရုပ်ဟာ ဆင့်ကဲဆင့်ကဲ ဖောက်ပြန်ပြီး ဖူးဖူးရောင်ကာ သူသေကောင်အဖြစ် ရောက်သွားသလို သင်ရဲ့အဇ္ဈတ္တကိုယ်ဟာလည်း ဆင့်ကဲဆင့်ကဲ ဖောက်ပြန်ပြီး ဖူးဖူးရောင်ကာ သူသေကောင်ဖြစ်မှာ သေချာတယ်။

ဒါကြောင့် သင်ချစ်သမီးဟာ ‘မိမိခန္ဓာ၊ သူတစ်ပါးခန္ဓာနှစ်ခုလုံးအပေါ်မှာ ပထဝီဓာတ် စတဲ့ ရုပ်ဓာတ်၊ နာမ်ဓာတ်တွေသာ ရှိပါလား၊ ခိုင်မြဲတဲ့ အတ္တသဘောမှ ကင်းဆိတ်တဲ့ သဘော ရှိပါလား’ လို့ ဝိပဿနာဉာဏ်မျက်စိနဲ့ သေချာစွာ ကြည့်ပါ။ ဖြစ်ပြီး

ပျက်ရတဲ့ လောကနယ်ထဲကို ချစ်သမီး ပြန်မရောက်ချင်ပါနဲ့။ ကာမ၊ ရူပ၊ အရူပဆိုတဲ့ ဘဝသုံးပါးအပေါ် တပ်မက်တွယ်တာတဲ့ တဏှာဆန္ဒကို မဂ်ဉာဏ်နဲ့ အကြွင်းမဲ့ ပယ်ဖြတ်နိုင်ခဲ့ရင် သင်ချစ်သမီးဟာ ကိလေသာ အပူခပ်သိမ်း အေးငြိမ်းပြီး ချမ်းကြည်အေးမြစွာ နေရပေလိမ့်မယ်''

ဒီတရားဒေသနာအဆုံးမှာ ဇနပဒကလျာဏီ နန္ဒာထေရီမဟာ သောတာပတ္တိဖိုလ်ကို ရရှိပြီး သောတာပန် အရိယာ ဖြစ်ခဲ့ပါတယ်။

## နန္ဒာထေရီကို ရဟန္တာဖြစ်စေတဲ့ ဝိဇယသုတ္တန်

အဲဒီနောက်မှာတော့ မြတ်စွာဘုရားရှင်ဟာ နန္ဒာထေရီမကို အထက်မဂ်ဖိုလ်တွေ ရစေဖို့ ဝိပဿနာကမ္မဋ္ဌာန်းတရား ဟောကြားတော်မူလိုတဲ့အတွက် ဝိဇယသုတ္တန်ကို ၁၂-ဂါထာနဲ့ ဟောကြားတော်မူခဲ့ပါတယ်။ ဒီဝိဇယသုတ္တန်ကို ခုဒ္ဒကနိကာယ် သုတ္တနိပါတ ပါဠိတော်မှာ သင်္ဂါယနာတင် မထေရ်မြတ်တွေက မှတ်တမ်းတင်ထားခဲ့ပါတယ်။ မင်းကွန်း တိပိဋကဆရာတော်ဘုရားကြီးက မဟာဗုဒ္ဓဝင် စတုတ္ထတွဲမှာ ဒီဝိဇယသုတ္တန်ကို သုတ္တနိပါတအဋ္ဌကထာဖွင့်၊ ဓမ္မသင်္ဂဏီ မူလဋီကာ အနုဋီကာအဖွင့်တွေနဲ့ ဝေဆာစွာ မြန်မာပြန်ဆိုခဲ့ပါတယ်။ အခု မင်းကွန်းဆရာတော်ကြီး မြန်မာပြန်ဆိုချက်မှ ကောက်နုတ်ပြီး ဝိဇယသုတ္တန် အကျဉ်းချုပ်ကို ဖော်ပြပါမယ်။ တရားသား အဆီအနှစ်တွေ မပျက်စေချင်တာမို့ မှတ်ချက်တွေကို ဆရာတော်ကြီး ရေးတဲ့အတိုင်းပဲ တိုက်ရိုက်ကူးယူ ဖော်ပြပါမယ်။

(၁) သွားလည်း သွားတယ်၊ ရပ်လည်း ရပ်တယ်။
ထိုင်လည်း ထိုင်တယ်၊ လျောင်းလည်း လျောင်းစက်တယ်။
ကွေးလည်း ကွေးတယ်၊ ဆန့်လည်း ဆန့်တယ်။

သွားတာ၊ ရပ်တာ၊ ထိုင်တာ၊ လျောင်းစက်တာ၊ ကွေးတာ၊ ဆန့်တာစတဲ့ ဒီအမူအရာ အားလုံးဟာ ကိုယ်ခန္ဓာရဲ့ လုပ်ရှားမှုသက်သက်သာ ဖြစ်တယ်။

(ဤဂါထာဖြင့် ဤဆိုလတ္တံ့သော အနက်အဓိပ္ပာယ်ကို ဖော်ပြသည်။

ဤခန္ဓာကိုယ်၌ အခြားတစ်ပါးသော တစ်စုံတစ်ယောက်သော သွားတတ်သူ ပုဂ္ဂိုလ်သတ္တဝါ၊ ရပ်တတ်သူ၊ ထိုင်တတ်သူ၊ လျောင်းအိပ်တတ်သူ၊ ကွေးတတ်သူ၊ ဆန့်တတ်သူ ပုဂ္ဂိုလ်သတ္တဝါဟူ၍ မရှိ။ စင်စစ်သော်ကား–

**၁။ သွားလို၊ ရပ်လို၊ ထိုင်နေလို၊ အိပ်လို "စိတ်"ဟုသိ။**

**၂။ စိတ်ကြောင့်ဖြစ်သော၊ ဓာတ်ဝါယော၊ နှံ့နှော ကိုယ်ဝယ်ပြည့်။**

**၃။ ဝါယောပြည့်သော်၊ ရုပ်သစ်ပေါ်၊ ရုပ်သော် သွားပေ၏။**

**၄။ ပုဂ္ဂိုလ်မသွား၊ ငါမသွား၊ ရုပ်သွား ဉာဏ်ဖြင့်သိ။**

**၅။ ပုဂ္ဂိုလ်မရပ်၊ ငါမရပ်၊ ရုပ်ရပ် ဉာဏ်ဖြင့်သိ။**

**၆။ ပုဂ္ဂိုလ်မထိုင်၊ ငါမထိုင်၊ ရုပ်ထိုင် ဉာဏ်ဖြင့်သိ။**

**၇။ ပုဂ္ဂိုလ်မအိပ်၊ ငါမအိပ်၊ ရုပ်အိပ် ဉာဏ်ဖြင့်သိ။**

**၈။ ပုဂ္ဂိုလ်မကွေး၊ ငါမကွေး၊ ရုပ်ကွေး ဉာဏ်ဖြင့်သိ။**

**၉။ ပုဂ္ဂိုလ်မဆန့်၊ ငါမဆန့်၊ ရုပ်ဆန့် ဉာဏ်ဖြင့်သိ**

ဟူသော လင်္ကာများအတိုင်း (၁) သွားလိုသောစိတ် ဖြစ်လတ်သော် ထိုစိတ်ကြောင့်ဖြစ်သော ဝါယောဓာတ်သည် တစ်ကိုယ်လုံး၌ ပျံ့နှံ့လေသည်။ ထိုသို့ ဝါယောဓာတ် တစ်ကိုယ်လုံး ပျံ့နှံ့ခြင်းကြောင့် ကိုယ်ကာယ၏ သွားလိုရာ အရပ်သို့ ရွေးရှုဆောင်ခြင်းသည် ဖြစ်၏၊ သွားလိုရာ အရပ်တစ်ပါးဘက်၌ သွားသောအမူအရာအားဖြင့် ရုပ်ထူးတို့ ထင်ရှားဖြစ်ပေါ်လာကြ၏ဟု ဆိုလိုသည်။ ထိုသို့ ရုပ်အဆက်ဆက်တို့၏ သွားသောအမူအရာဖြင့် ဖြစ်ကြသောကြောင့်ပင်(ဝါ– ဖြစ်ကြသည်ကိုပင်) "သွား၏"ဟူ၍ လောကပညတ် ခေါ်ဆိုအပ်လေသည်။

(၂) ထို့အတူ ရပ်လိုသောစိတ် ဖြစ်လတ်သော် ထိုစိတ်ကြောင့် ဖြစ်သော ဝါယောဓာတ်သည် တစ်ကိုယ်လုံးသို့ ပျံ့နှံ့လေသည်။ ထိုသို့ ဝါယောဓာတ် တစ်ကိုယ်လုံး ပျံ့နှံ့ခြင်းကြောင့် ကိုယ်ကာယ၏ မတ်မတ် စိုက်ထောင်ခြင်းသည် ဖြစ်၏၊ အထက်အထက်ဌာနဖြင့် ရုပ်အထူးတို့၏ အဆင့်ဆင့် ဖြစ်ပေါ်လာခြင်း ဖြစ်သည်ဟု ဆိုလိုသည်။ ထိုသို့ ရုပ်အဆက်ဆက်တို့ အောက်နှင့်အထက် အဆင့်ဆင့် ရပ်သော အမူအရာဖြင့် ဖြစ်ကြသောကြောင့်ပင် (ဝါ- ဖြစ်သည်ကိုပင်) "ရပ်၏"ဟု လောကပညတ် ခေါ်ဆိုအပ်လေသည်။

(၃) ထို့အတူ ထိုင်လိုသောစိတ် ဖြစ်လတ်သော် ထိုစိတ်ကြောင့် ဖြစ်သော ဝါယောဓာတ်သည် တစ်ကိုယ်လုံးသို့ ပျံ့နှံ့လေသည်၊ ထိုသို့ ဝါယောဓာတ် တစ်ကိုယ်လုံး ပျံ့နှံ့ခြင်းကြောင့် ကိုယ်ကာယ၏ အောက်ပိုင်းက ကွေးသောအမူအရာ၊ အထက်ပိုင်းက စိုက်ထောင်သော အမူအရာ ဖြစ်ပေါ်လာ၏။ အောက်ပိုင်း ကိုယ်ကာယက ကွေးသော အမူအရာ၊ အထက်ပိုင်းကိုယ်ကာယက စိုက်ထောင်သောအမူအရာဖြင့် ရုပ်အထူးတို့ ထင်ရှားဖြစ်ပေါ်လာကြသည်ဟု ဆိုလိုသည်။ ထိုသို့ ရုပ်အထူးတို့ ထိုင်သောအမူအရာဖြင့် ဖြစ်ကြသောကြောင့်ပင် (ဝါ- ဖြစ်ကြသည်ကိုပင်) "ထိုင်၏"ဟူ၍ လောကပညတ် ခေါ်ဆိုအပ်လေသည်။

(၄) ထို့အတူ လျောင်းလို အိပ်လိုသောစိတ် ဖြစ်လတ်သော် ထိုစိတ်ကြောင့်ဖြစ်သော ဝါယောဓာတ်သည် တစ်ကိုယ်လုံးသို့ ပျံ့နှံ့လေသည်။ ထိုသို့ ဝါယောဓာတ် တစ်ကိုယ်လုံး ပျံ့နှံ့ခြင်းကြောင့် ကိုယ်ကာယ၏ ဖီလာကန့်လန့် ဆန့်သောအခြင်းအရာ ဖြစ်ပေါ်လာ၏၊ ဖီလာကန့်လန့် ဆန့်သောအမူအရာဖြင့် ရုပ်အထူးတို့ ထင်ရှား ဖြစ်ပေါ်လာကြသည်ဟု ဆိုလိုသည်။ ထိုသို့ ရုပ်အထူးတို့ ဖီလာကန့်လန့် ဆန့်သောအမူအရာ (ဝါ)လျောင်းအိပ်သောအမူအရာဖြင့် ဖြစ်ကြသော

ကြောင့်ပင် (ဝါ- ဖြစ်ကြသည်ကိုပင်) "လျောင်း၏" "အိပ်၏"ဟူ၍ လောကပညတ် ခေါ်ဆိုအပ်လေသည်။

(၅) (၆) ထို့အတူ "ကွေး၏" "ဆန့်၏"ဟု ဆိုရာ၌လည်း ကွေးလို၊ ဆန့်လိုသောစိတ် ဖြစ်လတ်သော် ထိုစိတ်ကြောင့်ဖြစ်သော ဝါယောဓာတ်သည် ထိုထိုအဆစ်တို့သို့ ပျံ့နှံ့လေသည်။ ထိုသို့ ဝါယောဓာတ် ပျံ့နှံ့ခြင်းကြောင့် အဆစ်တို့၏ ကွေးသောအမူအရာ၊ ဆန့်သောအမူအရာ ဖြစ်ပေါ်လာလေသည်။ ကွေးသောအမူအရာ၊ ဆန့်သောအမူအရာဖြင့် ရုပ်အထူးတို့ ထင်ရှားဖြစ်ပေါ်လာကြသည်ဟု ဆိုလိုသည်။ ထိုသို့ ရုပ်အထူးတို့ ကွေးသော အမူအရာ၊ ဆန့်သော အမူအရာဖြင့် ဖြစ်ကြသောကြောင့်ပင် (ဝါ-ဖြစ်ကြတာကိုပင်) "ကွေး၏ ဆန့်၏"ဟူ၍ လောကပညတ် ခေါ်ဆိုအပ်လေသည်။

ထို့ကြောင့် ဖော်ပြရာပါ လောကပညတ် ခေါ်ဆိုအပ်သည့် သွားမှု၊ ရပ်မှု၊ ထိုင်မှု၊ လျောင်းမှု=အိပ်မှု၊ကွေးမှု၊ ဆန့်မှု အမူအရာ အစုစုသည် ဤကိုယ်ခန္ဓာ၏ လှုပ်ရှားမှုသာဖြစ်၏။ ထိုထိုအမူအရာဖြင့် ရုပ်တရား အထူးတို့ ထင်ရှားဖြစ်ပေါ်မှုသာ ဖြစ်၏ဟု ဆိုလိုသည်။ ဤခန္ဓာကိုယ်၌ အခြားတစ်ပါး တစ်စုံတစ်ယောက် သွားတတ်၊ ရပ်တတ်၊ ထိုင်တတ်၊ လျောင်းတတ်-အိပ်တတ်၊ ကွေးတတ်၊ ဆန့်တတ်သော ပုဂ္ဂိုလ် သတ္တဝါ၊ အတ္တ၊ ဇီဝ ဟူ၍ မရှိ။ ဤခန္ဓာကိုယ်သည် တစ်စုံတစ်ယောက် သွားတတ်သော ပုဂ္ဂိုလ်သတ္တဝါ၊ ရပ်တတ်သော ပုဂ္ဂိုလ် သတ္တဝါ၊ လျောင်းတတ်-အိပ်တတ်သော ပုဂ္ဂိုလ်သတ္တဝါ၊ ကွေးတတ်သော ပုဂ္ဂိုလ်သတ္တဝါ၊ ဆန့်တတ်သော ပုဂ္ဂိုလ် သတ္တဝါ၊ အတ္တ ဇီဝမှ ဆိတ်သုဉ်း၏။ စင်စစ်သော်ကား-

စိတ္တနာနတ္တမာဂမ္မ၊ နာနတ္တံ ဟောတိ ဝါယုနော။
ဝါယုနာနတ္တတော နာနာ၊ ဟောတိ ကာယဿ ဣဉ္စနာ။

စိတ်ထူးခြားမှုကို အစွဲပြု၍ ဝါယောဓာတ်၏ ထူးခြားမှုသည် ဖြစ်၏။

ဝါယောဓာတ်ထူးခြားမှုကြောင့် ဤကိုယ်ခန္ဓာ၏ လှုပ်ရှားမှု အထူးထူး အထွေထွေ ဖြစ်ပေါ်လေသည်။ ဤကား ဤဂါထာ၌ ပရမတ္ထသဘော အနက်အဓိပ္ပာယ်တည်း။

ဤသို့လျှင် မြတ်စွာဘုရားရှင်သည် ဤဝိဇယသုတ္တန် ပထမဂါထာဖြင့် အနိစ္စလက္ခဏာ၊ ဒုက္ခလက္ခဏာ၊ အနတ္တလက္ခဏာ ၃ ပါးကို ထင်ရှားပြတော်မူ၏။ ပြတော်မူပုံမှာ-

သွား၊ရပ်၊ထိုင်၊လျောင်း = ဣရိယာပုတ်လေးပါးတို့အနက် တစ်ခုသော ဣရိယာပုတ်၌ ကြာမြင့်စွာ နေသဖြင့် ကိုယ်ဆင်းရဲ နာကျင်မှုသည် ဖြစ်ပေါ်လာ၏၊ ထိုကိုယ်ဆင်းရဲနာကျင်မှုကို ပယ် ဖျောက်ရန် အခြားဣရိယာပုတ်တစ်ပါးသို့ ပြောင်းလဲမှုကို ပြုရတော့ ၏။ (ကိုယ်ဆင်းရဲနာကျင်မှု=ဒုက္ခလက္ခဏာ သဘောကို ဣရိယာ ပုတ်ဖြင့် ဖုံးထားအပ်လေသည်၊ ဝါ- ဒုက္ခသဘောလက္ခဏာ မပေါ်နိုင် အောင် အခြားဣရိယာပုတ် တစ်ပါး တစ်ပါးဖြင့် ပြောင်းလဲဖုံးအုပ်၍ ထားလေသည်။ ထို့ကြောင့် **'ဒုက္ခလက္ခဏာကို ဣရိယာပုတ် ဖုံးအုပ် သည်'** ဟု ပညာရှိတို့ မိန့်ဆိုတော်မူကြသည်။)

သို့ရကား ဒီဝိဇယသုတ္တန်လာ ပထမဂါထာ၏ ပထမ၊ ဒုတိယ၊ တတိယ သုံးပိုဒ်တို့ဖြင့် ဣရိယာပုတ် တစ်မျိုးတစ်မျိုး ပြောင်းလဲဖုံးအုပ်၍ ထားအပ်သော ဒုက္ခလက္ခဏာကို ပြတော်မူ၏။ (ကိုယ်ဆင်းရဲသောကြောင့် ဣရိယာပုတ် အမျိုးမျိုး ပြောင်းလဲရသည်။ သို့ရကား ဣရိယာပုတ် အမျိုးမျိုး ပြောင်းလဲရမှု တည်းဟူသော အကျိုးကို ဖော်ပြသဖြင့် အကြောင်းဖြစ်သည့် ကိုယ်ဆင်းရဲမှု= ဒုက္ခလက္ခဏာ ကို သိရလေသည်။)

ထို့အတူ သွားသောအခါ၌ ရပ်ခြင်း စသည်တို့ မရှိသော ကြောင့် ''ဧသော ကာယဿ ဣဉ္ဇနာ = သွားတာ၊ ရပ်တာ၊ ထိုင်တာ၊ လျောင်းစက်တာ၊ ကွေးတာ၊ ဆန့်တာ စတဲ့ ဒီအမူအရာ အားလုံးဟာ ကိုယ်ခန္ဓာရဲ့ လှုပ်ရှားမှုသက်သက်သာ ဖြစ်တယ်''ဟု ဟောတော်မူ

သော မြတ်စွာဘုရားရှင်သည် သန္တတိဖြင့် ဖုံးလွှမ်းအပ်သော အနိစ္စလက္ခဏာကို ပြတော်မူ၏။

ထင်ရှားစေဦးအံ့၊ ရုပ်နာမ်တရားတို့၏ စဉ်ဆက်မပြတ်ဖြစ်ပွားနေမှုကို 'သန္တတိ'ဟူ၍ ခေါ်ဆိုသည်၊ ယင်းသို့ ရုပ်နာမ်တရားတို့၏ စဉ်ဆက်မပြတ် ဖြစ်ပွားနေမှု = သန္တတိကြောင့် ထိုရုပ်နာမ်တရားတို့၏ သူ့ခဏနှင့်သူ ချုပ်ပျောက်ပျက်ဆုံး၍ သွားမှုတည်းဟူသော = အနိစ္စလက္ခဏာကို မမြင်ရခြင်း ဖြစ်သည်။ ထိုအကြောင်းကို အစွဲပြု၍ **'အနိစ္စလက္ခဏာကို သန္တတိ ဖုံးအုပ်ထားသည်'**ဟု ပညာရှိတို့ မိန့်ဆိုတော်မူကြသည်။

''ဧသော ကာယဿ ဣဉ္ဇနာ = သွားတာ၊ ရပ်တာ၊ ထိုင်တာ၊ လျောင်းစက်တာ၊ ကွေးတာ၊ ဆန့်တာ စတဲ့ ဒီအမူအရာ အားလုံးဟာ ကိုယ်ခန္ဓာရဲ့ လုပ်ရှားမှုသက်သက်သာ ဖြစ်တယ်''ဟု ဟောတော်မူလိုက်ခြင်းဖြင့် -

''ဣရိယာပုတ် အမူအရာ တစ်ခုတစ်ခု၌ သဘောတူသော နာမ်ရုပ်တစ်စုတစ်စုတို့ အဆက်မပြတ် ဖြစ်ပေါ်နေကြသည်။ ဣရိယာပုတ်တစ်ပါး အမူအရာတစ်ပါး ပြောင်းလဲသွားသောအခါ ထိုရုပ်နာမ်တရားတို့သည် အစုလိုက် အစုလိုက်ပင် ပြောင်းလဲ၍ သွားကြသည် = ချုပ်ပျောက်သွားကြသည်''

ဟူသော အနက်အဓိပ္ပာယ်ကို သိစေတော်မူ၏။ ထို့ကြောင့် ထိုနောက်ဆုံး စတုတ္ထပိုဒ်ဖြင့် သန္တတိဖြင့် ဖုံးလွှမ်းထားသည့် အနိစ္စလက္ခဏာကို မြတ်စွာဘုရား ထင်ရှားပြတော်မူသည်ဟု အဓိပ္ပာယ်ကို သိရလေသည်။

ရှေး၌ ဆိုအပ်ပြီးသည့်အတိုင်း ပရမတ္ထ သဘာဝ စင်စစ်အားဖြင့် သွားလို၊ ရပ်လို၊ ထိုင်လို၊ လျောင်းလိုသောစိတ်ကြောင့် စိတ္တဇဝါယောဓာတ်ဖြစ်သည်။ ထိုဝါယောဓာတ် တစ်ကိုယ်လုံး ပျံ့နှံ့သောကြောင့် သွားသော အမူအရာ၊ ရပ်သောအမူအရာ၊ ထိုင်သော

အမူအရာ၊ လျောင်းသော အမူအရာဖြင့် ရုပ်အထူးတို့ ဖြစ်ကြသည်။ ထိုသို့ ဖြစ်ကြသည်ကိုပင် လောကပညတ်အားဖြင့် သွားသည်၊ ရပ်သည်၊ ထိုင်သည်၊ လျောင်းသည်၊ ရှေ့သို့တက်သည်၊ နောက်သို့ဆုတ်သည်၊ ကွေးသည်၊ ဆန့်သည် ဟူ၍ ခေါ်ဆိုအပ်လေသည်။ ပရမတ္ထအားဖြင့်ကား ထိုထိုအကြောင်း စုပေါင်းညီညွတ်သဖြင့် ရုပ်အထူးတို့ ဖြစ်ကြခြင်းသာ ဖြစ်သည်။ ရုပ်နာမ်နှစ်ဖြာ ကိုယ်ခန္ဓာ၏ ဆိုင်ရာအကြောင်း စုပေါင်းညီညွတ်သဖြင့် ထိုထိုသွားခြင်း၊ ရပ်ခြင်းစသော အမူအရာအားဖြင့် ရုပ်အထူးတို့ ဖြစ်ကြခြင်းသာ ဖြစ်သည်ဟု ဆိုလိုသည်။

ဤအချက်ကို လေးနက်စွာ မသိသောကြောင့်သာ အတ္တဝါဒသမားတို့က "အတ္တလိပ်ပြာသည်ပင် သွား၏၊ ရပ်၏၊ ထိုင်၏၊ လျောင်း၏"ဟု ပြောဆိုကြလေသည်၊ ထိုသူတို့ အလိုအားဖြင့် "အတ္တလိပ်ပြာ၏ သွားမှု၊ ရပ်မှု၊ ထိုင်မှု၊ လျောင်းမှု"ဟု ဆိုကြသည်။

ထိုကို မြတ်စွာဘုရားရှင်က "အတ္တလိပ်ပြာ၏ သွားမှု၊ ရပ်မှု၊ ထိုင်မှု၊ လျောင်းမှု မဟုတ်။ "သော ကာယဿ ဣဉ္ဇနာ = ဤအပြုအမူ အလုံးစုံသည် ကိုယ်ခန္ဓာ၏ လှုပ်ရှားမှု ထိုထိုအကြောင်း စုပေါင်းညီညွတ်သဖြင့် ထိုထိုအမူအရာအားဖြင့် ရုပ်အထူးတို့၏ ထင်ရှားဖြစ်ပွားခြင်းမျှသာ ဖြစ်သည်"ဟု ဟောတော်မူသည်။ (အနတ္တလက္ခဏာဉာဏ် အမြင်သန်ဖို့အတွက် မဖြစ်မနေ သိထားရမယ့် ဃနလေးပါး အကျယ် ရှင်းလင်းချက်ကို မဟာဗုဒ္ဓဝင် စတုတ္ထတွဲ၊ စာမျက်နှာ ၃၂၃ မှာ ရှုကြပါ။)

**"ငရုတ်စေ့၌၊ စိတ်တွေ့သတ်သတ်၊ အစပ်ကိုတည့်၊ ရှုမျှော်ကြည့်သို့၊ သတ္တိကိုမျှ၊ ရှုကြည့်ရ၊ ပရမတ္ထမှာ"** ဟူသောအတိုင်း ထိုထိုရုပ်နာမ်တရားတို့၏ သဘာဝသတ္တိကို ဉာဏ်မျက်စိဖြင့် ရှုကြည့်နိုင်မှ ပရမတ္ထသို့ အမြင်ဆိုက်ရောက်သည်၊ ပရမတ္ထသို့ အသိဉာဏ်

အမြင် ဆိုက်ရောက်မှ ဃန(အတုံးအခဲ) ပြိုသည်၊ ဃနပြိုမှ အနတ္တအသိဉာဏ်ကို ရနိုင်သည်။ သဘာဝသတ္တိကို ဉာဏ်မျက်စိဖြင့် မရှုကြည့်က ပရမတ္ထသို့ အမြင်မဆိုက်၊ ပရမတ္ထသို့ အသိဉာဏ်အမြင်မဆိုက်လျှင် ဃနမပြို၊ ဃနမပြိုလျှင် အနတ္တအသိဉာဏ်ကို မရနိုင်။ ထို့ကြောင့် **"အနတ္တလက္ခဏာကို ဃန ဖုံးသည်"**ဟု ပညာရှိတို့ မိန့်ဆိုတော်မူကြသည်။

(ဤပထမဂါထာ၌ မြတ်စွာဘုရားရှင်သည် စတုတ္ထပါဒ "ဧသော ကာယဿ ဣဒ္ဓနာ = ဤအပြုအမူ အလုံးစုံသည် ပုဂ္ဂိုလ်သတ္တဝါ အတ္တလိပ်ပြာ၏ အပြုအမူ မဟုတ်၊ စင်စစ်သော်ကား ထိုထိုရုပ်နာမ်တရား အစု၏ ဆိုင်ရာ ဆိုင်ရာ မိမိတို့၏ အလုပ်ကိစ္စကိုပြုလုပ်ပြီးပြေစေသောအားဖြင့် ဖြစ်ပွားမှု = လှုပ်ရှားမှုသာတည်း"ဟု ဟောတော်မူလိုက်သဖြင့် ဃနဖြင့် ဖုံးလွှမ်းသော အနတ္တလက္ခဏာသဘောကို ပြတော်မူ၏။ ဤအရာစုကား နက်နဲဘိတောင်း၊ သာမန်ဉာဏ်မျက်စိဖြင့် မသိနိုင်ချေ။)

မြတ်စွာဘုရားဟာ ပထမဂါထာနဲ့ လက္ခဏာရေး သုံးပါးကို ပြတော်မူသောအားဖြင့် နိစ္စသဘော၊ သုခသဘော၊ အတ္တသဘောမှ ဆိတ်သုဉ်းတဲ့ သုညတကမ္မဋ္ဌာန်းကို ဟောတော်မူပြီးနောက် တစ်ခါ သဝိညာဏကအသုဘ(သက်ရှိအသုဘ)နဲ့ အဝိညာဏကအသုဘ (သက်မဲ့ အသုဘ)နှစ်ပါးကို ပြဖို့ရာအတွက် နောက်ဂါထာတွေကို ဆက်လက် ဟောကြားတော်မူခဲ့ပါတယ်။

(၂) သက်ရှိဖြစ်တဲ့ ဒီခန္ဓာကိုယ်ဟာ အရိုး သုံးရာ၊ အကြောကိုးရာ၊ အရသာကိုဆောင်တဲ့ အရသာကြော ခုနစ်ထောင်နဲ့ ဖွဲ့ယှက်ရစ်ပတ်ထားတယ်၊ အရေထူ၊ သားတစ်ကိုးရာတို့နဲ့ လိမ်းကျံထားတာမို့ တကယ့်ကိုပဲ ရွံ့ပုပ်လှောင်း စက်ဆုပ်ဖွယ် ရွံရှာဖွယ်ကောင်းလှတယ်။ သက်ရှိဖြစ်တဲ့ ဒီခန္ဓာကိုယ်ကို အရေပါးနဲ့ အိမ်နံရံ ဆေးသုတ်ထားသလို ဖုံးအုပ်ထားတာမို့ ပင်ကိုသဘောမှန်ဖြစ်တဲ့ အသုဘအခြင်းအရာကို

ပညာမျက်စိ ဉာဏ်အမြင် ကန်းနေသူတွေ အမှန်အတိုင်း မထင်နိုင်၊ မမြင်နိုင်ကြ။

(ဤကိုယ်၏ သဘောကား--- အိမ်၌ ထုပ်၊ လျှောက်၊ ဒိုင်း၊ မြား အမာခံများကို မရွေ့လျားအောင် ကြိမ်နွယ်ဖြင့် တုပ်နှောင် ဖွဲ့ချည်အပ်သကဲ့သို့ အမာခံဖြစ်သော အရိုးပေါင်း ၃၆၀ တို့ကို မရွေ့ မလျား တည်ရှိအောင် ကြိမ်နွယ်နှင့်တူသော အကြောပေါင်း ကိုးရာ တို့ဖြင့် ဖွဲ့ယှက်တုပ်နှောင်၍ ထားအပ်လေသည်။ ထို၏ အပေါ်မှ နံရံကို နွားချေး၊ မြေညက်စိုင်တို့ဖြင့် မွမ်းမံလိမ်းကျံအပ်သကဲ့သို့ အသားတစ် အသားစိုင်ပေါင်း ကိုးရာတို့ဖြင့် လိမ်းကျံ မွမ်းမံ အပ်လေသည်။ ထို၏ အထက်မှ တစ်ဖန် အင်္ကျီတေ အချောကိုင်သကဲ့သို့ အရေထူဖြင့် ရစ်ပတ် ဖွဲ့ယှက်၍ ထားအပ်လေသည်။ ဖော်ပြပါ အရိုး၊ အကြော၊ အသားတစ်၊ အရေထူများကား ပင်ကိုသဘာဝ အားဖြင့် ရနံ့ပုပ်လှောင်း စက်ဆုပ်ဖွယ် ရွံရှာဖွယ် ကောင်းလှ၏။ သို့သော် အိမ်နံရံကို ကြည့်ရှု၍ တင့်တယ်အောင် အညို၊ အဝါ၊ အစိမ်း၊ အနီ စသော ဆေးအမျိုးမျိုးတို့ဖြင့် အသွေးအမျိုးမျိုးဖြစ်ရန် ခြယ်လှယ် ဖုံးအုပ်ထားသကဲ့သို့ ထို အရိုး၊ အကြော၊ အသားတစ်၊ အရေထူတို့ကို ဆိုးဆေးနှင့်တူသည့် အညို၊ အရွှေ၊ အနီ၊ အဖြူ အဆင်းအမျိုးမျိုး ရှိသော ယင်ကောင်၏ တောင်ပံအလား (တစ်ကိုယ်လုံးကို ခွာ၍ လုံးလိုက်လျှင် ဆီးစေ့ခန့်မျှသာ ပမာဏရှိသည့်) သိမ်မွေ့လှစွာသော အပေါ်ယံ အရေပါးက ဖုံးအုပ်၍ ထားအပ်သောကြောင့် ပညာမျက်စိ မရှိသူတို့သည် ဟုတ်တိုင်း မှန်စွာ အသုဘအခြင်းအရာကို မမြင်ကြရ ချေဟု ဆိုလိုသည်။)

အခုလို အရေပါး၊ အရေထူတွေနဲ့ ဖုံးအုပ်ထားတဲ့အတွက် ကြောင့် လူတွေအတွက် မထင်ရှားတဲ့ မစင်မကြယ်၊ စက်ဆုပ်၊ ရွံရှာဖွယ်ကောင်းလှတဲ့ အသုဘအစိတ်အပိုင်းတွေကို ပညာမျက်စိနဲ့ အခုလို ထွင်းဖောက်ပြီး မြင်အောင်ကြည့်ရမယ်လို့ ပြတော်မူလိုတဲ့

အတွက် ဖော်ပြပါ အဓိပ္ပာယ်ရတဲ့ ဂါထာတွေကို မြတ်စွာဘုရားက ဆက်လက်ဟောခဲ့ပါတယ်။

(၃) သက်ရှိဖြစ်တဲ့ ဒီခန္ဓာကိုယ်မှာ မွှေးကြိုင်နေတဲ့ အဖိုးတန် စန္ဒကူးနံ့သာတွေနဲ့ ပြည့်နေတာ မဟုတ်ဘူး၊ ဒီခန္ဓာကိုယ်ဟာ အူမ၊ အစာသစ်၊ အသည်း၊ ကျင်ငယ်၊ နှလုံးသား၊ အဆုတ်၊ အညှို့ (ကျောက်ကပ်)၊ အဖျဉ်း (သရက်ရွက်)တွေနဲ့ ပြည့်နေတယ်။

(၄) ဒါ့အပြင် နှပ်၊ တံတွေး၊ ချွေး၊ အဆီခဲ၊ သွေး၊ အစေးပုပ်၊ သည်းခြေ၊ ခြင်ဆီတွေနဲ့လည်း ပြည့်နေတယ်။

(၅) ဒါတင်မက ဒီခန္ဓာကိုယ်ရဲ့ ကိုးပေါက်ဒွါရ အမာဝတွေကနေ မစင်မကြယ် ရွံစဖွယ်တွေပဲ နေ့ရောညပါ ယိုစီးကျနေတာပါ။ ဘယ်လို ယိုစီးကျနေသလဲဆိုရင် မျက်စိနှစ်ဖက်ကနေ မျက်ဝတ်၊ မျက်ချေးတွေ၊ နားနှစ်ဖက်ကနေ နားဖာချေးတွေ တားမရ ဆီးမရ ယိုထွက်နေတယ်။

(၆) နှာခေါင်းနှစ်ဖက်ကနေလည်း နှာရည်တွေ၊ နှပ်ချေးတွေ ယိုစီး ကျနေတယ်။ တစ်ခါတလေ ပါးစပ်ကနေ အန်ဖတ်တွေ ပျို့အန်ထွက် သလို တစ်ခါတလေ သည်းခြေတွေ၊ သလိပ်တွေလည်း ထွက်နေတယ်။ တစ်ကိုယ်လုံးကနေ ချွေးတွေ၊ ချေးအညစ်အကြေးတွေလည်း မပြတ် ထွက်နေတယ်။

(၇) နောက်ပြီး ဦးခေါင်းထဲမှာလည်း ဦးနှောက်တွေနဲ့ ပြည့်နေ တယ်။ ပညာမျက်စိ အမြင်ကန်းနေတဲ့ လူ့ဗာလတွေကတော့ ဒီလို မစင်မကြယ် ရွံစဖွယ်တွေအတိ ပြည့်နေတဲ့ ခန္ဓာကိုယ်ကြီးကို အဝိဇ္ဇာ တရားက အမှန်မမြင်အောင် ဖုံးကာထားတဲ့အတွက်ကြောင့် ‘ငါ့ကိုယ် က လှလိုက်တာ၊ ငါ လှလိုက်တာ၊ ငါရဲ့အလှက အမြဲတမ်းကိုပဲ လှနေတာပဲ’လို့ တဏှာ၊ မာန၊ ဒိဋ္ဌိတွေနဲ့ မှားမှားယွင်းယွင်း မှတ်ထင်အောက်မေ့နေကြတယ်။

အခုလို မြတ်စွာဘုရားဟာ သဝိညာဏက= သက်ရှိ ခန္ဓာ ကိုယ်ရဲ့ အသုဘသဘောကို ပြတော်မူပြီးနောက် အဝိညာဏက=

သက်မဲ့ခန္ဓာကိုယ်ရဲ့ အသုဘသဘောကို ပြတော်မူလိုတဲ့အတွက် ဖော်ပြပါ နှစ်ဂါထာကို ဆက်လက်ပြီး မိန့်တော်မူခဲ့ပါတယ်။

(၈) တစ်ချိန်မှာတော့ ဒီခန္ဓာကိုယ်ဟာ အသက်ရယ်၊ ကိုယ်ငွေ့ရယ်၊ စိတ်ဝိညာဏ်ရယ် သုံးပါး ကင်းပြတ်သွားတဲ့အတွက် သေဆုံးပြီး ဖူးဖူးရောင်လာတယ်၊ အညိုကွက်၊ အမည်းကွက်၊ ပြည်ကွက်၊ သွေးကွက်တွေ ထင်လာတယ်၊ သင်္ချိုင်းမှာ အခေါင်းထဲ ထည့်ပြီး စွန့်ပစ်ထားတယ်။ ဒီအခါ မသေခင်က ချစ်လှပါတယ်၊ ခင်လှပါတယ် ဆိုတဲ့ ဆွေမျိုးအရင်းတွေ၊ မိတ်ဆွေတွေဟာ 'ဒီလူကတော့ ပြန်မရှင်တော့ပါဘူး' ဆိုပြီး မငဲ့မကွက် ထားပစ်ခဲ့ကြတယ်။

(၉) ဒီလို သုသာန်တစ သင်္ချိုင်းဝမှာ စွန့်ပစ်ခံရတဲ့ မသာ အလောင်းကောင်ကို အိမ်ခွေးတွေ၊ တောခွေးတွေ၊ သစ်ကျုတ်တွေ၊ ပိုးလောက်တွေက ခဲစားကြတယ်။ ကျီးတွေ၊ လင်းတတွေ၊ အခြား သိမ်းစွန် စတဲ့ သတ္တဝါတွေကလည်း ခဲစားကြတယ်။

ဆက်လက်ပြီး မြတ်စွာဘုရားရှင်ဟာ ဒီလို စက်ဆုပ်ရွံရှာဖွယ် ကိုယ်ကောင်အပေါ် ပညာရှိတွေရဲ့ နှလုံးသွင်းပုံနဲ့ ဝဋ်မှ ကျွတ်လွတ်ပုံကို ပြတော်မူလိုတဲ့အတွက် ဖော်ပြပါ ဂါထာတွေကို ဆက်လက် ဟောတော်မူခဲ့ပါတယ်။

(၁၀) ဗုဒ္ဓသာသနာတော်မှာ မြတ်စွာဘုရားဟောတဲ့ ဒီ ဝိဇယသုတ္တန် တရားဒေသနာကို နာရတဲ့အတွက်ကြောင့် ဝိပဿနာဉာဏ်ပညာနဲ့ ပြည့်စုံတဲ့ယောဂီဟာ ဒီခန္ဓာကိုယ်အပေါ်မှာ အမှန်အတိုင်း သိမြင်တယ်။ ဒီလို အမှန်အတိုင်း သိမြင်တဲ့အတွက်ကြောင့် ဒီခန္ဓာကိုယ်ကို ဉာတပရိညာ၊ တီရဏပရိညာ၊ ပဟာနပရိညာဆိုတဲ့ ပရိညာသုံးပါးနဲ့ ပိုင်းခြားဝေဖန်ပြီး သိနိုင်တယ်။

("ဒီခန္ဓာကိုယ်မှာ တကယ်ရှိနေတာတွေက အရိုး၊ အကြောတွေ၊ ဆံပင်၊ မွေးညင်း စတာတွေပါလား"လို့ သိတာက ဉာတပရိညာနဲ့သိတာ၊ "ဒီခန္ဓာကိုယ်မှာ ရှိတဲ့ ရုပ်တရား၊ နာမ်တရားတွေ

ဟာ အနိစ္စ၊ ဒုက္ခ၊ အနတ္တတရားတွေပါလား''လို့ သိတာက တီရဏ ပရိညာနဲ့ သိတာ၊ ''ဒီခန္ဓာကိုယ်မှာ တွယ်တာစရာ၊ တပ်မက်စရာ ဘာမျှမရှိပါလား''လို့ ဆန္ဒ ရာဂကို ပယ်စွန့်တဲ့အနေနဲ့ မဂ်ဉာဏ်နဲ့ ပယ်နိုင်တာက ပဟာနပရိညာနဲ့ သိတာ ဖြစ်ပါတယ်။)

(၁၁) ယခုသက်ရှိ သဝိညာဏက ငါ့ရဲ့ကိုယ်ကောင်လိုပဲ ဒီသက်မဲ့ အဝိညာဏက အသုဘကောင်ဟာ အရင်က သွားနိုင်လာနိုင်၊ စားနိုင် သောက်နိုင် ဖြစ်ခဲ့တယ်။

ဒီဝိညာဏ်ကင်းမဲ့နေတဲ့ အဝိညာဏက သူသေကောင်လို ငါ့ရဲ့သက်ရှိ ဒီသဝိညာဏက ကိုယ်ကောင်ဟာလည်း နောင်တစ်ချိန် သူ့လိုပဲ မသွားနိုင်၊ မလာနိုင်၊ မစားနိုင်၊ မသောက်နိုင် ဖြစ်မှာပဲ။

အခုလို ဟုတ်တိုင်းမှန်စွာ ဉာဏ်နဲ့ရှုမြင်ပြီး ကျင့်ကြံနေတဲ့ ယောဂီဟာ မိမိကိုယ်မှာရော၊ သူတစ်ပါးကိုယ်မှာပါ တွယ်တာငြိကပ် တပ်မက်တဲ့ ဆန္ဒရာဂကို မဂ်ဉာဏ်လေးပါးနဲ့ အကြွင်းမဲ့ ပယ်သတ်ရ မယ်။

(၁၂) မိမိကိုယ်မှာရော သူတစ်ပါးကိုယ်တွေမှာပါ တဏှာ၊ ဆန္ဒ တွေ ပယ်သတ်ပြီးတဲ့ ပညာရှိပုဂ္ဂိုလ်ဟာ သေခြင်းကင်းရာဖြစ်တဲ့ နိဗ္ဗာန်ကို မိမိဉာဏ်နဲ့ပဲ မျက်မှောက်ပြုနိုင်မှာ ဖြစ်တယ်။

မြတ်စွာဘုရားရှင်ဟာ အသုဘဘာဝနာကမ္မဋ္ဌာန်းနဲ့ မဂ်၊ ဖိုလ်၊ နိဗ္ဗာန်ရနိုင်တဲ့အထိ နည်းလမ်းပြ ဟောတော်မူပြီးနောက် ဒီလိုအကျိုးကြီးမားစွာရနိုင်တဲ့ ကမ္မဋ္ဌာန်းရဲ့ အန္တရာယ်ကို ဖြစ်စေနိုင်တဲ့ မေ့မေ့လျော့လျော့နေတာကို ကဲ့ရဲ့ရှုတ်ချတော်မူလိုတဲ့အတွက် ဒီနောက် ဆုံး နှစ်ဂါထာကို ဖော်ပြပါအတိုင်း ဟောတော်မူခဲ့ပါတယ်။

(၁၃) ခြေထောက် နှစ်ချောင်းရှိတဲ့ ဒီလူ့ကိုယ်ဟာ မစင်မကြယ် ရွံဖွယ်ရာတွေ အတိပြည့်နေပြီး မကောင်းတဲ့အနံ့ရှိတဲ့အတွက် ရေချိုး တာ၊ အမွှေးနံ့သာ လိမ်းခြယ်ပေးတာတွေနဲ့ နေ့စဉ်နေ့တိုင်း ပြုပြင် ပေးနေရတယ်။ ဒီလို နေ့တိုင်း ပြုပြင်ပေးနေပေမယ့် အပုပ်အမျိုးမျိုးနဲ့

ပြည့်မြဲပြည့်နေတယ်၊ ကိုးပေါက်ဒွါရ အမာဝတွေကလည်း အပုပ်ရည်တွေ၊ ရွံစရာတွေပဲ အမြဲမပြတ် ယိုစီးနေတယ်။

ဒီလိုသဘောရှိတဲ့ ခန္ဓာကိုယ်ကို အကြောင်းပြုပြီး ပညာမဲ့တဲ့ လူ့ဗာလတွေဟာ ငါပဲ၊ ငါ့ဟာပဲ၊ ငါရဲ့အတ္တပဲလို့ တဏှာ၊ မာန၊ ဒိဋ္ဌိတွေနဲ့ မာန်တွေတက်နေကြတယ်။ သူတစ်ပါးတွေကိုလည်း မတူသလို မတန်သလို နှိမ့်ချကြတယ်၊ မထီမဲ့မြင်ပြုကြတယ်။

သစ္စာအမှန်တရားတွေကို မသိတဲ့အတွက်ကြောင့်သာ အခုလို ကိုယ့်ကိုယ်ကို မြှောက်ပင့်မာန်တက်ပြီး သူတစ်ပါးကို နှိမ့်ချနေကြတာ ဖြစ်တယ်။

ဒီဝိဇယသုတ္တန်ကို ဟောတော်မူပြီးတဲ့ အဆုံးမှာတော့ ဇနပဒကလျာဏီလို့ ကျော်ကြားခဲ့တဲ့ နန္ဒာထေရီမဟာ 'အိုး… ငါမိုက်လိုက်တာ၊ ငါ့ကို အာရုံပြုပြီး ကရုဏာကြီးစွာနဲ့ အခုလို ထူးခြားတဲ့ တရားဒေသနာအမျိုးမျိုးကို ဟောတော်မူတဲ့ ငါ့မောင်တော်ကြီး မြတ်စွာဘုရားကို ငါ ဆည်းကပ်ရမှန်း မသိခဲ့ပါလား'လို့ သံဝေဂတွေ အကြီးအကျယ် ရခဲ့တယ်။

ဒီလို သံဝေဂဉာဏ်တွေ မပြတ်ရပြီးတဲ့အခါ ဒီ ဝိဇယသုတ္တန်တရားဒေသနာကိုပဲ ထပ်တလဲလဲ နှလုံးသွင်းပြီး နိစ္စသဘော၊ သုခသဘော၊ အတ္တသဘော၊ သုဘသဘောမှ ကင်းဆိတ်တဲ့ သုညတသဘောကို မပြတ် ဆင်ခြင်ရှုမှတ်ခဲ့တယ်။ ဒါကြောင့် နန္ဒာထေရီမဟာ နှစ်ရက်၊ သုံးရက် အတွင်းမှာပဲ အရဟတ္တဖိုလ်ဆိုက်ရောက်ပြီး ကိလေသာအာသဝေါတွေ ကုန်ခန်းတဲ့ ရဟန္တာထေရီမ ဖြစ်ခဲ့ပါတယ်။

## (ဃ) ဈာယီတေဒဂ်နဲ့ ချီးမြှောက်ခံရ

နန္ဒာထေရီမဟာ အရဟတ္တဖိုလ်ရပြီးတဲ့အချိန်ကစပြီး ရောက်တဲ့ နေရာတိုင်းမှာ ဈာန်ဝင်စားပြီး အေးဆေးစွာ နေလေ့ရှိပါတယ်။ ဒါကြောင့် မြတ်စွာဘုရားရှင်က သာဝတ္ထိပြည် ဇေတဝန်ကျောင်းတိုက်

မှာ သီတင်းသုံးတော်မူရင်း ဘိက္ခုနီရဟန်းမတွေကို ဧတဒဂ်ဘွဲ့ထူးနဲ့ ချီးမြှင့်တဲ့ အခမ်းအနားမှာ နန္ဒာထေရီမကို "စျာန်ဝင်စားပြီး နေကြတဲ့ ဘိက္ခုနီရဟန်းမတွေထဲမှာ နန္ဒာဟာ အသာဆုံး ဖြစ်တယ်" လို့ မိန့်တော်မူပြီး စျာယီဧတဒဂ်ဘွဲ့ထူးနဲ့ ချီးမြှောက်တော်မူခဲ့ပါတယ်။

တရားအားထုတ်တဲ့ ယောဂီတွေမှာ တရားအားထုတ်ရင်း တစ်ခါတလေ ဝိသဘာဂအာရုံတွေ ထင်လာပြီး ရာဂတွေ ဖြစ်လာတတ်ပါတယ်။ ဒီအခါ ဖြစ်ပေါ်လာတဲ့ ရာဂကို ပယ်နိုင်ဖို့ ပင်တိုင်ကမ္မဋ္ဌာန်းကို ခဏရပ်ပြီး အသုဘကမ္မဋ္ဌာန်းကို နှလုံးသွင်းရပါမယ်။ ဒီအကြောင်းကို ဥဒါန်းပါဠိတော်နဲ့ အင်္ဂုတ္တိုရ်ပါဠိတော်တွေမှာ လာတဲ့ မေဃိယသုတ္တန်မှာ "အသုဘာ ဘာဝေတဗ္ဗာ ရာဂဿ ပဟာနာယ" လို့ မြတ်စွာဘုရား လမ်းညွှန်တော်မူခဲ့ပါတယ်။

အဲဒီလို အသုဘကမ္မဋ္ဌာန်း နှလုံးသွင်းသင့်ပုံကို လွယ်လင့်တကူ နားလည်လွယ်အောင် အဋ္ဌကထာ ဆရာတွေက သလေးစပါး ရိတ်တဲ့ ဥပမာနဲ့ ခုလို ရှင်းပြခဲ့ပါတယ်။

'လယ်သမားတစ်ယောက်ဟာ တံစဉ်ကိုင်ပြီး သလေးစပါး ခင်းထဲမှာ သလေးစပါး ရိတ်နေပါတယ်။ ဒီအချိန်မှာ နွားတွေဟာ လယ်ခြံစည်းရိုးကို ဖေါက်ဖျက်ပြီး လယ်ထဲ ဝင်လာခဲ့တယ်။ ဒီအခါ လယ်သမားဟာ တံစဉ်ကို ခဏချပြီး တုတ်ကိုင်ကာ နွားတွေကို ဝင်လာတဲ့ လမ်းအတိုင်း ပြန်မောင်းထုတ်ရတယ်။ ပြီးတဲ့အခါ လယ်ခြံစည်းရိုးကို ပြန်ပြင်ပြီး တံစဉ်ပြန်ကိုင်၊ ရိတ်လက်စ သလေးစပါးကို ဆက်ရိတ်ရတယ်။

ဒီအတိုင်းပဲ လယ်သမားနဲ့တူတဲ့ ယောဂီဟာ ဉာဏ်ပညာဆိုတဲ့ တံစဉ်ကို ဆွဲကိုင်ပြီး သလေးစပါးခင်းနဲ့တူတဲ့ မြတ်စွာဘုရားသာသနာတော်ဆိုတဲ့ လယ်ကွင်းထဲမှာ ဝိပဿနာ ကမ္မဋ္ဌာန်းတရား ပွားများမှုဆိုတဲ့ ရိတ်သိမ်းမှုကို လုပ်နေပါတယ်။ အဲဒီအချိန်မှာ ခြံစည်းရိုးကို ဖောက်ဖျက်ပြီး နွားတွေ ဝင်လာသလို ဆင်ခြင်ဉာဏ်ကင်းမဲ့ပြီး သတိ

လွတ်သွားတဲ့အတွက် ရာဂတွေ ဖြစ်လာပါတယ်။ လယ်သမားဟာ တံစဉ်ကို ခဏချပြီး တုတ်ကိုင်ကာ နွားတွေကို လာလမ်းအတိုင်း ထွက်သွားဖို့ မောင်းထုတ်ရသလို ယောဂီပုဂ္ဂိုလ်လည်း ပွားလက်စ ဉာဏ်တံစဉ်ကို ခဏချ၊ အသုဘ ကမ္မဋ္ဌာန်းဆိုတဲ့ တုတ်ကို ကိုင်ပြီး ရာဂနွားတွေကို ပြန်မောင်းထုတ်ရပါတယ်။ ပြီးတဲ့အခါ လယ်သမားဟာ ခြံစည်းရိုးကို လုံခြုံအောင် လုပ်ပြီး တံစဉ်ပြန်ကိုင်ကာ လယ်ကို ဆက်ရိတ်သလို ယောဂီပုဂ္ဂိုလ်လည်း သတိခြံစည်းရိုးကို လုံအောင် ကာပြီး ဉာဏ်တံစဉ် ပြန်ကိုင်ကာ ဝိပဿနာတရား ဆက်လက်ပွားများခြင်းဆိုတဲ့ ရိတ်သိမ်းမှုကို ဆက်လက်လုပ်ဆောင်ရပါတယ်[၅]

အခုဖော်ပြခဲ့တဲ့ ပါဠိတော်တွေနဲ့ အဋ္ဌကထာရှင်းပြချက်တွေ အရဆိုရင် ယောဂီပုဂ္ဂိုလ်တွေ ဘာလို့ အသုဘကမ္မဋ္ဌာန်း ပွားများသင့်တယ်ဆိုတာ ပိုပြီးနားလည်သဘောပေါက်ကြမယ် ထင်ပါတယ်။ အခုလို ကမ္မဋ္ဌာန်းတရား အားထုတ်နေတဲ့ ယောဂီတိုင်းအတွက် မဖြစ်မနေ ပွားရမယ့် အသုဘကမ္မဋ္ဌာန်းပွားနည်းကိုလည်း နန္ဒာထေရီမရဲ့ အတ္ထုပ္ပတ်ကနေ ရခဲ့ကြပါပြီ။

ဒါကြောင့် ယောဂီပုဂ္ဂိုလ်တိုင်း ရံဖန်ရံခါ သတိစည်းဖောက်ပြီး ဝင်လာတတ်တဲ့ ရာဂနွားရိုင်းတွေကို အသုဘကမ္မဋ္ဌာန်းဆိုတဲ့ တုတ်ကို ကိုင်ပြီး မောင်းထုတ်နိုင်ကြမယ် ဆိုရင်တော့ နန္ဒာထေရီမလို သာသနာ့ပန်းတိုင်ဖြစ်တဲ့ နိဗ္ဗာန်ကို အမြန်ဆုံး ရနိုင်ကြမှာ ဖြစ်ပါတယ်။

**ကျမ်းကိုး–**

၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ပထမတွဲ၊ ၂၈၀။
၂။ မဟာဗုဒ္ဓဝင်၊ ဆဋ္ဌတွဲ၊ ဒုတိယပိုင်း၊ ၉၅။
၃။ မဟာဗုဒ္ဓဝင်၊ စတုတ္ထတွဲ၊ ၃၁၈။
၄။ အပဒါန်ပါဠိတော်၊ ၂။ ၂၅၃။
၅။ အပဒါန်ပါဠိတော် မြန်မာပြန်၊ ၂။ ၂၄၄။

၆။ သုတ္တနိပါတပါဠိတော်၊ ၃၀၈။
၇။ သုတ္တနိပါတ အဋ္ဌကထာ၊ ၁။ ၂၃၃။
၈။ ဓမ္မပဒအဋ္ဌကထာ၊ ၂။ ၇၂။



ဝီရိယထက်သန်တဲ့အရာ အသာဆုံး

အာရဒ္ဓဝီရိယ ဧတဒဂ်ရ

# (ဗဟုပုတ္တိကာ) သောဏာ ထေရီ

“မယွင်းမှန်လှ၊ ဤလောကဌ်၊ မိဘကိုပင်၊ ဥစ္စာမြင်မှ၊ ခင်မင်မြတ်လေး၊ သားတို့ မွေး၏။ ပဲရွေးမရှိ၊ မိဘတို့အား၊ သမီး သားလည်း၊ ထံပါးနီးရပ်၊ မကပ်တုံလျှင်း၊ ရှောင်ကြကွင်း၏”



ဒီလင်္ကာက မန်လည်ဆရာတော်ကြီး ရေးသားခဲ့တဲ့ မဃဒေဝ လင်္ကာ တတိယပိုင်း ပုတ္တောဝါဒအခန်း အပိုဒ်ရေ (၂၆၇)မှာလာတဲ့ လင်္ကာပါ။ ဒီလင်္ကာကို စတင်ဖတ်ရစဉ်ကတည်းက ခုကြည်ညိုမြယ့် ဗဟုပုတ္တိက သောဏာထေရီမကို မြင်ယောင်မိခဲ့ပါတယ်။ ထေရီမကြီး

ခမျာ သားသမီးတွေကို အမွေ အကုန်ခွဲပေးမိလို့ လက်ရှိကနေ လက်မဲ့ဖြစ်သွားတဲ့အတွက် သားသမီးတွေရဲ့ ပြုစုမှု၊ မထီမဲ့မြင်ပြုမှုတွေ ခံခဲ့ရရှာပါတယ်။

လက်ရှိ မျက်မှောက်ခေတ်မှာလည်း သားသမီးတွေကို ယုံပြီး နေအိမ်ပါမကျန် အမွေခွဲဝေပေးမိလို့ နေစရာမရှိ၊ ထိုင်စရာမရှိ မျက်နှာငယ်ငယ်နဲ့ စိတ်ဆင်းရဲ ကိုယ်ဆင်းရဲဖြစ်ပြီး သောဏာထေရီမကြီးလို ဒုက္ခရောက်ကြတဲ့ မိဘတွေ မနည်းလှပါဘူး။ မိမိတို့ဝန်းကျင်မှာကိုပဲ အမြဲလိုလို ကြားနေရ၊ မြင်နေရပါတယ်။ အမွေခွဲဝေပေးကြမယ့် မိဘတွေအဖို့ ဒီသောဏာထေရီရဲ့ ဖြစ်ရပ်က မဖြစ်မနေ သတိထားစရာပါ။ လောကလူ့ဘောင်မှာပဲ တစ်သက်လုံး နေသွားကြမယ့်သူတွေအဖို့တော့ ကိုယ့်အတွက် ကျောတစ်ခင်းစာ နားခိုစရာ နေရာနဲ့ သက်မွေးဝမ်းကျောင်း ပြုစရာ အရင်းအနှီးလေးတော့ မဖြစ်မနေ ချန်ထားကြဖို့ပါ။ သေပြီးခါမှပဲ ထိုက်သူတွေ ယူပါစေပေါ့။

ဒါပေမဲ့ သောဏာထေရီမကြီးကတော့ သူကြုံတွေ့ရတဲ့ လောကဓံကို အောင်မြင်မှုအတွက် တွန်းအားအဖြစ် အသုံးချနိုင်ခဲ့ပါတယ်။ အဲဒီလောကဓံကြောင့်ပဲ ဘိက္ခုနီရဟန်းမ ဖြစ်ခဲ့ပြီး လောကရဲ့ အမြင့်ဆုံး ပန်းတိုင် ရဟန္တာဖြစ်တဲ့အထိ အကောင်းဆုံး ရလဒ်ကို ရအောင် ယူနိုင်ခဲ့တယ်။

ဒါဆိုရင် မိမိတို့တစ်တွေလည်း လောကထဲမှာနေတဲ့ လောကသားတွေဖြစ်တာမို့ အဆိုးလောကဓံတွေ တစ်ခုမဟုတ်တစ်ခု၊ တစ်ချိန်မဟုတ် တစ်ချိန်တော့ ကြုံကြမှာ မလွဲပါဘူး။ ဘယ်လိုပဲ ကြုံကြုံ ကြုံလာတဲ့ လောကဓံကြောင့် သောကတွေ ရင်ဝယ်ပိုက်ပြီး ဝမ်းနည်းပန်းနည်း ပူဆွေးနေတာကတော့ အဖြေတစ်ခု မဟုတ်တာ သေချာပါတယ်။ သောဏာထေရီမလို အောင်မြင်မှု ပန်းတိုင် ရောက်ဖို့အတွက်

တွန်းအားတစ်ခုအဖြစ် အသုံးချနိုင်မယ်ဆိုရင်တော့ သောဏာထေရီ ဝတ္ထုကို ကြည်ညိုရကျိုးနပ်မယ် ထင်ပါတယ်။

## (က) ထေရီမရဲ့ အမည်နဲ့ ဧတဒဂ်အဓိပ္ပာယ်

ထေရီမရဲ့ နာမည်ရင်းက 'သောဏာ' ဖြစ်ပါတယ်။ သားသမီး ဆယ်ယောက်ရှိခဲ့တာကြောင့် 'ဗဟုပုတ္တိက သောဏာထေရီ' လို့ အမည်တွင်ခဲ့တယ်။ ထေရီမဟာ အသက်ကြီးမှ ရဟန်းပြုခဲ့တာ ဖြစ်ပါတယ်။ ဒါပေမဲ့ ရဟန်းတရားကို အပြင်းအထန် အားထုတ်ခဲ့တယ်။ ဒါကြောင့် မကြာခင် ရဟန္တာဖြစ်ခဲ့တယ်။ အဲဒီလို တရားအားထုတ်တဲ့အခါ ဝီရိယထက်ထက်သန်သန်နဲ့ အားထုတ်ခဲ့တာကြောင့် 'အာရဒ္ဓဝီရိယဧတဒဂ်' ရခဲ့တာ ဖြစ်ပါတယ်။

## (ခ) အတိတ်ဘဝပါရမီနဲ့ ဆုတောင်း

ဒီဘဒ္ဒကမ္ဘာကနေ နောက်ပြန်ရေတွက်ရင် လွန်ခဲ့တဲ့ ကမ္ဘာတစ်သိန်းကာလမှာ ပဒုမုတ္တရ မြတ်စွာဘုရား ပွင့်တော်မူခဲ့ပါတယ်။ ဗဟုပုတ္တိကသောဏာထေရီမလောင်း အမျိုးကောင်းသမီးဟာ အဲဒီ ပဒုမုတ္တရ မြတ်စွာဘုရား ပွင့်တော်မူတဲ့အချိန် ဟံသာဝတီမင်းနေပြည်က ချမ်းသာကြွယ်ဝတဲ့ သူဌေးမျိုးမှာ သူဌေးသမီး ဖြစ်ခဲ့တယ်။

အရွယ်ရောက်တဲ့အခါ သူဌေးသမီးဟာ မြတ်စွာဘုရားထံ ချဉ်းကပ်ပြီး တရားတော်ကို နာယူခဲ့တယ်။ ဒီတရားပွဲမှာပဲ မြတ်စွာဘုရားက တရားအားထုတ်တဲ့အခါ ဝီရိယထက်ထက်သန်သန်နဲ့ အားထုတ်တဲ့ ဘိက္ခုနီရဟန်းမတစ်ပါးကို ဝီရိယထက်သန်တဲ့အရာ အသာဆုံး 'အာရဒ္ဓဝီရိယဧတဒဂ်'နဲ့ ချီးမြှင့်တော်မူခဲ့တယ်။ ဒီလို ချီးမြှင့်တာကို သူဌေးသမီး ဖူးတွေ့ရတဲ့အခါ ဝမ်းမြောက်ဝမ်းသာ ဖြစ်ခဲ့တယ်။ နောက်ပြီး ဘုရားအမှူးရှိတဲ့ သံဃာတော်တွေကို ပင့်ဖိတ်

ပြီး မဟာဒါန အလှူကြီးကို ပေးလှူတယ်။ အလှူပေးပြီးတဲ့အခါ သူမလည်း ဒီလို 'အာရဒ္ဓဝီရိယဇေတဒဂ်'ရလိုပါကြောင်း ဆုပန် ဆုတောင်းခဲ့ပါတယ်။ ဒီအခါ မြတ်စွာဘုရားကလည်း "သင့်ရဲ့ ဆုတောင်း ပြည့်စေသတည်း"လို့ အနုမောဒနာပြုတော်မူခဲ့တယ်။

သူဌေးသမီးဟာ အဲဒီလို ကောင်းမွန်စွာ ပြုလုပ်ခဲ့တဲ့ ကုသိုလ် ကံစေတနာတွေကြောင့် အဲဒီဘဝကနေ ကွယ်လွန်တဲ့အခါ တာဝတိံသာ နတ်ပြည်မှာ ဖြစ်ခဲ့တယ်။ အဲဒီနောက် သံသရာ ကျင်လည်တဲ့အခါမှာ လည်း နတ်ပြည်၊ လူ့ပြည်တွေမှာပဲ ကျင်လည်ခဲ့ရတယ်။

## (ခ) ပစ္ဆိုမွန်ဝတ္ထု နောက်ဆုံးဘဝဇာတ်ကြောင်း
## သားသမီးတွေကို အမွေအားလုံး ခွဲပေးမိလို့ အားကိုးရာမဲ့ဖြစ်ရ

ဒီနောက်ဆုံးဘဝ ရောက်တဲ့အခါမှာတော့ သာဝတ္ထိပြည်က ပြည့်စုံကြွယ်ဝတဲ့ သူဌေးမျိုးမှာ ဖြစ်ခဲ့တယ်။ အရွယ်ရောက်တဲ့အခါ အိမ်ထောင်ကျပြီး သားသမီး ဆယ်ယောက် ထွန်းကားခဲ့တယ်။ ဒီလို သားသမီး အများကြီးရှိတာကြောင့်ပဲ 'ဗဟုပုတ္တိကာသောဏာ' ရယ်လို့ ထင်ရှားလာခဲ့တယ်။ သားသမီးတွေ အရွယ်ရောက်တဲ့အခါ မှာလည်း အိမ်ထောင်ရက်သား ကျကုန်ကြပြီး အိုးခွဲအိမ်ခွဲကာ နေထိုင် ခဲ့ကြတယ်။ အထိုက်အလျောက်လည်း ပြည့်စုံချမ်းသာကြတယ်။

နောက်ပိုင်းကာလ ရောက်တဲ့အခါ လင်ယောက်ျားက ရဟန်း ဝတ်သွားခဲ့တယ်။ ဒီအခါ သားသမီးတွေက "အမေ… အမေ့မှာ ဒီပစ္စည်းတွေနဲ့ ဘာအကျိုးရှိတော့မလဲ၊ ကျွန်တော်တို့၊ ကျွန်မတို့ကို အမွေ ခွဲပေးပါ၊ ကျွန်တော်တို့၊ ကျွန်မတို့တစ်တွေ အမေ့ကို ပစ်မထား ပါဘူး၊ ကျွေးမွေးပြုစု စောင့်ရှောက်ကြမှာပါ"လို့ ပြောပြီး အမွေ ခွဲပေးဖို့ တောင်းဆိုခဲ့ကြတယ်။ ဗဟုပုတ္တိကသောဏာဟာ သားသမီး တွေက ခုလို အမွေတောင်းကြတဲ့အခါ နှစ်ခါ၊ သုံးခါလောက်အထိ

တော့ ဘာမှမပြောဘဲ တင်းခံနေခဲ့သေးတယ်။ နောက်ပိုင်း ထပ်ကာထပ်ကာ တောင်းလာကြတဲ့အခါမှာတော့ "ငါ့သားသမီးတွေက ငါ့ကိုပြုစုလုပ်ကျွေးကြလိမ့်မယ်၊ ဒီတော့ သူတို့ပြောသလို ဒီပစ္စည်းတွေနဲ့ငါဘာလုပ်တော့မှာလဲ၊ အကုန်ခွဲပေးလိုက်တာပဲ ကောင်းပါတယ်" ဆိုပြီး ရှိသမျှပစ္စည်းတွေကို ဆယ်ပုံ အညီအမျှပုံပြီး သားသမီးဆယ်ယောက်ကို ခွဲပေးလိုက်ပါတယ်။

အဲဒီလို အမွေခွဲပေးပြီးတဲ့အခါ ဗဟုပုတ္တိကာသောဏာဟာ သားအကြီးဆုံးအိမ် လိုက်ပြီး နေခဲ့ပါတယ်။ နှစ်ရက်၊ သုံးရက်လောက်ကြာတဲ့အခါ ချွေးမဖြစ်သူက "ငါတို့ ယောက္ခမဟာ သားအကြီးဆုံးဆိုပြီး အမွေနှစ်ပုံခွဲပေးထားတာ ကျနေတာပဲ၊ ဒီအိမ်မှာချည်းပဲ နေနေတယ်"လို့ ရေရွတ်ပြောဆိုပါတော့တယ်။ ဒီအခါ ဗဟုပုတ္တိကသောဏာဟာ အခြားသားအိမ် ပြောင်းသွားခဲ့တယ်၊ အဲဒီအိမ် ရောက်တဲ့အခါလည်း ချွေးမဖြစ်သူက မကြည်ဖြူလို့ တစ်ခါ နောက်တစ်ယောက်အိမ်ပြောင်း၊ ဒီလိုနဲ့ ဘယ်သားသမီးအိမ်ရောက်ရောက် ရောက်တဲ့အိမ်တိုင်းက အနေနည်းနည်းကြာလာရင် မကြည်ဖြူကြတော့ဘူး။ သားသမီးတိုင်းက သူတို့အိမ်ရောက်လာတဲ့ အမေကို "အမေ"လို့တောင် အသိအမှတ် မပြုကြတော့ပါဘူး။

## သာသနာ့ဘောင် ဝင်ရောက် ရဟန်းပြု

ဒါနဲ့ ဗဟုပုတ္တိကာသောဏာ အဖွားကြီးဟာ သားသမီးတွေက သူမအပေါ် မထီမဲ့မြင်ပြုပြီး မလေးစားကြတော့တာတွေကို သဘောပေါက်သွားတဲ့အတွက် 'ဩော်... သားသမီးတွေအိမ် နေလို့အကျိုးမရှိတော့ပါဘူး၊ ဒီတော့ ဘိက္ခုနီမကျောင်းသွားပြီး ရဟန်းဝတ်တာပဲ ကောင်းပါတယ်'လို့ စဉ်းစားဆုံးဖြတ်ပြီး ဘိက္ခုနီမတွေထံသွားရောက်ကာ ရဟန်းပြုပေးဖို့ ခွင့်တောင်းခဲ့ပါတယ်။ ဒီအခါဘိက္ခုနီမတွေက အဖွားကြီးကို ရဟန်းဝတ်ပေးခဲ့ပါတယ်။ ရဟန်းဖြစ်

တဲ့အချိန်ကစလို့ 'ဗဟုပုတ္တိကသောဏာထေရီ'ရယ်လို့ အမည်ထင်ရှားခဲ့ပါတယ်။

သောဏာထေရီမဟာ အသက်ကြီးမှ ရဟန်းပြုလာသူ ဖြစ်ပေမယ့် တရားကိုတော့ မမေ့မလျော့ အားထုတ်ခဲ့ပါတယ်။ ဒါပေမဲ့ ငယ်ငယ်က ရဟန်းပြုပြီး စာပေစနစ်တကျ သင်ကြားခဲ့သူ မဟုတ်တာမို့ ရဟန်းမတွေ ကျင့်ရမယ့် ဝိနည်းကျင့်ဝတ်တွေကို အပြည့်အစုံ နားမလည်ရှာပါဘူး။ ဒီတော့ ကျင့်ဝတ်တွေ ဖြည့်ကျင့်တဲ့အခါ အလွဲလွဲအချော်ချော်လေးတွေ ခဏခဏ ဖြစ်နေပါတယ်။ ဒီအခါ ဘိက္ခုနီရဟန်းမငယ်လေးတွေရဲ့ ကဲ့ရဲ့ပြစ်တင်မှုတွေ၊ ဒဏ်ပေးတာတွေ မကြာခဏဆိုသလို ခံရရှာပါတယ်။ ဒီလို အပြစ်ဒဏ်ပေးခံရတာတွေကို သားသမီးတွေ ကြားကြတဲ့အခါ သားသမီးတွေကပါ 'သြော်... အဖွားကြီး အသက်ကဖြင့် ကြီးနေပြီ၊ ဒါလောက်လေးတောင် မသိရသလား'ဆိုပြီး တွေ့ရာမြင်ရာ အရပ်တွေမှာ ပြောင်လှောင်ပြောဆိုခဲ့ကြတယ်။

ဒီအခါ သောဏာထေရီမကြီးဟာ 'သြော်... ရဟန်းမငယ်တွေတင်မက ငါ့သားသမီးတွေကပါ ငါ့ကို ပြက်ရယ်ပြု ပြောင်လှောင်ပြောဆိုနေကြပါလား'လို့ သံဝေဂကြီးစွာ ရရှိခဲ့ပြီး 'ငါ တရားထူးရအောင် မဖြစ်မနေ ကြိုးစားမှ ဖြစ်မယ်'လို့ ဆုံးဖြတ်ချက် ချလိုက်တယ်။ ပြီးတာနဲ့ အချိန်မရွေး၊ နေရာမရွေး နေရာတိုင်း အချိန်တိုင်းမှာ (၃၂)ကောဋ္ဌာသကမ္မဋ္ဌာန်းကို မပြတ်စီးဖြန်း သရဇ္ဈာယ်နေခဲ့တယ်။ ထေရီမကြီးက 'ငါဟာ အသက်ကြီးမှ ရဟန်းပြုလာသူဖြစ်တယ်၊ ဒါကြောင့် ငါ မမေ့မလျော့ အပြင်းအထန်အားထုတ်မှ သင့်တော်မယ်' လို့ ကြံစည်စဉ်းစားပြီး ဘိက္ခုနီမတွေရဲ့ ဝတ်ကြီးဝတ်ငယ်ကို ပြုရင်း ညဉ့်သုံးယာမ်လုံး မအိပ်ဘဲ ရဟန်းတရား ကြိုးစားအားထုတ်တယ်။ ကျောင်းအောက်ထပ်မှာ ရှိတဲ့ တိုင်ကြီးတစ်တိုင်ကို လက်နဲ့ကိုင်ပြီး

တိုင်ကို လက်ကမလွှတ်ဘဲ အမှောင်ကြီးထဲမှာ တရားကို အပြင်းအထန် အားထုတ်ပါတယ်။

## 'အာရဒ္ဓဝီရိယ သောဏာ'လို့ အမည်ထင်ရှားခဲ့

ဒီလို အားထုတ်တာ ပင်ပန်းလို့ ကျောင်းအပြင်ထွက်ပြီး စင်္ကြံသွားရင်လည်း မှောင်နဲ့မည်းမည်းထဲမှာ ခေါင်းတွေ ထိခိုက်မှာ၊ ချော်လဲတာတွေ မဖြစ်ရလေအောင် သစ်ပင်ကြီးကြီးတစ်ပင်ရဲ့ ပင်စည်ကို ကိုင်ပြီး သစ်ပင်ကို လက်ကမလွှတ်ဘဲ သစ်ပင်ကို လှည့်ပတ်ပြီး စင်္ကြံကမ္မဋ္ဌာန်း အပြင်းအထန် ရှုမှတ် ပွားများ အားထုတ်ပါတယ်။ ထေရီမကြီးရဲ့ ဒီလို မအိပ်မနေ အပြင်းအထန်အားထုတ်မှုကြောင့်ပဲ အရင်က 'ဗဟုပုတ္တိက သောဏာထေရီ'လို့ အမည်တွင်ခဲ့ရာကနေ ဒီနောက်ပိုင်းမှာတော့ 'အာရဒ္ဓဝီရိယ သောဏာထေရီ'လို့ အမည်ထင်ရှားလာခဲ့ပါတယ်။ 'ဝီရိယထက်သန် ပြင်းထန်တဲ့ သောဏာထေရီ' လို့ အဓိပ္ပာယ်ရပါတယ်။

## သောဏာထေရီ ရဟန္တာဖြစ်

တစ်နေ့မှာတော့ ဘိက္ခုနီမတွေဟာ ဆုံးမဩဝါဒခံယူဖို့အတွက် ဇေတဝန်ကျောင်းတော်ကို သွားကြတယ်။ ဒီအခါ ဘိက္ခုနီမတွေက အာရဒ္ဓဝီရိယ သောဏာထေရီမကြီးကို "အို… ရှင်မသောဏာ… ဘိက္ခုနီသံဃာအတွက် ရေနွေးအိုး တည်ထားပါ" လို့ မှာပြီး ကျောင်းမှာ ချန်ထားခဲ့ကြတယ်။ သောဏာထေရီမကြီးလည်း ရေနွေးအိုး မတည်ခင် မီးတင်းကုပ်အနီးဝန်းကျင်မှာ စင်္ကြံလျှောက်ရင်း (၃၂) ကောဋ္ဌာသကမ္မဋ္ဌာန်းကို ရွတ်အံသရဇ္ဈာယ်ပြီး ဝိပဿနာကမ္မဋ္ဌာန်း စီးဖြန်းပွားများနေခဲ့ပါတယ်။

ဒီအခါ မြတ်စွာဘုရားရှင်ဟာ ဇေတဝန်ကျောင်းတိုက်က ဂန္ဓကုဋီတိုက်တော်ထဲမှာ ထိုင်နေတော်မူရာကနေ ရောင်ခြည်တော်လွှတ်

ပြီး အားပေးရင်း ဖော်ပြပါ အဓိပ္ပာယ်ရတဲ့ ဂါထာနဲ့ တရားဟောတော်မူခဲ့ပါတယ်။

**"ချစ်သမီး သောဏာ… လောကုတ္တရာတရားကိုးပါးကို မသိမမြင်ဘဲ အနှစ်တစ်ရာ ကာလပတ်လုံး အသက်ရှည်ရှည် နေရသူထက် လောကုတ္တရာတရား ကိုးပါးကို သိမြင်ပြီး တစ်ရက်ပဲ အသက်ရှင်နေရသူက ပိုပြီး မြင့်မြတ်ပါပေတယ်"**

ဒီတရားဂါထာ အဆုံးမှာပဲ အာရဒ္ဓဝီရိယ သောဏာထေရီမဟာ အရဟတ္တဖိုလ်အထိ ရခဲ့ပြီး ကိလေသာ အာသဝေါတွေ ကုန်ခန်းတဲ့ ရဟန္တာဖြစ်ခဲ့ပါတယ်။

ဒီလို ရဟန္တာဖြစ်ပြီးတဲ့အခါ သောဏာထေရီမဟာ 'ငါ အခု ရဟန္တာဖြစ်ခဲ့ပြီ၊ ဒီအကြောင်း မသိဘဲနဲ့ ပြန်လာကြတဲ့ ဘိက္ခုနီမတွေ ငါ့ကို ရေနွေး မတည်ထားရကောင်းလားဆိုပြီး အထင်သေး အမြင်သေးနဲ့ မထီလေးစား ပြောဆိုကြရင် သူတို့တစ်တွေ အကုသိုလ်အပြစ်တွေ ရကြတော့မယ်၊ ဒီတော့ သူတို့ သိနိုင်လောက်တဲ့ အခြင်းအရာ ကြိုတင်ပြီး ငါလုပ်ထားမှ သင့်တော်မယ်'လို့ စဉ်းစားဆင်ခြင်ပြီး ရေနွေးအိုးကို ဖိုခနောက်ပေါ်မှာ တင်ရုံ တင်ထားလိုက်တယ်။ အောက်မှာတော့ မီးမမွေးဘဲ ဒီအတိုင်း ထားလိုက်တယ်။

ဘိက္ခုနီမတွေ ဇေတဝန်ကျောင်းတိုက်ကနေ ပြန်လာကြပြီး မီးဖိုဘက်ကို လှမ်းကြည့်လိုက်တဲ့အခါ မီးဖိုမှာ မီးတောက်နေတာ မမြင်ကြတဲ့အတွက် " 'အဖွားကြီး… ရေနွေးကျိုထားလိုက်ပါ'လို့ မှာခဲ့ရက်နဲ့ ခုတော့ ဒီအဖွားကြီး ခုအထိ မီးတောင် မမွေးရသေးပါလား"လို့ ပြစ်တင်စကား ပြောခဲ့ကြတယ်။

ဒီအခါ သောဏာထေရီမက "အို… ရှင်မတို့… ရှင်မတို့အတွက် မီးက ဘာလုပ်ဖို့လဲ၊ ရေနွေးနဲ့ ရေချိုးချင်ကြတယ်ဆိုရင် ရေနွေးအိုးထဲက ရေနွေးခပ်ပြီး ချိုးကြပါ"လို့ အံ့ဖွယ်စကား ပြောကြားခဲ့တယ်။

ဒီလိုပြောတဲ့အခါ အတူနေ ဘိက္ခုနီမတွေဟာ 'သြော်… ဒီအဖွားကြီး စကားထူး စကားဆန်းတွေ ပြောလို့ပါလား၊ ဧကန္တတော့ အကြောင်းထူး တစ်ခုခုတော့ ရှိမယ်ထင်တယ်' လို့ စဉ်းစားမိကြ တယ်။ ပြီးတဲ့အခါ ရေနွေအိုးရှိရာ သွားပြီး ရေနွေးအိုးထဲ လက်နဲ့ စမ်းကြည့်လိုက်တယ်။ ဒီအခါ ဘိက္ခုနီမတွေဟာ ရေနွေးအိုးထဲက ရေတွေ ပူနွေးနေမှန်းသိခဲ့ကြပြီး လိုသလောက်ခပ်ကာ ရေချိုးခဲ့ကြ တယ်။ ခပ်တိုင်းခပ်တိုင်း ရေနွေးအိုးထဲက ရေနွေးတွေဟာ လျော့သွား တယ်မရှိဘဲ ပြည့်မြဲ ပြည့်နေခဲ့တယ်။

ဒီအခါကျမှ အတူနေ ဘိက္ခုနီမတွေဟာ သောဏာထေရီမကြီး ရဟန္တာဖြစ်ပြီဆိုတာ သိခဲ့ကြတယ်။ ဒီလို သိပြီးတဲ့အခါ သိက္ခာဝါငယ်တဲ့ ဘိက္ခုနီမတွေက သောဏာထေရီမကြီးရဲ့ ခြေရင်းမှာ ဝပ်စင်းပြီး ထိခြင်းငါးပါးနဲ့ ထိုင်ကန်တော့ကာ "အရှင်မကြီး… အကျွန်ုပ်တို့ဟာ မစူးစမ်း မဆင်ခြင်မိကြဘဲ အရှင်မကြီးကို အနိုင်ကျင့်တဲ့အနေနဲ့ မလေး မစား ပြောဆိုဆက်ဆံမိခဲ့ကြပါတယ်၊ အကျွန်ုပ်တို့ရဲ့ အဲဒီအပြစ်တွေကို သည်းခံခွင့်လွှတ်တော်မူကြပါ" လို့ တောင်းပန်စကား ပြောဆိုခဲ့ကြ ပါတယ်။ ထေရီမထက် သိက္ခာဝါကြီးတဲ့ ဘိက္ခုနီမတွေကလည်း ပုဆစ်လေးတုပ် လက်အုပ်ကလေး ချီပြီး "အရှင်မ… သည်းခံပါ လော့" လို့ တောင်းပန်စကား ဆိုခဲ့ကြတယ်။

## (ဂ) အာရဒ္ဓဝီရိယဧတဒဂ်အရာထား ချီးမြှောက်ခံရ

အဲဒီအချိန်ကစပြီး "အသက်အရွယ်ကြီးမှ ရဟန်းပြုခဲ့ပေမယ့် လုံ့လဝီရိယ အပြင်းအထန်နဲ့ အားထုတ်ခဲ့တဲ့အတွက် သောဏာထေရီမ ကြီးဟာ ရဟန်းပြုပြီး မကြာခင်မှာပဲ အရဟတ္တဖိုလ် တည်ခဲ့တယ်" ဆိုတဲ့ ထေရီမကြီးရဲ့ ဂုဏ်ကျေးဇူးစကားဟာ အထူးထင်ရှား ကျော်ကြား လာခဲ့တယ်။

ဒီအကြောင်းကြောင့်ပဲ နှောင်တစ်ချိန် ဇေတဝန်ကျောင်းတိုက်မှာ ကျင်းပတဲ့ ဘိက္ခုနီမများကို ဧတဒဂ်အရာထား ချီးမြှောက်တဲ့ပွဲမှာ မြတ်စွာဘုရားရှင်က "ဝီရိယထက်ထက်သန်သန်နဲ့ တရား အားထုတ်ကြတဲ့ ဘိက္ခုနီရဟန်းမတွေထဲမှာ သောဏာဟာ အသာဆုံး၊ အမြတ်ဆုံး ပုဂ္ဂိုလ် ဖြစ်ပါပေတယ်"လို့ သောဏာထေရီမကြီးကို အာရဒ္ဓဝီရိယ ဧတဒဂ်နဲ့ ချီးမြှောက်တော်မူခဲ့ပါတယ်။

တချို့က 'မိုးလွန်မှ ထွန်ချ၊ နေစောင်းမှ စပါးလှန်း' ဆိုတာလို အသက်ကြီးမှ တရားအားထုတ်လို့ ဘာမှ ထူးလာမှာ မဟုတ်ပါဘူးလေဆိုပြီး လက်လျှော့တတ်ကြပါတယ်။ တကယ်တော့ တရား ဆိုတာ ငယ်ငယ်ရွယ်ရွယ် အားထုတ်ရင် ဉာဏ်ရည်ဉာဏ်သွေးတွေ မြန်မြန်တက်နိုင်တာ မှန်ပေမယ့် အသက်ကြီးသူတွေအတွက်လည်း တရားဆိုတာ မရ မရှိနိုင်ပါဘူး။ အဓိကကတော့ နည်းမှန်လမ်းမှန်နဲ့ တရားကို ဖွဲသန်သန်အားထုတ်ဖို့ပါ။ ဒါကို သောဏာထေရီမကြီးက သက်သေခံခဲ့ပြီးပါပြီ။

"ဓမ္မမမြင်ဘဲ အသက်တစ်ရာ ရှည်ရတာနဲ့စာရင် ဓမ္မမြင်ပြီး တစ်ရက်ကလေးပဲ အသက်ရှင်ရတာက ပိုမြတ်လှပါတယ်"ဆိုတဲ့ သောဏာထေရီမကို ဟောတဲ့ မြတ်ဗုဒ္ဓရဲ့ ဩဝါဒတော်က မိမိတို့ တစ်တွေကို ဓမ္မကို မြင်အောင် အားထုတ်လိုတဲ့ ဆန္ဒတွေ ထက်သန်စေဖို့ အတွက် တန်ဖိုးမဖြတ်နိုင်တဲ့ ဩဝါဒဒေသနာတော် ဖြစ်ပါတယ်။ အဓိပ္ပာယ်ရှိတဲ့ ဘဝရှင်သန်မှုကို ရလိုသူတိုင်းအတွက်တော့ ဒီဩဝါဒတော်ကို ဦးထိပ်မှာ ပန်ဆင်ပြီး ထက်ထက်သန်သန် ကြိုးစားဖို့ပါပဲ။

ဘယ်လိုပဲဖြစ်ဖြစ် အားကိုးစရာ မရှိတာတွေ၊ အသက်ကြီးတာတွေကို တွေးပြီး စိတ်ပျက်အားငယ်မနေဘဲ အားကိုးစရာ ဓမ္မတွေကို ရအောင် ဖွဲသန်သန်နဲ့ ကြိုးစားခဲ့တဲ့ သောဏာထေရီမကြီးကို အားကျ အတုယူပြီး ဘဝအခက်ခဲတွေကို ဓမ္မနဲ့ ကျော်ဖြတ်ရင်း အမြင့်ဆုံး

ပန်းတိုင်ရောက်အောင် ကြိုးစားအားထုတ်နိုင်ကြပါစေလို့ ဆန္ဒပြု လိုက်ပါတယ်။

**ကျမ်းကိုး –**

၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ပထမတွဲ၊ ၂၈၁။
၂။ မဟာဗုဒ္ဓဝင်၊ ဆဋ္ဌတွဲ၊ ဒုတိယပိုင်း၊ ၉၈။
၃။ ထေရီဂါထာပါဠိ၊ ၃၉၁။
၄။ ထေရီဂါထာအဋ္ဌကထာ၊ ၉၈။
၅။ အပဒါန်ပါဠိတော်၊ ၂။ ၂၅၇။
၆။ အပဒါန်ပါဠိတော် မြန်မာပြန်၊ ၂။ ၂၄၉။
၇။ ဓမ္မပဒအဋ္ဌကထာ၊ ၂။ ၄၄၆။

ဒိဗ္ဗစက္ခုအဘိညာဉ်ဆိုတာ နတ်မျက်စိနဲ့တူတဲ့ ဉာဏ်မျက်စိကို ဆိုလိုတာ ဖြစ်ပါတယ်။ နတ်မျက်စိဟာ လူသားတွေရဲ့ မျက်စိထက် အမြင်ပိုသန်ပါတယ်။ နတ်မျက်စိဆိုတာ စင်ကြယ်တဲ့ ကုသိုလ်ကံ

ဒီဗ္ဗစက္ခုအဘိညာဉ်အရာ အသာဆုံး
ဒီဗ္ဗစက္ခုက ဧတဒဂ်ရ

## သကုလာ ထေရီ



ကြောင့် ရလာတဲ့မျက်စိဖြစ်တာကြောင့်ရော၊ သည်းခြေ၊ သလိပ်၊ သွေးတွေ သန့်ရှင်း စင်ကြယ်တဲ့အတွက်ကြောင့်ပါ အလွန်ဝေးတဲ့နေရာမှာ ရှိတဲ့ အာရုံပင် ဖြစ်ပါစေ လှမ်းမြင်နိုင်ပါတယ်။



ဉာဏ်မျက်စိလို့ခေါ်တဲ့ ဒိဗ္ဗစက္ခုအဘိညာဉ် ဆိုတာကတော့ နတ်မျက်စိထက် အဆပေါင်း များစွာ သာလွန်ပြီး မြင်နိုင်စွမ်း ရှိပါတယ်။ မြင်စရာအာရုံဟာ ဘယ်လောက်ပဲ ဝေးဝေး၊ ဘာတွေနဲ့ပဲ ဖုံးကွယ်ထားကွယ်ထား၊ ဘယ်လောက်ပဲသေးသေး၊ ဘယ်လောက်ပဲ သိမ်မွေ့ သိမ်မွေ့ ဒိဗ္ဗစက္ခုအဘိညာဉ်နဲ့ မြင်နိုင်ပါတယ်။ သေခါနီး သတ္တဝါတွေ၊ ပဋိသန္ဓေနေပြီးစ သတ္တဝါတွေ၊ အဆင့်နိမ့် သတ္တဝါတွေ၊ အဆင့်မြင့်သတ္တဝါတွေ၊ အဆင်းလှတဲ့ သတ္တဝါတွေ၊ အဆင်း မလှတဲ့ သတ္တဝါတွေ စတဲ့ ဘယ်လို သတ္တဝါမျိုးကိုမဆို ဒီအဘိညာဉ်နဲ့ ကြည့်လိုက်ရင် အကုန်မြင်ရပါတယ်။

မြင်ရရုံတင်မက ဆက်ပြီး ဉာဏ်နဲ့ကြည့်လိုက်ရင် "သြော်... ဒီသတ္တဝါတွေ အပါယ်လေးပါး ရောက်ကြတယ်ဆိုတာ ကာယ ဒုစရိုက်မှု၊ ဝစီဒုစရိုက်မှု၊ မနောဒုစရိုက်မှုဆိုတဲ့ အကုသိုလ်မှုတွေ လုပ်ခဲ့လို့၊ အရိယာသူတော်ကောင်းတွေကို မဟုတ်မတရား စွပ်စွဲခဲ့လို့၊ အယူလွဲမှားခဲ့လို့၊ အယူအဆအလွဲတွေ သူများတွေကို တစ်ဆင့်ပြန်ပြီး ဟောပြောခဲ့လို့ ဖြစ်ကြတာပါလား၊ သြော်... ဒီသတ္တဝါတွေ လူ့ပြည်၊ နတ်ပြည်တွေ ရောက်ကြတယ်ဆိုတာ ကာယသုစရိုက်၊ ဝစီသုစရိုက်၊ မနောသုစရိုက်ဆိုတဲ့ ကုသိုလ်တွေပြုခဲ့လို့၊ သူတော်ကောင်းတွေကို မပြစ်မှားခဲ့လို့၊ အယူအဆတွေ မှန်ခဲ့လို့၊ မှန်ကန်တဲ့ အယူအဆတွေ သူများတွေကို တစ်ဆင့်ပြန်ပြီး ဟောပြောခဲ့လို့ပါလား" ဆိုပြီး ကိုယ်ပြုမူခဲ့တဲ့ ကံအားလျော်စွာ ဖြစ်နေကြတဲ့သတ္တဝါတွေရဲ့ အကြောင်းကံတွေကိုပါ သိနိုင်တာပါ။

ဒီလို မြင်နိုင်စွမ်း၊ သိနိုင်စွမ်းရှိတဲ့ ဒိဗ္ဗစက္ခုအဘိညာဉ်ဆိုတာ ဈာန်သမာပတ် ရှစ်ပါးကို နိုင်နိုင်နင်းနင်း ဝင်စားနိုင်ပါမှ အဲဒီကနေ တစ်ဆင့်တက်ပြီး ရနိုင်တာမျိုးပါ။ ခု ကြည်ညိုကြမယ့် သကုလာ

ထေရီမဟာ အခုရှင်းပြခဲ့တဲ့ ဒိဗ္ဗစက္ခုအဘိညာဉ်ကို နိုင်နင်းစွာ ဝင်စားနိုင်တဲ့ ဘိက္ခုနီမတွေထဲမှာ အသာဆုံးပုဂ္ဂိုလ် ဖြစ်ပါတယ်။ သကုလာထေရီမ ဘယ်လို အကြောင်းကံတွေ ပြုခဲ့လို့ ဒီ ဒိဗ္ဗစက္ခုအဘိညာဉ် အရာ အသာဆုံး ဧတဒဂ်ကို ရတာလဲဆိုတာကတော့ ထေရီမအကြောင်း ကြည့်ညိုပြီးတဲ့အခါ အားကျဖွယ်ရာအဖြစ် သိနိုင်ပါလိမ့်မယ်။

## (က) ထေရီမ အမည်နဲ့ ဧတဒဂ်အဓိပ္ပာယ်

အခု ကြည့်ညိုရမယ့် ထေရီမရဲ့ နာမည်က 'သကုလာထေရီ'ပါ။ အင်္ဂုတ္တိုရ်အဋ္ဌကထာ မှတ်တမ်းမှာတော့ 'ဗကုလာထေရီ'လို့ တွေ့ရပါတယ်။ ဒါပေမဲ့ သီဟိုဠ်မူနဲ့ ထေရီအဋ္ဌကထာတွေမှာတော့ 'သကုလာထေရီ'လို့ပဲ ဖော်ပြကြတယ်။ ဒါကြောင့် အသုံးများတဲ့ 'သကုလာထေရီ'ဆိုတဲ့ အမည်နဲ့ပဲ ကြည့်ညိုကြပါမယ်။ သကုလာ ထေရီမဟာ ဒိဗ္ဗစက္ခုအဘိညာဉ် ဝင်စားတဲ့အရာမှာ ကျွမ်းကျင်နိုင်နင်းသူ ဖြစ်တာကြောင့် 'ဒိဗ္ဗစက္ခုက ဧတဒဂ်'ကို ရခဲ့တာ ဖြစ်ပါတယ်။

## (ခ) အတိတ်ဘဝပါရမီနဲ့ ဆုတောင်း
## နန္ဒာမင်းသမီးဘဝ

သကုလာထေရီမလောင်း အမျိုးကောင်းသမီးဟာ ပဒုမုတ္တရမြတ်စွာဘုရားရှင် လက်ထက်တော်တုန်းက ဟံသာဝတီပြည်မှာ အာနန္ဒမင်းကြီးရဲ့ သမီးတော် ဖြစ်ခဲ့ပါတယ်။ အလွန်လှပပြီး နှစ်လိုဖွယ် အဆင်းနဲ့ ပြည့်စုံသူမို့ သမီးတော်ရဲ့ နာမည်ကို 'နန္ဒာမင်းသမီး'လို့ ခေါ်ကြတယ်။ ပဒုမုတ္တရ မြတ်စွာဘုရားရဲ့ ဖတူမိကွဲ နှမလည်း ဖြစ်ပါတယ်။ နန္ဒာမင်းသမီး သိတတ်တဲ့အရွယ် ရောက်တဲ့အခါ အခြား

မင်းသမီးတွေနဲ့အတူ အစ်ကိုတော်ဘုရားဖြစ်တဲ့ ပဒုမုတ္တရ မြတ်စွာဘုရားထံ ချဉ်းကပ်ပြီး တရားဒေသနာတော်ကို နာကြားခဲ့ပါတယ်။

အဲဒီအခါ မြတ်စွာဘုရားရှင်က ဒိဗ္ဗစက္ခုအဘိညာဉ်အရာ ကျွမ်းကျင်နိုင်နင်းစွာ ဝင်စားနိုင်တဲ့ ဘိက္ခုနီရဟန်းမတစ်ပါးကို ပရိသတ်အလယ်မှာ ချီးကျူးပြီး ဒိဗ္ဗစက္ခုအဘိညာဉ်အရာမှာအသာဆုံး ဧတဒဂ်နဲ့ ချီးမြှောက်တော်မူခဲ့ပါတယ်။ နန္ဒာမင်းသမီးလည်း မြတ်စွာဘုရားရဲ့ ဒီလို ချီးကျူးတဲ့စကားကို ကြားရတဲ့အခါ အားရဝမ်းသာ ကြည်ညိုစိတ်၊ အားကျစိတ်တွေ ဖြစ်ခဲ့တယ်။ ဒါနဲ့ မြတ်စွာဘုရား အမှူးပြုတဲ့ သံဃာတော်တွေကို ပင့်ဖိတ်ပြီး အလှူပေးလှူခဲ့ပါတယ်။ အလှူပြီးတဲ့အခါ မြတ်စွာဘုရားကို ပူဇော်ပြီး ဒိဗ္ဗစက္ခု အဘိညာဉ်အရာ အသာဆုံး ဧတဒဂ် ရလိုပါကြောင်း ဆုပန်ဆုတောင်းခဲ့ပါတယ်။

## ပရိဗိုဇ်ရဟန်းမဘဝ

နန္ဒာမင်းသမီးဟာ အဲဒီဘဝမှာ အသက်ထက်ဆုံး ကုသိုလ်ကောင်းမှုတွေ ပြုခဲ့ပြီး ကွယ်လွန်တဲ့အခါ တာဝတိံသာ နတ်ပြည်မှာ ဖြစ်ခဲ့တယ်။ အဲဒီနောက် လူ့ပြည်၊ နတ်ပြည်တွေမှာ သံသရာကျင်လည်ခဲ့ပြီး ကဿပဘုရားရှင် လက်ထက်တော်ရောက်တဲ့အခါမှာတော့ ပုဏ္ဏားမျိုးမှာ ဖြစ်ခဲ့တယ်။ အရွယ်ရောက်တဲ့အခါ အိမ်ထောင်မပြုဘဲ ပရိဗိုဇ်ရဟန်းမဘဝကို ခံယူပြီး ဧကစာရီတစ်ကိုယ်တည်း နေတဲ့ အကျင့်ကို ကျင့်ခဲ့တယ်။

ကဿပမြတ်စွာဘုရား ပရိနိဗ္ဗာန်စံတော်မူပြီးတဲ့အခါ ကြွင်းကျန်ရစ်တဲ့ ဓာတ်တော်တွေကို လူတွေက စေတီတည်ထား ကိုးကွယ်ခဲ့ကြတယ်။ တစ်ချိန်မှာတော့ ထေရီမလောင်း ပရိဗိုဇ်မဟာ ဆီဆွမ်းအလှူခံထွက်ခဲ့တယ်။ ရလာတဲ့ ဆီတွေနဲ့ ကဿပမြတ်စွာဘုရားရဲ့ ဓာတုစေတီတော်မှာ ထက်သန်ကြည်ညိုတဲ့ သဒ္ဓါစိတ်နဲ့ တစ်ညလုံး

ဆီမီးထွန်းညှိ ပူဇော်ခဲ့တယ်။ ဒီကုသိုလ်ကံကြောင့်ပဲ အဲဒီဘဝကနေ ကွယ်လွန်တဲ့အခါ ပရိဗိုဇ်ရဟန်းမဟာ နတ်ပြည်မှာ ဖြစ်ခဲ့ပြန်တယ်။

ဆီမီးလှူခဲ့တဲ့ ကုသိုလ်ကြောင့် ရောက်လေရာဘဝတိုင်းမှာ ဆီမီးအလင်း များစွာကို ရရှိခဲ့တယ်။ အလိုရှိခဲ့မယ်ဆိုရင် နံရံတစ်ဖက်ကိုဖြစ်ဖြစ်၊ ကျောက်တောင်တစ်ဖက်ကိုဖြစ်ဖြစ်၊ တောင်ကိုဖြစ်ဖြစ် ထွင်းဖောက်ကျော်လွန်ပြီး မြင်နိုင်တဲ့အမြင်ကို ရခဲ့တယ်။ နောက်ပြီး အထူးစင်ကြယ်တဲ့ မျက်လုံးပိုင်ရှင်လည်း ဖြစ်တယ်၊ အခြံအရံတွေလည်း ပေါများတယ်၊ သဒ္ဓါတရားလည်း ကောင်းတယ်၊ ပညာလည်း ရှိတယ်။ ဒါတွေကတော့ ဆီမီးလှူဒါန်းခဲ့တဲ့ ကုသိုလ်ကံရဲ့ အကျိုးတွေပဲ ဖြစ်ပါတယ်။

## (ဂ) ပစ္ဆိမဝတ္ထုနောက်ဆုံးဘဝ ဆီမီးလှူဒါန်းရတဲ့ ကုသိုလ်ကြောင့် မြင့်မြတ်တဲ့ ပုဏ္ဏားမျိုးမှာဖြစ်ရ

ထေရီမအလောင်း ပရိဗိုဇ်ရဟန်းမဟာ ဆီမီးလှူရတဲ့ ကုသိုလ်ကံကြောင့် ကဿပမြတ်စွာဘုရားနဲ့ ဂေါတမမြတ်စွာဘုရား နှစ်ဆူအကြား ရှည်လျားတဲ့ ကာလတစ်လျှောက်လုံး နတ်ပြည်၊ လူ့ပြည်တွေမှာ ဖြစ်ခဲ့ပြီး ယခုနောက်ဆုံးဘဝမှာတော့ ပစ္စည်းဥစ္စာလည်း ပြည့်စုံကြွယ်ဝ၊ မင်းစိုးရာဇာတွေလည်း လေးစားရတဲ့ ဗြာဟ္မဏပုဏ္ဏားမျိုးမှာ ဖြစ်ခဲ့ပါတယ်။ နာမည်ကတော့ 'သကုလာ' လို့ အမည်တွင်ခဲ့ပါတယ်။ သကုလာပုဏ္ဏေးမ အရွယ်ရောက်ပြီး တစ်ချိန်မှာ မြတ်စွာဘုရားရှင်ဟာ သာဝတ္ထိပြည်က အနာထပိဏ်သူဌေးကြီး ဆောက်လုပ်လှူဒါန်းတဲ့ ဇေတဝန်ကျောင်းတိုက်ကို လက်ခံတော်မူခဲ့ပါတယ်။ အဲဒီဇေတဝန်ကျောင်း ရေစက်ချပွဲမှာ သကုလာပုဏ္ဏေးမဟာ မြတ်စွာဘုရား ဟောကြားတဲ့ အနုမောဒနာတရားကို နာယူရတဲ့အတွက် ရတနာသုံးပါးကို သက်ဝင်ယုံကြည်တဲ့ ဥပါသိကာမ ဖြစ်ခဲ့ပါတယ်။

နောက်ပိုင်းကာလတစ်ချိန်မှာ ရဟန္တာမထေရ်မြတ်တစ်ပါး ထံကနေ တရားနာရတဲ့အတွက် သံဝေဂဉာဏ်တွေ ဖြစ်ပွားပြီး သာသနာ့ဝန်ထမ်း ရဟန်းမ ပြုခဲ့ပါတယ်။ ရဟန်းမဖြစ်ပြီးတဲ့နောက် ဝိပဿနာတရားကို မမေ့မလျော့ ကြိုးစား အားထုတ်တဲ့အတွက် မကြာခင်မှာပဲ အရဟတ္တဖိုလ် ရရှိခဲ့ပြီး ကိလေသာအာသဝေါတရား တွေ ကုန်ခန်းတဲ့ ရဟန္တာထေရီမ ဖြစ်ခဲ့ပါတယ်။

## (ဃ) ဒိဗ္ဗစက္ခုကဧတဒဂ် ချီးမြှင့်ခံရ

သကုလာထေရီမဟာ ရဟန္တာဖြစ်ပြီးတဲ့နောက် ရှေးဆုတောင်း အတိုင်း ဒိဗ္ဗစက္ခုအဘိညာဉ်ကို အထူးလေ့လာတဲ့အတွက် အလွန်နိုင်နင်း သူ ဖြစ်ခဲ့ပါတယ်။ ဒါကြောင့်ပဲ မြတ်စွာဘုရားရှင်က သာဝတ္ထိပြည် ဇေတဝန်ကျောင်းတိုက်မှာ ဘိက္ခုနီမတွေကို ဧတဒဂ်ဘွဲ့ထူးနဲ့ ချီးမြှောက် တဲ့အခါ "သကုလာ ရဟန်းမဟာ ဒိဗ္ဗစက္ခုအဘိညာဉ် နိုင်နင်းတဲ့အရာ အသာဆုံးပုဂ္ဂိုလ် ဖြစ်ပါပေတယ်"လို့ ချီးကျူးစကား မိန့်ကြားပြီး သကုလာထေရီမကို ဒိဗ္ဗစက္ခုကဧတဒဂ်ဘွဲ့ထူးနဲ့ ချီးမြှောက်တော်မူခဲ့ ပါတယ်။

တစ်ခါမှာတော့ နတ်သားတစ်ပါးဟာ မြတ်စွာဘုရားထံ ရောက်လာပြီး "မြတ်စွာဘုရား··· ဘယ်အရာကိုလှူရင် ခွန်အား ဗလကို လှူရာရောက်ပါသလဲ၊ ဘယ်အရာကိုလှူရင် အဆင်းကို လှူရာ ရောက်ပါသလဲ၊ ဘယ်အရာကိုလှူရင် ချမ်းသာကို လှူရာ ရောက်ပါသလဲ၊ ဘယ်အရာကိုလှူရင် မျက်စိကို လှူရာရောက် ပါသလဲ၊ ဘယ်အရာကိုလှူရင် ဆိုခဲ့ပြီးတဲ့ အရာအားလုံးကို လှူရာ ရောက်ပါသလဲ"ဆိုပြီး မေးခွန်း ငါးခွန်း မေးခဲ့ပါတယ်။

မြတ်စွာဘုရားရှင်က "အို··· နတ်သား··· အစာအာဟာရကို ပေးလှူရင် ခွန်အားဗလကို လှူရာ ရောက်ပါတယ်၊ အဝတ်အထည်၊

သက်န်းတွေကိုလှူရင် အဆင်းကို လှူရာရောက်ပါတယ်၊ ယာဉ်ကို လှူရင် ချမ်းသာကို လှူရာရောက်ပါတယ်၊ ဆီမီးကိုလှူရင် မျက်စိကို လှူရာရောက်ပါတယ်၊ ကျောင်း စတဲ့ အဆောက်အအုံတွေကို ဆောက်လုပ်လှူဒါန်းရင် ဆိုခဲ့ပြီးတဲ့ ခွန်အားဗလ၊ အဆင်း၊ ချမ်းသာ၊ မျက်စိဆိုတဲ့ အရာအားလုံးကို လှူရာရောက်ပါတယ်''လို့ ပြန်လည် ဖြေကြားတော်မူခဲ့ပါတယ်။

နတ်သားမေးတဲ့မေးခွန်း ငါးခွန်းကို ဖြေတော်မူပြီးတဲ့အခါ မြတ်စွာဘုရားရှင်က ''အို… နတ်သား… တရားအလှူကို ပေးလှူတဲ့သူ ကတော့ မသေရာအမြိုက်နိဗ္ဗာန်ကို ပေးလှူရာ ရောက်ပါတယ်''လို့ နတ်သားမမေးတဲ့ ''ဘယ်အရာကိုလှူရင် နိဗ္ဗာန်အလှူကို လှူရာ ရောက်ပါသလဲ''ဆိုတဲ့ ခြောက်ခုမြောက် မေးခွန်းကိုပါ ထည့်စွက် ဖြေကြားတော်မူခဲ့ပါတယ်။ ဒီအကြောင်းကို သံယုတ္တနိကာယ် သဂါထာဝဂ္ဂ သံယုတ်မှာ ကိံဒဒသုတ်ဆိုပြီး သင်္ဂါယနာတင် မထေရ်တွေက မှတ်တမ်းတင်တော်မူထားကြပါတယ်။

ဒီ ကိံဒဒသုတ်မှာပါတဲ့ **''ဒီပဒေါ စက္ခုဒေါ ဟောတိ = ဆီမီးအလှူဟာ မျက်စိကို လှူရာရောက်တယ်''** ဆိုတဲ့ အဖြေကတော့ ''သကုလာထေရီမ ဆီမီးတွေ လှူခဲ့တဲ့အတွက်ကြောင့် ဒိဗ္ဗစက္ခုဉာဏ် အလင်းကို ရခဲ့တယ်''ဆိုတာအတွက် ပိုပြီး ခိုင်လုံစေတဲ့ ဘုရားဟော အထောက်အထားပဲ ဖြစ်ပါတယ်။

ဒါကြောင့် မြတ်စွာဘုရားကို ရည်မှန်းပြီး ဆီမီး၊ လျှပ်စစ်မီး တွေနဲ့ ပူဇော်တာ၊ သံဃာအများ အလင်းရအောင် မီးထွန်းညှိပူဇော်တာ၊ လျှပ်စစ်မီးအလှူ လှူတာ၊ အများပြည်သူတွေ အလင်းရောင်ရစေဖို့ အတွက် လျှပ်စစ်မီးတွေရအောင် ဆောင်ရွက်ပေးတာ၊ လှူဒါန်းပေး တာစတဲ့ မီးနဲ့ ပတ်သက်တဲ့ အလှူတွေဟာ ဉာဏ်မျက်စိရကြောင်း

ကောင်းမှုကုသိုလ်တွေ ဖြစ်တယ် ဆိုတာကတော့ အထူးပြောစရာ လိုမယ် မထင်တော့ပါဘူး။

အလှူ ခြောက်မျိုး မှတ်လို့လွယ်အောင် မန်လည်ဆရာတော်ကြီး ရဲ့ မဃဒေဝလင်္ကာ ဆဋ္ဌမပိုင်း နေမိရာဇစရိယခန်း ပိုဒ်ရေ ၅၀၇ မှာလာတဲ့ လင်္ကာကို ဖော်ပြပေးပါမယ် -

"အန္နဒါန၊ ဟာရကြည်ဖြူ၊ **ဆွမ်းအလှူ**ဖြင့်၊ သက်ထိုံ အာယု၊ မန္တာတုသို့၊ ရှည်မူ လွံ့ပေါ်၊ သက်တမ်းကျော်၏။

တဘော်ဆင်မြန်း၊ **ဝတ်သင်္ကန်းကို၊ လှူဒါန်း**သည့်သူ၊ အဆင်းလှူတည့်၊ နတ်လူတို့ဘောင်၊ ဖြစ်တိုင်းနောင်ဝယ်၊ အခေါင် ဦးစွန်း၊ ကိုယ်ရောင်ထွန်း၍၊ တုကျွန်းလွတ်ကွာ၊ မယ်ဥမ္မာနှင့်၊ ပဘာ ဝတီ၊ နတ်တပြီသို့၊ အညီနှိုင်းရှိ၊ လှခေါင်ထိလိမ့်။

**ဆီမီးအလှူ**၊ မျက်စိဟူရှင့်။

**ယာဉ်မူ လှူသီး**၊ ချမ်းသာကြီး၏။

ခိုမှီးအာဝါ၊ သာယာရိပ်ချမ်း၊ **ကျောင်းသင်္ခမ်းကား**၊ ဆုံးကမ်း မရှိ၊ ကြီးဘိကျိုးရပ်၊ နိဗ္ဗာန်ခပ်အောင်၊ မဟာပ္ပလံ၊ ရှုပ်ရဗံတည့်။

နက်တံသာရ၊ နုသာသဖြင့်၊ **ဓမ္မတရား၊ သူတပါးအား၊ ဟောကြားပြသ**၊ ဆုံးမတတ်သူ၊ အမြိုက်ဟူသည်၊ အလှူများမင်း၊ အခေါင်ချင်းဟု၊ ကျမ်းရင်းဓမ္မစက်၊ မိန့်တော်ထွက်သည်၊ တုဘက်မစံ မခိုင်းတည်း။"

**ကျမ်းကိုး**-

၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ၁။ ၂၇၃။

၂။ မဟာဗုဒ္ဓဝင်၊ ဆဋ္ဌတွဲ၊ ဒုတိယပိုင်း၊ ၁၀၄။

၃။ ထေရီဂါထာပါဠိ၊ ၃၉၀။

၄။ ထေရီဂါထာအဋ္ဌကထာ၊ ၉၃။
၅။ အပဒါန်ပါဠိတော်၊ ၂။ ၂၅၀။
၆။ အပဒါန်ပါဠိတော် မြန်မာပြန်၊ ၂။ ၂၄၂။

**"အမှောင်ကို ခွင်းနိုင်တဲ့ အလင်းရောင်တွေဟာ ဆီမီးရောင်၊ လရောင်၊ နေရောင်၊ ပညာရောင်ဆိုပြီး လေးမျိုးရှိတယ်။ အဲဒီအထဲမှာ ပညာရောင်ကသာ အမြတ်ဆုံး ဖြစ်တယ်"**

(အင်္ဂုတ္တရနိကာယ် စတုက္ကနိပါတပါဠိ အာဘာသုတ်)

ဘဝမှာ အမှောင်ထဲ နေရခြင်းက ဘယ်လောက် ကြောက်စရာ ကောင်းသလဲဆိုတာ အမှောင်ထဲ နေဖူးသူတိုင်း သိကြမှာပါ။ အမှောင်ထု ဖုံးလွှမ်းနေပြီဆိုရင် မိမိဘေးနားမှာရှိတဲ့ အရာဝတ္ထုတွေကို မဆိုထားနဲ့ ကိုယ့်ခန္ဓာကိုယ်ရဲ့ အစိတ်အပိုင်းတွေကိုတောင် ဘာမှ မမြင်ရတော့ပါဘူး။ အမှောင်ထုက ဘယ်အရာကိုမှ မမြင်ရအောင် ဖုံးကွယ်ထားလို့ပါ။ တကယ်တော့ မိမိရဲ့ပတ်ဝန်းကျင်မှာ ဘာမှ မရှိတာ မဟုတ်ပါဘူး။ အရာဝတ္ထုတွေဟာ သူ့နဂိုရှိမြဲအတိုင်း ရှိနေတာပါ။ မှောင်နေလို့ မမြင်ရတာပဲ



## မဂ်ဖိုလ် လျင်မြန်စွာရတဲ့အရာ အသာဆုံး
## ခိပ္ပါဘိညာ ဧတဒဂ်ရ
# ကုဏ္ဍလကေသာ ထေရီ



ဖြစ်တယ်။ ဒါကြောင့် အမှန်ကို မြင်နိုင်ဖို့ အတွက် ညမှောင်မိုက်နေတဲ့အခါ လူတွေ ဟာ မီးရောင်တွေ၊ ကြယ်ရောင် တွေ၊ လရောင်တွေကို အားကိုးကြရ တယ်။ အကြောက်တွေ ပြေစေဖို့အတွက် အလင်းရောင်တွေ ကို ထွန်းညှိကြရတယ်။

လောကပကတိအလင်းရောင်တွေ မရှိလို့ ဖြစ်ပေါ်လာတဲ့ သာမန်အမိုက်မှောင်ကတောင် သတ္တဝါတွေကို အမှန်တရား၊ အရှိတရားတွေ မသိမမြင်အောင်၊ ကြောက်လန့်နေအောင် စွမ်းဆောင်နိုင်ရင် ပညာဉာဏ်ကင်းမဲ့ပြီး အဝိဇ္ဇာအမိုက်မှောင်ဖုံးပြီ ဆိုရင်တော့ အထူးပြောစရာတောင် လိုမယ် မထင်ပါဘူး။ ဒါကြောင့် လူတွေဟာ အမှန်တရားကို မြင်နိုင်ဖို့နဲ့ အကြောက်တရားတွေ ကင်းဝေးစေဖို့အတွက် အလင်းရောင်ကို မဖြစ်မနေ ရှာကြရပါတယ်။

အဲဒီလို ရှာရမယ့် အလင်းရောင်တွေက မြတ်ဗုဒ္ဓ ဟောကြားတော်မူခဲ့တဲ့ အထက်ဖော်ပြပါ လေးမျိုးပဲ ဖြစ်ပါတယ်။ အဲဒီထဲက ဆီမီးရောင်ဆိုတာဟာ သူ့အစွမ်းရှိသလောက်ပဲ သူ့ပတ်ဝန်းကျင်မှာရှိတဲ့ အမှောင်ထုကို ပယ်ဖျောက်ပေးပြီး အမှန်ကို ပြပေးတယ်၊ အကြောက်ကို ပြေစေတယ်။ သူ မရောက်နိုင်တဲ့နေရာက အမှောင်တွေကို ပယ်ဖျောက်ပေးနိုင်စွမ်း မရှိပါဘူး။ ဒီဆီမီးရောင် ဆိုတာက တစ်ခါတလေ ကိုယ့်မှာ ရှိမနေတတ်ဘူး။

လရောင်ကျတော့လည်း ညပိုင်းလောက်သာ သူ့အစွမ်းက ရှိတာပါ။ နေ့ဘက်ဆိုရင် သူ့အစွမ်းက မရှိတော့ပါဘူး။ ဒီအတူပဲ နေရောင်ဆိုတာလည်း နေ့ပိုင်းအခါပဲ ရှိနိုင်တာ ဖြစ်ပြီး ညဘက်ဆိုရင် သူလည်း ပျောက်ကွယ်နေတော့တာပါ။ ဒါကြောင့် ခုဖော်ပြခဲ့တဲ့ ဆီမီးရောင်တွေ၊ လရောင်တွေ၊ နေရောင်တွေဆိုတာ လူတွေအတွက် အမြဲတမ်း နေရာမရွေး၊ အခါမရွေး အားကိုးရတဲ့ အလင်းရောင်တွေ မဟုတ်ကြပါဘူး။ အကန့်အသတ်နဲ့သာ အားကိုးရတဲ့ အလင်းရောင်တွေ ဖြစ်ပါတယ်။

လူတွေအတွက် အမြဲတမ်း အားကိုးရမယ့် အလင်းရောင်အစစ်ကတော့ ‘ပညာရောင်’ပဲ ဖြစ်ပါတယ်။ ကိုယ့်သန္တာန်မှာ ပညာအလင်းရောင်ရှိနေပြီဆိုရင် ဘယ်နေရာပဲ ရောက်နေပါစေ၊ ဘယ်အချိန်ပဲ ဖြစ်နေပါစေ အမှန်နဲ့အမှားကို ခွဲခြားသိမြင်နိုင်မယ်။ အမှား

တွေကို ပယ်လှန်ပြီး အမှန်တွေချည်း ပြုလုပ်နေသူအဖို့ ဘာတွေကိုများ ကြောက်နေရဦးမှာလဲ။ ဒီလို အချိန်မရွေး၊ နေရာမရွေး အမှန်ကိုပြု၊ အကြောက်ကို ပြေစေနိုင်တာကြောင့် ပညာအလင်းရောင်နဲ့တူတဲ့ အရောင်ဆိုတာ မရှိပါဘူး။ ဒါကြောင့်ပဲ မြတ်စွာဘုရားက "ပညာ အရောင်ကသာ အမြတ်ဆုံး" "ပညာ သမာ အာဘာ နတ္ထိ = ပညာနဲ့တူတဲ့ အလင်းရောင်ဆိုတာ မရှိ" "ပညာ နရာနံ ရတနံ = ပညာဟာ လူသားတွေအတွက် အကောင်းဆုံးရတနာ"လို့ ဟောတော်မူခဲ့တာ ဖြစ်ပါတယ်။

အခုကြည်ညိုကြမယ့် ကုဏ္ဍလကေသာထေရီမဟာ ဘဝရဲ့ အစောပိုင်းမှာ အဝိဇ္ဇာ အမိုက်မှောင်ဖုံးနေတဲ့အတွက် မနှစ်သက်ရမယ့် ခိုးသားကို နှစ်သက်စွဲလမ်းမိခဲ့ပေမယ့် နောက်ပိုင်းမှာ ဝိဇ္ဇာဉာဏ်အလင်းတွေ ရလာတာကြောင့် အမှန်နဲ့အမှားကို ခွဲခြားသိမြင်ပြီး အကြောက်တရားတွေ ထာဝရကွယ်ပျောက်ခြင်းဆိုတဲ့ ဘဝရဲ့အကောင်းဆုံးကို ရခဲ့ပါတယ်။ ထေရီမရဲ့အကြောင်းကို ကြည်ညိုရတဲ့အခါ အဝိဇ္ဇာ အမှောင်ရဲ့ ခါးသီးတဲ့ဆိုးကျိုးတွေနဲ့ ဝိဇ္ဇာဉာဏ်အလင်းရဲ့ ချိုမြိန်တဲ့ ကောင်းကျိုးတွေကို တွေ့မြင်ကြရမှာ ဖြစ်ပါတယ်။

## (က) ထေရီမရဲ့ အမည်နဲ့ တေဒင်္ဂအဓိပ္ပာယ်

ထေရီမရဲ့ လူ့ဘဝ မူရင်းနာမည်က 'ဘဒ္ဒါ'လို့ ခေါ်ပါတယ်။ 'ကောင်းမြတ်သူ'လို့ အဓိပ္ပာယ် ရပါတယ်။ ဒါပေမဲ့ ထေရီမ ပထမဦးဆုံး တက္ကတွန်းရဟန်းမဘဝကို ခံယူစဉ်က တိတ္ထိတက္ကတွန်းတွေရဲ့ ရဟန်းပြုပေးတဲ့ ထုံးစံအတိုင်း ဆံချတဲ့အခါ ရိုးရိုး ဓား၊ ကတ်ကြေးတွေနဲ့ မချဘဲ ထန်းစေ့မှုတ်နဲ့ ဆံပင်တွေကို နာကျင်စွာ နုတ်ပြီး ရဟန်းပြုပေးတာ ခံခဲ့ရတယ်။ ဆံပင်ပြန်ပေါက်တဲ့အခါ နားတောင်းလို အစုလိုက် အစုလိုက် ဝိုင်းဝန်းတဲ့ပုံစံနဲ့ ပြန်ပေါက်လာခဲ့တယ်။ အဲဒီအချိန်ကစပြီး 'ကုဏ္ဍလကေသာ'လို့ အမည်တွင်ခဲ့

တယ်။ 'နားတောင်းပမာ အစုလိုက် ဝိုင်းနေတဲ့ ဆံပင်ရှိသူ' လို့ အဓိပ္ပာယ် ရပါတယ်။

ထေရီမရတဲ့ ဧတဒဂ်က 'ခိပ္ပာဘိညဧတဒဂ်' ပါ။ သာသနာတွင်း ရဟန်းမ ဖြစ်ပြီးတဲ့အခါ တရားအနည်းအကျဉ်းနာရရုံနဲ့ မဂ်ဖိုလ် အမြန်ဆုံးရပြီး ရဟန္တာဖြစ်ခဲ့သူ ဖြစ်တာမို့ 'မဂ်ဖိုလ်ကို လျင်မြန်စွာ ရတဲ့ အရာမှာ အသာဆုံး' ဆိုတဲ့ ဒီဧတဒဂ်ကို ရခဲ့တာ ဖြစ်ပါတယ်။

## (ခ) အတိတ်ဘဝပါရမီနဲ့ ဆုတောင်း

### သူဌေးသမီးဘဝ

ထေရီမအလောင်း အမျိုးကောင်းသမီးဟာ ပဒုမုတ္တရ မြတ်စွာဘုရားရှင် လက်ထက် ဟံသာဝတီ မင်းနေပြည်က ပြည့်စုံကြွယ်ဝချမ်းသာတဲ့ သူဌေးမျိုးမှာ ဖြစ်ခဲ့ပါတယ်။ သူဌေးသမီး အရွယ်ရောက်တဲ့အခါ မြတ်စွာဘုရားဟောကြားတဲ့တရားတော်ကို ကြားနာခဲ့ရပြီး သဒ္ဓါတရား ဖြစ်ပွားခဲ့တယ်။ မြတ်စွာဘုရားကို ကိုးကွယ်ရာ အဖြစ် ကြည်ညိုဆည်းကပ်ခဲ့ပါတယ်။ တစ်ခါမှာတော့ ပဒုမုတ္တရ မြတ်စွာဘုရားရှင်က 'သုဘာ' လို့ခေါ်တဲ့ ဘိက္ခုနီရဟန်းမကို မဂ်ဖိုလ်တရားထူး လျင်မြန်စွာသိတဲ့အရာ အသာဆုံး 'ခိပ္ပာဘိညဧတဒဂ်' နဲ့ ချီးမြှောက်တော်မူခဲ့ပါတယ်။

မြတ်စွာဘုရားရှင် ဧတဒဂ်ချီးမြှင့်တဲ့စကား မိန့်ကြားတော်မူတာကို သူဌေးသမီး ကြားနာရတဲ့အခါ ဝမ်းသာကြည်ညိုစိတ်တွေ ဖြစ်ခဲ့တယ်။ ဒါတင်မက အားကျစိတ်တွေ ဖြစ်ပေါ်လာလို့ ကုသိုလ်ကောင်းမှုတွေ ပြုလုပ်ပြီး အဲဒီလို ခိပ္ပာဘိညဧတဒဂ်မျိုး ရလိုပါကြောင်း ဆုပန်ဆုတောင်းခဲ့ပါတယ်။

## ကိကီမင်းကြီးရဲ့ သမီးတော်ဘဝ

သူဌေးသမီးဟာ ဒီကုသိုလ်ကောင်းမှုတွေကြောင့်ပဲ ကမ္ဘာတစ်သိန်းကာလပတ်လုံး နတ်ပြည်၊ လူ့ပြည်တွေမှာ ကျင်လည်ခဲ့ပြီး ကဿပမြတ်စွာဘုရားရှင်လက်ထက် ရောက်တဲ့အခါမှာတော့ ကိကီမင်းကြီးရဲ့ သမီးတော် ခုနစ်ပါးအနက် 'ဘိက္ခုဒါယိကာ'လို့ ထင်ရှားတဲ့ စတုတ္ထသမီးတော် ဖြစ်ခဲ့တယ်။ အဲဒီသမီးတော်ဟာ အနှစ်နှစ်သောင်းကာလပတ်လုံး ရှစ်ပါးသီလစောင့်ထိန်းပြီး အပျိုစင်ဘဝနဲ့ပဲ ကောမာရီဗြဟ္မစရိယအကျင့်ကို ကျင့်ခဲ့တယ်။ ကျန်တဲ့ ညီအစ်မတွေနဲ့ အတူ ဘုရားအမှူးရှိတဲ့ သံဃာတော်တွေ သီတင်းသုံးဖို့ သံဃာ့အရာမ်ကျောင်းတိုက်ကြီးကိုလည်း ဆောက်လုပ်လှူဒါန်းခဲ့တယ်။

## (ဂ) ပစ္ဆိမဝတ္ထုနောက်ဆုံးဘဝဇာတ်ကြောင်း

ဒီကုသိုလ်တွေကြောင့် ဘိက္ခုဒါယိကာ မင်းသမီးဟာ ကဿပမြတ်စွာဘုရားနဲ့ ဂေါတမ မြတ်စွာဘုရား နှစ်ဆူအကြား သံသရာကျင်လည်ခဲ့ရတဲ့ ကာလတစ်လျှောက်လုံးမှာလည်း နတ်ပြည်၊ လူ့ပြည်တွေမှာပဲ ကျင်လည်ခဲ့ရတယ်။ အခုနောက်ဆုံးဘဝ ရောက်တဲ့အခါမှာတော့ ရာဇဂြိုဟ်ပြည်က သူဌေးမျိုးမှာ ဖြစ်ခဲ့တယ်။ နာမည်ကိုတော့ 'ဘဒ္ဒါ'လို့ မှည့်ခေါ်ခဲ့ကြတယ်။ ဘဒ္ဒါသူဌေးသမီးနဲ့ တစ်နေ့တည်းမှာပဲ ဘုရင့်ပုရောဟိတ်ရဲ့သား ဖွားမြင်ခဲ့ပါတယ်။ ပုရောဟိတ်ရဲ့သား ဖွားမြင်တဲ့အချိန်မှာ ဘုရင့်နန်းတော်ထဲမှာသာမက ရာဇဂြိုဟ် တစ်မြို့လုံးမှာရှိတဲ့ ဓား၊လှံစတဲ့ လက်နက်တွေကနေ အရောင်တွေ တလက်လက် ထွက်ခဲ့ပါတယ်။

ပုရောဟိတ်ဆရာကြီးဟာ နောက်တစ်နေ့ မနက်စောစောအချိန်မှာပဲ ဘုရင့်နန်းတော်ကို သွားခဲ့တယ်။ လက်နက်တွေကနေ အရောင်တွေ လက်လင်းခဲ့တဲ့ကိစ္စနဲ့ပတ်သက်ပြီး ဘုရင်ကြီးနဲ့ ခုလို အပြန်အလှန် မေးမြန်းပြောဆိုဆွေးနွေးခဲ့တယ်။

“အရှင်မင်းကြီး… ညက ချမ်းသာစွာ အိပ်စက်ရပါရဲ့လား”

“ဆရာ… ဘယ်လိုလုပ် အိပ်လို့ ရမှာလဲ၊ မနေ့ညက နန်းတော်တစ်ခုလုံးမှာရှိတဲ့ လက်နက်တွေကနေ အရောင်တွေ ထလက်နေလို့ ကြောက်စိတ်လန့်စိတ်တွေ ဖြစ်နေခဲ့တာ”

“အရှင်မင်းကြီး… ဒီကိစ္စနဲ့ပတ်သက်လို့ကတော့ ဘာမှ မစိုးရိမ်ပါနဲ့၊ အရှင်မင်းကြီးရဲ့ နန်းတော်ထဲမှာရှိတဲ့ လက်နက်တွေကနေသာ အရောင်တွေ လက်ခဲ့တာ မဟုတ်ပါဘူး၊ ရာဇဂြိုဟ် တစ်မြို့လုံးမှာ ရှိတဲ့ လက်နက်တွေကနေလည်း အရောင်တွေ လက်ခဲ့တာပါ”

“ဆရာ… ဒါဆိုရင် ဘာလို့ အဲဒီလို ထူးဆန်းတာတွေ ဖြစ်ရတာလဲ”

“အရှင်မင်းကြီး… ကျွန်တော်မျိုးအိမ်မှာ မနေ့က သူခိုးနက္ခတ်နဲ့ယှဉ်ပြီး သားတစ်ယောက် ဖွားမြင်ခဲ့ပါတယ်၊ ဒီကလေးဟာ တစ်မြို့လုံးရဲ့ရန်သူ ဖြစ်မယ့်သူ ဖြစ်ပါတယ်၊ အခုလို လက်နက်တွေကနေ ထူးထူးဆန်းဆန်း အရောင်တွေ လင်းလက်လာတဲ့ အတိတ်နိမိတ်ဆိုတာ ဒီကလေးဟာ ရာဇဂြိုဟ်တစ်မြို့လုံးရဲ့ ရန်သူဖြစ်မယ့် ရှေ့ပြေးပုဗ္ဗနိမိတ် ဖြစ်ပါတယ်၊ ဒါပေမဲ့ အရှင်မင်းကြီးတို့အတွက် အန္တရာယ် မရှိပါဘူး၊ တကယ်လို့ အရှင်မင်းကြီး အလိုရှိခဲ့မယ်ဆိုရင် ဒီကလေးကို ဖယ်ရှားဖျောက်ဖျက်ပေးပါ့မယ်”

“ဆရာ… ငါတို့အတွက် အန္တရာယ်မရှိဘူးဆိုရင် ဖယ်ရှားဖျောက်ဖျက်မနေပါနဲ့”

ပုရောဟိတ်ဆရာကြီးလည်း ‘ငါ့သားဟာ သူ့နာမည်သူ ယူပြီးလာခဲ့တဲ့သူပဲ’လို့ တွေးပြီး သားဖြစ်သူကို ‘သတ္တုက’လို့ နာမည်ပေးခဲ့တယ်။ ‘ရန်သူ’လို့ အဓိပ္ပာယ်ရပါတယ်။ ရာဇဂြိုဟ် သူဌေးအိမ်မှာ မယ်ဘဒ္ဒါ ကြီးပြင်းခဲ့သလို ပုရောဟိတ်ဆရာရဲ့ အိမ်မှာလည်း မောင်သတ္တုကလေး တဖြည်းဖြည်း ကြီးပြင်းလာခဲ့တယ်။ မောင်သတ္တုက သွားနိုင်၊ လာနိုင်၊ ကစားနိုင်တဲ့အရွယ် ရောက်တဲ့အခါ

သူကစားတဲ့အရပ်တိုင်းမှာ တွေ့မြင်တဲ့ ပစ္စည်းဝတ္ထုမှန်သမျှကို ခိုးပြီး အိမ်ယူယူလာခဲ့တယ်။ ဒီအခါ ဖခင်ဖြစ်တဲ့ ပုရောဟိတ်ဆရာကြီးက သားဖြစ်သူကို သူတစ်ပါးပစ္စည်းတွေကို မခိုးဖို့ အမျိုးမျိုးအဖုံဖုံ ကြောင်းကျိုးပြပြီး ဆုံးမတားမြစ်ခဲ့ပါတယ်။ ဒါပေမဲ့ ပုရောဟိတ်ဆရာကြီးဟာ သူ့သားကို မတားမြစ်နိုင်ခဲ့ပါဘူး။

မောင်သတ္တုကအရွယ်ရောက်လာတဲ့အခါ ဖခင်ပုရောဟိတ်ဆရာကြီးဟာ သူ့သားကို မခိုးဖို့ရာ ဖျောင်းဖျပြောဆိုဆုံးမပေမယ့် ဘယ်လိုမှ မတတ်နိုင်တော့မှန်း တဖြည်းဖြည်း သိလာခဲ့တယ်။ ဒီအခါ ပုရောဟိတ်ဆရာကြီးက ပုဆိုးအမည်း နှစ်ထည်၊ အိမ်နံရံတွေ ဖောက်လို့ရမယ့် လက်နက်ကိရိယာနဲ့ ကြိုးလှေကားတွေကို သူ့သားလက်ထဲ ထည့်ပြီး "သင်ဟာ ဒီခိုးမှုနဲ့ပဲ အသက်ရှင် ရပ်တည်ပေတော့"လို့ လက်လျှော့စကား ပြောရင်း သားဆိုးမောင်သတ္တုကကို အိမ်ပေါ်က နှင်ချ စွန့်ပစ်လိုက်ပါတော့တယ်။

## သတ္တုကသူခိုး သောင်းကျန်း

သတ္တုကလူဆိုးလည်း အဲဒီနေ့ကစပြီး ရာဇဂြိုဟ်မှာရှိတဲ့ အိမ်တွေကို အိမ်ခြံစပ်တွေ၊ အိမ်နံရံတွေ ဖောက်ဖျက်ပြီး တစ်အိမ်ပြီး တစ်အိမ် လှည့်ပတ်ခိုးပါတော့တယ်။ သူ မထွင်းဖောက် မခိုးဖူးတဲ့အိမ် ရယ်လို့ကို မရှိတော့ပါဘူး။ အိမ်တိုင်းအိမ်တိုင်းဟာ သတ္တုကသူခိုး ဖောက်ထွင်း ခိုးထားတဲ့အတွက် အပေါက်တွေနဲ့ချည်း ဖြစ်နေပါတော့တယ်။

တစ်နေ့မှာတော့ ရာဇဂြိုဟ်ပြည့်ရှင်မင်းကြီးဟာ ရထားနဲ့ မြို့ကို လှည့်လည် ကြည့်ရှုပါတယ်။ ဒီအခါ အိမ်တိုင်းမှာ အပေါက်တွေ ဖြစ်နေတာကို တွေ့မြင်ပြီး အကျိုးအကြောင်း မေးမြန်းတာကြောင့် သူခိုးသတ္တုက လက်ချက်မှန်း သိသွားခဲ့တယ်။ မင်းကြီးဟာ ချက်ချင်း

ပဲ မြို့ဝန်ကို ‘‘သတ္တုကြ ခိုးသားကို ဒီနေ့ပဲ ရအောင်ဖမ်းနိုင်မှ သင့်အသက်ရှင်မယ်၊ မဖမ်းနိုင်ရင် သင့်ကို မင်းပြစ်မင်းဒဏ် ပေးမယ်’’လို့ အတင်းအကျပ် အမိန့်ထုတ်ခဲ့တယ်။ မြို့ဝန်လည်း ‘‘ကောင်းပါပြီ အရှင်မင်းကြီး’’လို့ ဝန်ခံစကား လျှောက်ထားပြီး တစ်မြို့လုံး စုံထောက်တွေ ချထားလိုက်တယ်။ မကြာခင်မှာပဲ သတ္တုကြခိုးသားကို သက်သေခံပစ္စည်းတွေနဲ့အတူ လက်ပူးလက်ကြပ် ဖမ်းမိခဲ့ပြီး မင်းကြီးထံ အပ်နှံခဲ့ပါတယ်။

ဒီအခါ မင်းကြီးက သတ္တုကြခိုးသားကို မြို့တောင်တံခါးကနေ ထုတ်ပြီး သတ်ဖို့ မြို့ဝန်ကို အမိန့်ပေးလိုက်ပါတယ်။ မြို့ဝန်လည်း မင်းကြီး အမိန့်တော်မှတ်တဲ့အတိုင်း သတ်ဖို့အတွက် သတ္တုကြသူခိုးကို လက်ပြန်ကြိုးတုပ်ပြီး လမ်းဆုံလမ်းခွရောက်တိုင်း ကြိမ်ဒဏ်အချက် တစ်ထောင် တစ်ထောင် ရိုက်နှက်ရင်း မြို့တောင်တံခါးဆီ ခေါ်ဆောင်သွားခဲ့ပါတယ်။

## ဘဒ္ဒါသူဌေးသမီး သတ္တုကြခိုးသားအပေါ် ချစ်စိတ်ဝင်

အဲဒီအချိန်မှာ ဘဒ္ဒါသူဌေးသမီးဟာ လမ်းမပေါ်က လူတွေရဲ့ ဆူညံသံကြောင့် အိမ်အပေါ်ထပ် ပြတင်းပေါက်ကနေ လှမ်းကြည့်လိုက်တယ်။ ဒီအခါ ရိုက်နှက်ဖမ်းဆီးပြီး ခေါ်ဆောင်သွားတဲ့ သတ္တုကြသူခိုးကို မြင်လိုက်တယ်ဆိုရင်ပဲ ဘဒ္ဒါသူဌေးသမီးမှာ သတ္တုကြသူခိုးအပေါ် သနားချစ်မြတ်နိုးတဲ့ မေတ္တာစိတ်တွေ တဖွားဖွား ဖြစ်ပေါ်လာခဲ့တယ်။ နောက်ပြီး လက်နှစ်ဖက်နဲ့ ရင်ဘတ်ကို ဖိနှိပ်ပြီး အိပ်ခန်းထဲ ပြေးဝင်ကာ ခုတင်ပေါ် မှောက်လျက် အိပ်နေတော့တယ်။ တကယ်တော့ ဘဒ္ဒါ သူဌေးသမီးဟာ ဖခင် သူဌေးကြီးနဲ့ မိခင်သူဌေးကတော်ကြီးတို့ရဲ့ တစ်ဦးတည်းသောသမီး ဖြစ်ပါတယ်။ ဒါကြောင့် သူဌေးသမီးရဲ့ ဆွေမျိုးတွေဟာ သူဌေးသမီးမျက်နှာ နည်းနည်းကလေး ပျက်သွားတာကိုပဲ ခြေမကိုင်မိ လက်မကိုင်မိ ဖြစ်ကုန်ကြတယ်။

ဒီအခါ မိခင်သူဌေးကတော်ကြီး ဘဒ္ဒါသူဌေးသမီးထံ ရောက်လာပြီး မှောက်အိပ်နေတဲ့ သမီးကို မြင်လိုက်တာနဲ့ စိတ်ပူပြီး ''သမီး… ဘယ်လို ဖြစ်ရတာလဲ''လို့ မေးခဲ့ပါတယ်။ သူဌေးသမီးလည်း ''အို… မိခင်… ခုနက လမ်းပေါ်မှာ သတ်ဖို့ခေါ်သွားတဲ့ သူခိုးကို မြင်လိုက်တယ်ဟုတ်လား၊ သမီးလေ သူ့ကို မြင်လိုက်တာနဲ့ ချစ်ခင်မြတ်နိုးတဲ့ စိတ်တွေ ဖြစ်လာခဲ့တယ်၊ ဒီတော့ သမီး သူ့ကို ရပါမှ အသက်ရှင်ရပါလိမ့်မယ်၊ မရခဲ့ရင် သမီးအတွက် သေဖို့ပဲ ရှိပါတော့တယ်''လို့ သူမရင်ထဲရှိတဲ့ ခံစားချက်တွေကို မိခင်သူဌေးကတော်ကြီး ကို ပြောပြလိုက်တယ်။

ဒီစကား ကြားရတဲ့အခါ မိခင်သူဌေးကတော်ကြီးနဲ့ ဖခင်သူဌေးကြီးရယ်၊ ဆွေမျိုးသားချင်းတွေရယ် အားလုံးက မသင့်တော်တဲ့ကြောင်း၊ ဂုဏ်ရည်တူ အဆင့်အတန်းတူတဲ့ သူဌေးသားတစ်ယောက်နဲ့ လက်ထပ်ပေးပါမယ့်အကြောင်း ဝိုင်းဝန်းပြီး ဖျောင်းဖျနားချကြတယ်။ ဘယ်လိုပဲ နားချကြပေမယ့် ဘဒ္ဒါသူဌေးသမီးက သတ္တုကသူခိုးကိုမှ မရရင် အသေသာခံတော့မည်ဖြစ်ကြောင်း ပြန်လည်ပြောကြားခဲ့တယ်။ ဘယ်လိုပြောပြော မရတဲ့အဆုံး အားလုံးက 'သြော်… သေသွားတာနဲ့ စာရင် အသက်ရှင်နေတာက တော်ပါသေးတယ်'လို့ပဲ ဆုံးဖြတ်ချက်ချကြရတော့တယ်။

## မိဘမေတ္တာ လွန်ကြီးမား

ဒီနောက်မှာတော့ ဖခင်သူဌေးကြီးဟာ မြို့ဝန်မင်းထံသွားပြီး အသပြာတစ်ထောင်နဲ့ လာဘ်ထိုးလိုက်တယ်။ ပြီးတော့ ''မြို့ဝန်မင်း… အကျွန်ုပ်ရဲ့သမီးဟာ ခိုးသား သတ္တုကအပေါ်မှာ ချစ်ခင်စုံမက်စွဲလမ်းတဲ့စိတ်တွေ ဖြစ်နေပါတယ်၊ ဖြစ်နိုင်တဲ့နည်းလမ်း တစ်ခုခုနဲ့ ခိုးသားသတ္တုကကို လွှတ်ပေးစေချင်ပါတယ်''လို့ တိုးတိုးတိတ်တိတ် ညှိနှိုင်းတောင်းဆိုခဲ့တယ်။ မြို့ဝန်မင်းလည်း သူဌေးကြီးကို ''ကောင်းပါ

ပြီ၊ ဆောင်ရွက်ပေးပါ့မယ်’’လို့ ဝန်ခံကတိပေးခဲ့ပြီး ဟိုကိစ္စဆောင်ရွက်သလို၊ ဒီကိစ္စဆောင်ရွက်သလိုနဲ့ နေဝင်မိုးချုပ်တဲ့အထိ ခိုးသားသတ္တုကကို မသတ်သေးဘဲ အချိန်ဆွဲထားလိုက်တယ်။ ညမှောင်ပြီဆိုမှ ထောင်ထဲက ထောင်သားတစ်ယောက်ကို ထုတ်ပြီး ခိုးသားသတ္တုကနဲ့ လူစားလဲလိုက်တယ်။ ခိုးသားသတ္တုကကို သူဌေးကြီးအိမ် တိတ်တဆိတ် ပို့ခိုင်းပြီး လူစားလဲထားတဲ့ ထောင်သားကိုပဲ ကွပ်မျက်သတ်ဖြတ်လိုက်တယ်။

သူဌေးရဲ့အလုပ်သမားတွေဟာ သတ္တုကခိုးသားကို သူဌေးအိမ်ခေါ်လာပြီး သူဌေးကြီးထံ အပ်နှံခဲ့ကြတယ်။ ဒီအခါ သူဌေးကြီးဟာ ‘ငါ့သမီး စိတ်ချမ်းသာပြီးရော၊ ငါ့သမီး စိတ်အလိုဆန္ဒ ပြည့်ဝအောင် ငါဖြည့်ပေးမယ်’လို့ စိတ်ဆုံးဖြတ်ပြီး သတ္တုကခိုးသားကို နံ့သာရေနဲ့ ရေချိုးစေတယ်။ ပြီးတဲ့အခါ အဝတ်စားအသစ်တွေ ဝတ်ဆင်စေပြီး သမီးရှိတဲ့ အိမ်အပေါ်ထပ်ကို ပို့ပေးလိုက်တယ်။ ဘဒ္ဒါ သူဌေးသမီးလည်း သတ္တုကခိုးသားကို တွေ့လိုက်ရတဲ့အခါ ‘ငါ့လိုအင်ဆန္ဒတွေ ပြည့်ပြီ’ဆိုပြီး အားရဝမ်းသာ ဖြစ်သွားတယ်။ ပြီးတဲ့အခါ သူမကိုယ်ကို အလှဆုံးဖြစ်အောင် ဖြီးလိမ်းပြင်ဆင်ပြီး သတ္တုကခိုးသားကို ယုယကြင်နာစွာနဲ့ လုပ်ကျွေးပြုစုပါတော့တယ်။

သတ္တုကခိုးသားဟာ နှစ်ရက်၊ သုံးရက်လောက်ကြာတဲ့အခါ သူခိုးဗီဇအတိုင်း မကြံသင့်တာ ကြံပါတော့တယ်။ သူဌေးသမီး ခန္ဓာကိုယ်မှာ ဝတ်ဆင်ထားတဲ့ အဖိုးတန်လက်ဝတ်ရတနာတွေကို ခိုးချင်တဲ့စိတ်တွေ ဖြစ်လာခဲ့တယ်။ ဒီအခါ သတ္တုကခိုးသားက ‘‘ရှင်မ… ငါ့မှာ သင့်ကို စကားတစ်ခွန်းလောက် ပြောစရာရှိတယ်’’လို့ သူဌေးသမီးကို ခပ်တည်တည်နဲ့ ပြောလိုက်တယ်။ သူဌေးသမီးလည်း အဖိုးတန် ဆုလာဘ်တွေကို ရလိုက်တဲ့အလား ဝမ်းသာအားရဖြစ်ပြီး ‘‘ရဲရဲဝံ့ဝံ့သာ ပြောပါ အရှင်’’လို့ အထင်တကြီး ပြန်လည်ပြောဆိုခဲ့တယ်။

## သတ္တုကခိုးသားရဲ့ ယုတ်မာတဲ့အကြံ

ဒီအခါ သတ္တုကခိုးသားက သူဌေးသမီးကို ‘‘ဘဒ္ဒါ… သင်ကတော့ ‘ငါ့ကြောင့် ဒီသတ္တုက အသက်ရှင်ခွင့်ရတာ’လို့ ထင်ကောင်းထင်လိမ့်မယ်၊ တကယ်တော့ ငါဟာ အဖမ်းခံရရင် ခံရချင်း စောရပပါတတောင်စောင့်နတ်မင်းကို ‘တကယ်လို့ အကျွန်ုပ်ဟာ အသင်ရှင်ခွင့်ရခဲ့မယ်ဆိုရင် အသင် နတ်မင်းအား ဗလိနတ်စာနဲ့ ပူဇော်ပသပါ့မယ်’လို့ တောင်းပန်တိုးလျှိုးလိုက်တယ်၊ ငါဟာ ဒီတောင်စောင့်နတ်မင်းကို အကြောင်းပြုပြီးမှ အသက်ရှင်ခွင့် ရခဲ့တာ ဖြစ်တယ်၊ ဒါကြောင့် အသင်ဘဒ္ဒါဟာ တောင်စောင့်နတ်မင်းကို ပူဇော်ပသရန်အတွက် အမြန်ပဲ ဗလိနတ်စာပူဇော်ပွဲများကို ပြင်ဆင်ပေးပါ’’လို့ ပြောလိုက်တယ်။

သူဌေးသမီးလည်း ဝမ်းသာအားရနဲ့ ‘ငါဟာ ငါ့အရှင်သခင်လင်ယောကျ်ားရဲ့ စိတ်လိုအင် ဆန္ဒတွေကို အစွမ်းကုန် ဖြည့်ဆည်းပေးမယ်’ဆိုတဲ့ မေတ္တာစိတ်ထားနဲ့ ဗလိနတ်စာပွဲတွေကို ပြင်ဆင်ခိုင်းတယ်၊ ပြီးတော့ လက်ဝတ်ရတနာ ဝတ်ကောင်းစားလှတွေ ဝတ်ဆင်ပြီး သတ္တုကခိုးသားနဲ့အတူ လှည်းယဉ်တစ်စီးနဲ့ စောရပပါတတောင်ဆီ ထွက်ခဲ့ကြတယ်။ ဘဒ္ဒါသူဌေးသမီးလည်း ရိုးသားတဲ့စိတ်နဲ့ပဲ ‘တောင်စောင့်နတ်မင်းကို ပူဇော်မယ်’ဆိုပြီး အဖော်အပေါင်းအသင်းတွေနဲ့အတူ တောင်ပေါ်တက်ဖို့ စီမံခဲ့ပါတယ်။

သတ္တုကခိုးသားကတော့ ‘ဒီလူတွေ အကုန်လုံး တောင်ပေါ်တက်ကြမယ်ဆိုရင် ငါ့အကြံအစည် အောင်မြင်မှာ မဟုတ်ဘူး’လို့ တွေးကြံပြီး ပါလာသူတွေအားလုံးကို တောင်ခြေမှာပဲ နေရစ်စေခဲ့ပါတယ်။ ဘဒ္ဒါသူဌေးသမီးတစ်ယောက်တည်းကိုပဲ ကန်တော့ပွဲ ရွက်ခိုင်းပြီး တောင်ပေါ်ကို နှစ်ယောက်သား တက်ခဲ့ကြတယ်။ တောင်ပေါ်တက်တဲ့ လမ်းတစ်လျှောက် သတ္တုကခိုးသားက သူဌေးသမီးနဲ့

စကားပြောတဲ့အခါ ချစ်ခင်ချိုသာတဲ့စကား တစ်ခွန်းမှ မပြောဘဲ ကြမ်းတမ်းရုန့်ရင်းတဲ့ စကားတွေကိုပဲ ပြောဆိုခဲ့တယ်။ ဘဒ္ဒါသူဌေး သမီးလည်း ပါးနပ်သူဖြစ်တာကြောင့် စကားပြောပုံဆိုပုံ ကြည့်ရုံနဲ့ပဲ သတ္တုကခိုးသားရဲ့ ကောက်ကျစ်တဲ့အကြံကို ကောင်းကောင်း ရိပ်မိခဲ့တယ်။

တောင်ပေါ်ရောက်တဲ့အခါ သတ္တုက ခိုးသားက ဘဒ္ဒါသူဌေး သမီးကို ""ဘဒ္ဒါ... သင့်ရဲ့ အပေါ်ရုံ တဘက်ကို ချွတ်ပြီး သင့်ကိုယ်မှာ ဝတ်ဆင်ထားတဲ့ လက်ဝတ်ရတနာတွေ အကုန်လုံးကို အဲဒီတဘက်ထဲမှာ အထုပ်ထုပ်လိုက်ပါ"" လို့ မိုက်မိုက်ရိုင်းရိုင်း ပြောဆိုခဲ့တယ်။ ဒီအခါ လိမ္မာပါးနပ်တဲ့ သူဌေးသမီးက ""အို... အရှင်... ကျွန်မမှာ ဘာအပြစ် ရှိလို့ပါလဲ"" လို့ အသာအယာ မေးမြန်းလိုက်တယ်။

သူဌေးသမီးက ခုလို သာယာချေင်စွာနဲ့ မေးမြန်းခဲ့ပေမယ့် သတ္တုကခိုးသားဟာ လူဆိုးပီပီ ""ဟယ်... အမိုက်မ၊ ငါဟာ ဗလိနတ်စာ ပူဇော်ဖို့ ထွက်လာတယ်လို့ ထင်နေသလား၊ ငါဟာ တောင်စောင့်နတ်ရဲ့ အသည်းကိုပင် ထုတ်နုတ်ပြီး စားရဲသူဖြစ်တယ်၊ တကယ်တော့ ဗလိနတ်စာ ပူဇော်မယ့်အယောင်နဲ့ သင့်ရဲ့ လက်ဝတ်ရတနာတွေကို လုယူလိုတာ ဖြစ်တယ်၊ ဒါကြောင့် ဒီတောင်ထိပ်အထိ လာရတာ ဖြစ်တယ်"" လို့ ရိုင်းရိုင်းစိုင်းစိုင်းပဲ ပြောဆိုခဲ့တယ်။

## ဘဒ္ဒါရဲ့ လိမ္မာပါးနပ်မှု

ဒီအခါ အလွန် လိမ္မာပါးနပ်တဲ့ ဘဒ္ဒါသူဌေးသမီးက ""အရှင်... ရှင်နဲ့ကျွန်မ အိမ်ထောင်ဖက်တွေ ဖြစ်နေမှတော့ ဒီပစ္စည်းတွေဟာ ရှင့်ပစ္စည်းတွေပဲ မဟုတ်ပါလား၊ ယုတ်စွအဆုံး ကျွန်မရဲ့ ဒီခန္ဓာကိုယ်ကြီးသည်ပင် အရှင်ပိုင် မဟုတ်ပါလား"" လို့ ပြောလိုက်တယ်။ သတ္တုကခိုးသားကတော့ ""အို... ရှင်မ၊ ဒါတွေ ငါတစ်ခုမှ

နားမလည်ဘူး၊ သင့်ဥစ္စာက တခြား၊ ငါ့ဥစ္စာက တခြားဆိုတာပဲ ငါသိတယ်''လို့ ဓောက်တိဓောက်ထိုး စကားပဲ ပြန်ပြောခဲ့တယ်။ ဒီအခါ ဘဒ္ဒါသူဌေးသမီးက ''ကောင်းပါပြီ အရှင်…၊ အထူး တောင်းပန်လိုတာကတော့ ကျွန်မရဲ့ လိုအင်ဆန္ဒလေးတစ်ခုကိုတော့ နောက်ဆုံးအနေနဲ့ ဖြည့်ပေးစေချင်ပါတယ်၊ အဲဒါကတော့ အခု ဝတ်ဆင်ထားတဲ့ ပုံစံအတိုင်း ကျွန်မ ရှင့်လည်ပင်းကို ဖက်ပြီး ရှေ့ဘက် ကနေရော နောက်ဘက်ကနေပါ ယုယကြင်နာခွင့်ပေးပါ''လို့ အလိမ္မာ စကား ပြောကြားလိုက်တယ်။ သတ္တုကခိုးသားလည်း ''ကောင်းပြီ'' ဆိုပြီး လက်ခံလိုက်တယ်။

ဘဒ္ဒါသူဌေးသမီးဟာ သတ္တုကခိုးသားက အခုလို လက်ခံ လိုက်တယ် ဆိုရင်ပဲ အချိန်ဆွဲမနေတော့ဘဲ သတ္တုကခိုးသားရဲ့ လည်ပင်းကို ဖက်ပြီး ရှေ့ဘက်ကနေ ယုယကြင်နာမှုတွေ ပြုလိုက်ပါ တယ်။ နောက်ပြီး နောက်ဘက်ကနေ ယုယကြင်နာမှု ပြုဟန်ဆောင်ပြီး သတ္တုကခိုးသားကို တောင်ချောက်ထဲ တွန်းချလိုက်ပါတော့တယ်။ သတ္တုကခိုးသားလည်း တောင်ထိပ်ပေါ်ကနေ တလိမ့်ခေါက်ကွေး ပြုတ်ကျသွားပြီး တောင်စောင်းတွေနဲ့ တိုက်မိတဲ့အတွက် မြေပြင် မရောက်ခင်မှာပဲ တစ်ပိုင်းတစ်စစီ ဖြစ်ပြီး မရှုမလှ ပျက်စီးခဲ့ရပါ တယ်။

## တောင်စောင့်နတ်မင်း ချီးကျူး

ဘဒ္ဒါသူဌေးသမီး အခုလို ပါးနပ်တဲ့ တခဏုပ္ပတ္တိဉာဏ်ရည်နဲ့ ထူးဆန်းစွာ ပြုလိုက်တဲ့ အပြုအမူကို တွေ့မြင်ရတဲ့ တောင်စောင့် နတ်မင်းက သူဌေးသမီးရဲ့ ဉာဏ်ရည်ပါးနပ်မှုကို ချီးကျူးစကားဆိုတဲ့ အနေနဲ့ ဖော်ပြပါအဓိပ္ပာယ်ရတဲ့ ဂါထာနှစ်ပုဒ်ကို ရွတ်ဆိုခဲ့ပါတယ်။

''နေရာဌာနတိုင်းမှာ ယောကျ်ားတွေချည်းပဲ ဉာဏ်ပညာရှိ နိုင်တာ မဟုတ်၊ အမျိုးသမီးတွေဟာလည်း ဖြစ်ပေါ်တွေ့ကြုံလာတဲ့

ကိစ္စရပ်တိုင်းမှာ အသေအချာ မြော်မြင်စဉ်းစားဆင်ခြင်နိုင်မယ်ဆိုရင် ဉာဏ်ပညာရှိသူ ဖြစ်နိုင်ပါပေတယ်။

နေရာဌာနတိုင်းမှာ ယောကျ်ားတွေချည်းပဲ ဉာဏ်ပညာရှိနိုင်တာ မဟုတ်၊ အမျိုးသမီးတွေလည်း အကျိုးရှိရာရှိကြောင်း နည်းလမ်းကောင်းကို အမြန် ကြံစည်စဉ်းစားနိုင်ရင် ဉာဏ်ပညာရှိသူ ဖြစ်နိုင်ပါပေတယ်”

## တက္ကတွန်းရဟန်းဘဝရောက်

ဒီနောက်မှာတော့ ဘဒ္ဒါသူဌေးသမီးဟာ ‘ငါဟာ ဒီပုံနဲ့တော့ အိမ်ပြန်လို့ မဖြစ်နိုင်တော့ဘူး၊ ဒီတောင်ကနေ ဦးတည့်ရာသွားပြီး လူ့ဘဝကနေ ရဟန်းဘဝတစ်ခုခု ပြောင်းမှဖြစ်တော့မယ်’လို့ စဉ်းစားဆင်ခြင်ဆုံးဖြတ်ပြီး ခြေဦးတည့်ရာ သွားခဲ့တယ်။ ဒါနဲ့ တိတ္ထိတက္ကတွန်းတွေနေတဲ့ ကျောင်းတိုက်တစ်ခုဆီ ရောက်သွားပြီး ရဟန်းပြုပေးဖို့အတွက် တက္ကတွန်းဆရာတွေကို တောင်းပန်ခဲ့တယ်။ ဒီအခါ ဘဒ္ဒါကို တက္ကတွန်းဆရာတွေက “ဘယ်နည်းနဲ့ ရဟန်းဖြစ်ချင်သလဲ၊ အညံ့စားရဟန်း ဖြစ်ချင်တာလား၊ ဒါမှမဟုတ် အမြတ်စားရဟန်း ဖြစ်ချင်တာလား”လို့ မေးမြန်းခဲ့ကြတယ်။ ဘဒ္ဒါသူဌေးသမီးက “အရှင်တို့ရဲ့ သာသနာမှာ အကောင်းဆုံး အမြတ်ဆုံးဆိုတဲ့ ရဟန်းအဖြစ်ကိုပဲ ပြုပေးပါ”လို့ နောက်ဆုံးဘဝရှင်ပီပီ တက္ကတွန်းဆရာတွေကို ပြန်လည်ဖြေကြားခဲ့ပါတယ်။

## ကုဏ္ဍလကေသာ အမည်တွင်လာခဲ့

ဒီအခါ တိတ္ထိတက္ကတွန်းဆရာတွေဟာ ဘဒ္ဒါသူဌေးသမီးရဲ့ ဆံပင်တွေကို ထန်းစေ့နဲ့ နုတ်ပြီး တက္ကတွန်းရဟန်းမ ပြုပေးလိုက်ကြတယ်။ တက္ကတွန်းရဟန်းမဆိုတာ အဝတ်တစ်ထည်ပဲ ဝတ်တဲ့ ရဟန်းမမျိုးဖြစ်ပါတယ်။ အဲဒီတိတ္ထိတက္ကတွန်းတွေရဲ့ အယူဝါဒမှာ ကတ်ကြေး၊

ဓားတွေနဲ့ ဆံပင်ကို ရိတ်ပယ်ပြီး ရဟန်းပြုပေးတာမျိုးကို အညံ့စား ရဟန်းအနေနဲ့ သတ်မှတ်ကြတယ်။ ထန်းစေ့နဲ့ အသားအနာခံကာ ဆံပင်နုတ်ပယ်ပြီး ရဟန်းပြုပေးတာမျိုးကို အမြတ်စားရဟန်းလို့ သတ်မှတ်ကြတယ်။ ဒါကြောင့် အမြတ်စားရဟန်း ဖြစ်စေဖို့အတွက် ထန်းစေ့မှုတ်နဲ့ ဆံပင်တွေ နုတ်ပယ်ပြီး တက္ကတွန်း ရဟန်းမ ပြုပေးတာ ဖြစ်ပါတယ်။ အဲဒီလို အသားအနာခံပြီး ထန်းစေ့နဲ့ ဆံပင်တွေကို နုတ်ပယ်ခဲ့တာကြောင့် ဆံပစ်အသစ်တွေ နောက်ထပ်ပြန်ပေါက်လာတဲ့ အခါ ဟိုတစ်စု ဒီတစ်စုနဲ့ နားတောင်းလို အစုလိုက် အဝိုင်းလိုက်ကလေး တွေ ပေါက်လာခဲ့တယ်။ ဒါကြောင့်ပဲ ဘဒ္ဒါသူဌေးသမီးဟာ အဲဒီ အချိန်ကစပြီး ‘ကုဏ္ဍလကေသာ’လို့ အမည်တွင်ခဲ့တယ်။ ‘နား တောင်းလို အစုလိုက် ဝိုင်းနေတဲ့ ဆံကေသာပိုင်ရှင်’လို့ အဓိပ္ပာယ်ရပါ တယ်။

## ကုဏ္ဍလကေသာ တက္ကတွန်းမ ဝါဒရှင်ဖြစ်လာ

ကုဏ္ဍလကေသာဟာ တက္ကတွန်းရဟန်းမအဖြစ် ခံယူပြီးတဲ့ နောက် တက္ကတွန်းဆရာကြီးတွေထံကနေ ပညာရပ်တွေအားလုံး သင်ယူခဲ့ပါတယ်။ ပါရမီရှင်ဖြစ်တာမို့ ကုဏ္ဍလကေသာဟာ တက္က တွန်း ဆရာကြီးတွေထံမှာ သူလိုချင်တဲ့ အနှစ်သာရပြည့်ဝတဲ့ တရားစစ် တရားမှန် မရှိသေးဘူးဆိုတာ သိနားလည်ခဲ့ပြီး တက္ကတွန်းတွေဆီကနေ ထွက်လာခဲ့ပါတယ်။ ဒီနောက်မှာတော့ မြို့တကာ၊ ရပ်တကာ၊ နယ် တကာ လှည့်လည်ပြီး ပညာရှိဆိုသူတွေထံ ချဉ်းကပ်ရင်း ပညာမျိုးစုံကို သင်ယူခဲ့ပါတယ်။ ဒီအခါ ကုဏ္ဍလကေသာ တက္ကတွန်းမဟာ နယ်ပေါင်းများစွာမှာရှိတဲ့ ပညာရှိတွေထံကနေ ပညာမျိုးစုံ သင်ယူ တတ်မြောက်ခဲ့တာကြောင့် သူမနဲ့ ယှဉ်ပြိုင်ပြီး ဝါဒစစ်ထိုးနိုင်တဲ့သူ မရှိသလောက်ပင် ဖြစ်ခဲ့တယ်။

ကုဏ္ဍလကေသာ တက္ကတွန်းမဟာ ဝါဒရှင်တစ်ယောက်ဖြစ်လာပြီးတဲ့အခါ သူမနဲ့ ဝါဒယှဉ်ပြိုင် စစ်ထိုးနိုင်သူ မတွေ့တာကြောင့် မြို့တကာ၊ ရွာတကာလှည့်လည်ပြီး မြို့အဝင်၊ ရွာအဝင် တံခါးဝအနီးတွေမှာ သဲပုံပြုလုပ်တယ်၊ ပြီးတဲ့အခါ အဲဒီသဲပုံပေါ်မှာ သပြေခက်ကို စိုက်ထူလိုက်ပြီး အနီးအနားမှာရှိတဲ့ ကလေးတွေကို "ငါနဲ့ ဝါဒယှဉ်ပြိုင် ပြစ်တင်ပြောဆိုနိုင်တဲ့သူဟာ ဒီသပြေခက်ကို နင်းခြေဖျက်ဆီးလိုက်ပါ"လို့ အသိပေးပြောဆို မှာထားပါတယ်။ ခုနစ်ရက်ပြည့်လို့မှ ဒီသပြေခက်ကို နင်းခြေဖျက်ဆီးမယ့်သူ ပေါ်မလာဘူးဆိုရင် ကုဏ္ဍလကေသာ တက္ကတွန်းရဟန်းမဟာ အဲဒီသပြေခက်ကို ယူဆောင်ပြီး နောက်တစ်နေရာ ထွက်သွားပါတယ်။

## အရှင်သာရိပုတ္တရာနဲ့ ဝါဒပြိုင်

အဲဒီအချိန်မှာ မြတ်စွာဘုရားရှင်ဟာ သာဝတ္ထိပြည် ဇေတဝန်ကျောင်းတိုက်မှာ သီတင်းသုံး နေတော်မူတဲ့အချိန် ဖြစ်ပါတယ်။ ကုဏ္ဍလကေသာ တက္ကတွန်းရဟန်းမလည်း ဟိုမြို့ ဒီရွာ လျှောက်ပြီး လှည့်လည်ရင်းက သာဝတ္ထိပြည် ရောက်လာခဲ့ပါတယ်။ သူမထုံးစံအတိုင်း မြို့တွင်းဝင်တော့မယ့်အခါ မြို့တံခါးဝအနီးမှာ သဲပုံပြုလုပ်ပြီး သပြေခက်ကို စိုက်ထားလိုက်တယ်။ ပြီးတဲ့အခါ အနားမှာရှိတဲ့ ကလေးတွေကို အရင်ကလိုပဲ သူမနဲ့ ဝါဒယှဉ်ပြိုင်နိုင်တဲ့သူဟာ သပြေခက်ကို နင်းခြေဖျက်ဆီးနိုင်တဲ့ အကြောင်း မှာထားလိုက်တယ်။ ပြီးမှ သာဝတ္ထိမြို့ထဲကို ဝင်သွားခဲ့ပါတယ်။

အဲဒီနေ့မှာ တရားစစ်သူကြီးဖြစ်တော်မူတဲ့ အရှင်သာရိပုတ္တရာမထေရ်မြတ်ကြီးဟာ သံဃာတော်တွေ ဆွမ်းခံကြွသွားပြီးတဲ့နောက် ဇေတဝန်ကျောင်းတိုက်တစ်ခုလုံးမှာရှိတဲ့ လုပ်ဆောင်ဖွယ်ရာ ကိစ္စရပ်တွေကို လုပ်နေကျအတိုင်း လုပ်ကိုင်ဆောင်ရွက်တော်မူပြီး တစ်ပါးတည်း ဆွမ်းခံ ကြွတော်မူခဲ့ပါတယ်။ သာဝတ္ထိမြို့တံခါးဝ ရောက်တဲ့

အခါ သဲပုံပေါ် သပြေခက် စိုက်ထားတာကို တွေ့မြင်တော်မူတာနဲ့ အနားမှာ ရှိတဲ့ ကလေးတွေကို “ဘာလို့ ဒီသပြေခက် စိုက်ထားရတာလဲ”လို့ မေးတော်မူလိုက်ပါတယ်။ ကလေးတွေက ကုဏ္ဍလကေသာ တက္ကတွန်းရဟန်းမ မှာခဲ့တဲ့အတိုင်း အရှင်မြတ်ကြီးကို အကျိုးအကြောင်းစုံအောင် လျှောက်ထားကြပါတယ်။

ဒီအခါ အရှင်မြတ်ကြီးက ကလေးတွေကို “ကလေးတို့... ဒါဖြင့်ရင် အဲဒီသပြေခက်ကို ဆွဲနုတ်ပြီး နင်းခြေဖျက်ဆီးလိုက်ကြ”လို့ မိန့်တော်မူပါတယ်။ ဒီလို အရှင်မြတ်ကြီးက မိန့်လိုက်တဲ့အခါ အချို့ကလေးတွေက ကြောက်တာနဲ့ သပြေခက်ကို မနုတ်ရဲကြပါဘူး။ ဒါပေမဲ့ သတ္တိကောင်းတဲ့ ကလေး တချို့က အရှင်မြတ်ကြီးစကားကြားတာနဲ့ အားတက်ပြီး သပြေခက်ကို မှုန့်မှုန့်ညက်ညက်ဖြစ်အောင် နင်းခြေဖျက်ဆီးလိုက်ကြတယ်။

ကုဏ္ဍလကေသာ တက္ကတွန်းရဟန်းမဟာ သာဝတ္ထိမြို့တွင်း ဆွမ်းခံလှည့်လည်ကာ ဆွမ်းစားပြီးတဲ့နောက် မြို့ပြင်ကို ပြန်ထွက်လာတဲ့အခါ နင်းခြေဖျက်ဆီးထားတဲ့ သူမရဲ့ သပြေခက်ကို တွေ့ခဲ့ပါတယ်။ ပြီးတဲ့အခါ အနားမှာရှိတဲ့ ကလေးတွေကို “ဒါ ဘယ်သူဖျက်ဆီးခဲ့တာလဲ”လို့ မေးလိုက်တယ်။ ဒီအခါ ကလေးတွေက အရှင်သာရိပုတ္တရာမထေရ်မြတ်ကြီးက ဖျက်ဆီးခိုင်းလို့ သူတို့ ဖျက်ဆီးလိုက်တဲ့အကြောင်း ပြောပြကြပါတယ်။

ကလေးတွေ ပြောပြလို့ အကြောင်းစုံ သိလိုက်ရတဲ့အခါ ကုဏ္ဍလကေသာ တက္ကတွန်း ရဟန်းမဟာ အခုလို စဉ်းစားခဲ့တယ်။

‘သြော်... ငါ့အစွမ်းကို မသိတဲ့သူဆိုရင် ဒီသပြေခက်ကို ဖျက်ဆီးခိုင်းဝံ့မှာ မဟုတ်ဘူး၊ အခု သပြေခက်ကို ဖျက်ဆီးခိုင်းဝံ့တာကို ထောက်တော့ ဒီအရှင်မြတ်ကြီးဟာ သာမန်ပုဂ္ဂိုလ် မဟုတ်လောက်ဘူး၊ မုချဧကန် ကြီးမြတ်တဲ့ပုဂ္ဂိုလ်ဖြစ်မှာ သေချာတယ်၊ နောက်ပြီး အဖော်မပါ ငါတစ်ယောက်တည်း သွားခဲ့ရင်လည်း

တင့်တယ်မှာ မဟုတ်လောက်ဘူး၊ ဒီတော့ကာ သာဝတ္ထိမြို့ထဲသွားပြီး ငါနဲ့ အရှင်မြတ်ကြီးတို့ ဝါဒစစ်ထိုးမှာ ဖြစ်တဲ့အကြောင်း မြို့သူမြို့သား တွေကို အသိပေးရရင် ကောင်းမယ်'

ကုဏ္ဍလကေသာဟာ အဲဒီလို စဉ်းစားပြီးနောက် သူမ စဉ်းစားထားတဲ့အတိုင်း သာဝတ္ထိမြို့ထဲ သွားပြီး မြို့သူမြို့သားတွေကို အသိပေး ပြောကြားလိုက်တယ်။ ဒီအခါ အိမ်ခြေ ရှစ်သောင်းရှိတဲ့ သာဝတ္ထိမြို့ထဲ နီးစပ်ရာ ဆင့်ကဲ ဆင့်ကဲ အသိပေးပြောကြားရင်း ဒီအကြောင်းကို အချိန်တိုအတွင်းမှာပဲ သာဝတ္ထိတစ်မြို့လုံး သိရှိသွား ခဲ့ပါတယ်။

အရှင်သာရိပုတ္တရာ မထေရ်မြတ်လည်း ဆွမ်းစားပြီးတဲ့နောက် သစ်ပင်တစ်ပင်ရဲ့အောက်မှာ ကုဏ္ဍလကေသာ လာမှာကို သိတော်မူတဲ့ အတွက် စောင့်ဆိုင်းရင်း ထိုင်နေတော်မူခဲ့ပါတယ်။ အဲဒီအချိန်မှာ ကုဏ္ဍလကေသာ တက္ကတွန်းမဟာ မြို့သူမြို့သားတွေ ခြံရံပြီး မထေရ်မြတ်ကြီးထံ သွားခဲ့ပါတယ်။ အရှင်မြတ်ကြီးထံ ရောက်တဲ့အခါ နှုတ်ဆက်စကား ပြောဆိုလျှောက်ထားပြီး အပြစ်လွတ်တဲ့ နေရာမှာ ရပ်တည်ရင်း အရှင်မြတ်ကြီးနဲ့ အခုလို အပြန်အလှန် စကားပြောဆိုခဲ့ ပါတယ်။

“အရှင်ဘုရား··· အရှင်ဘုရားက တပည့်တော်မရဲ့ သပြေ ခက်ကို ဖျက်ဆီးခိုင်းလိုက်တာ ဟုတ်ပါသလား ဘုရား”

“အေး··· ငါ ခိုင်းတာ ဟုတ်တယ်”

“အရှင်ဘုရား··· ဒါဆိုရင် အရှင်ဘုရားနဲ့ တပည့်တော်မတို့ ဝါဒပြိုင်ပွဲ ဖြစ်သွားပြီနော်”

“ဖြစ်ပါစေ တက္ကတွန်းမလေး”

“ဘယ်သူက အရင်မေးပြီး ဘယ်သူက အရင် ဖြေဆိုပါ မည်လဲ ဘုရား”

"တက္ကတွန်းမလေး… အမေးပုစ္ဆာ ပထမ စမေးရမယ့်တာဝန်က ငါတို့တာဝန် ဖြစ်ပါတယ်၊ ဒါပေမဲ့ သင်တက္ကတွန်းမလေးကပဲ အရင်ဆုံး သိတဲ့ အချက်တွေကို မေးပါ"

ကုဏ္ဍလကေသာဟာ မထေရ်မြတ်ကြီးရဲ့ ခွင့်ပြုချက်အရ သူမ သိသမျှ ဝါဒအားလုံးကို မေးခဲ့ပါတယ်။ မထေရ်မြတ်ကြီးလည်း ကုဏ္ဍလကေသာ မေးတဲ့ မေးခွန်းတိုင်းကို ရှင်းလင်းဖြေကြားတော်မူခဲ့ပါတယ်။ ပြီးတဲ့အခါမှ မထေရ်မြတ်ကြီးက ကုဏ္ဍလကေသာနဲ့ စကားစပြီး အခုလို မိန့်ဆိုတော်မူခဲ့ပါတယ်။

"တက္ကတွန်းမကလေး… သင်ဟာ ငါ့ကို မေးခွန်းတွေအများကြီး မေးပြီးသွားပြီ၊ ငါကလည်း သင်မေးတဲ့ မေးခွန်းတိုင်းကို ရှင်းလင်းဖြေဆိုပြီးသွားပြီ၊ ဒီတော့ အခု ငါကလည်း သင့်ကို မေးခွန်းလေး တစ်ခွန်းလောက် မေးချင်ပါတယ်"

"မေးတော်မူပါ အရှင်ဘုရား…"

"တက္ကတွန်းမကလေး… ဧကံ နာမ ကိံ = ပရိညာသုံးပါးနဲ့ ပိုင်းခြားပြီး သိရမယ့် တရားတစ်မျိုး ဆိုတာ ဘယ်လိုတရားမျိုးပါလဲ"

"တပည့်တော်မ မသိပါ အရှင်ဘုရား"

"တက္ကတွန်းမကလေး… သင်ဟာ ငါတို့သာသနာမှာ ကိုရင်ငယ်လေးများပင် သိနိုင်တဲ့ ဒီမေးခွန်းရဲ့ အဖြေကိုတောင် မသိရင် ကျန်တာ ဘာမှ သိမှာ မဟုတ်ပါဘူး"

အခုလို အရှင်သာရိပုတ္တရာ မထေရ်မြတ်ကြီးက မိန့်တော်မူလိုက်တာနဲ့ပဲ ပါရမီရှင်ဖြစ်တဲ့ ကုဏ္ဍလကေသာဟာ မထေရ်မြတ်ကြီးရဲ့ ခြေတော်ရင်းမှာ ဝပ်စင်းပြီး "အရှင်ဘုရား… တပည့်တော်မဟာ အရှင်ဘုရားကို ကိုးကွယ်ရာအဖြစ် သိမှတ်ဆည်းကပ်ပါတယ်ဘုရား" လို့ လျှောက်ထားပါတော့တယ်။

ဒီအခါ မထေရ်မြတ်ကြီးက "တက္ကတွန်းမကလေး… သင်ဟာ ငါ့ကို ကိုးကွယ်ဆည်းကပ်ရန် မလိုပါ၊ တစ်လောကလုံးထက် အမြတ်ဆုံး ဖြစ်တော်မူတဲ့ မြတ်စွာဘုရားရှင်ဟာ ခုနေအခါ ဇေတဝန်ကျောင်းတိုက်တော်မှာ သီတင်းသုံး စံနေတော်မူလျက် ရှိပါတယ်၊ သင်ဟာ မြတ်စွာဘုရားရှင်ကိုသာ ကိုးကွယ်ရာအဖြစ် အသိမှတ်ပြု ဆည်းကပ်ပါလော့"လို့ မိန့်တော်မူခဲ့ပါတယ်။

ကုဏ္ဍလကေသာဟာ "အရှင်ဘုရား… ကောင်းပါပြီ၊ အရှင်ဘုရား မိန့်တော်မူတဲ့အတိုင်း လိုက်နာ ပြုကျင့်ပါမယ် အရှင်ဘုရား"လို့ လျှောက်ထားပြီး ညနေချမ်းကာလ မြတ်စွာဘုရား တရားဟောတော်မူတဲ့အချိန် မြတ်စွာဘုရားထံ သွားရောက်ခဲ့ပါတယ်။ မြတ်စွာဘုရားထံ ရောက်ရှိပြီး ထိခြင်း ငါးပါးနဲ့ ရှိခိုးဦးချ ကန်တော့ရင်း သင့်တော်တဲ့နေရာမှာ ထိုင်နေလိုက်ပါတယ်။

## ကုဏ္ဍလကေသာ တရားတွေ့ပြီး ရဟန်းဖြစ်

ဒီအခါ မြတ်စွာဘုရားရှင်က ကုဏ္ဍလကေသာကို **"ခန္ဓာ၊ အာယတန၊ ဓာတ်တွေကို အသုဘ၊ အနိစ္စ၊ ဒုက္ခတရားတွေပါလား၊ အနတ္တတရားတွေပါလား"**လို့ ရှုမှတ်ဖို့ရန် ဟောကြားတော်မူခဲ့ပါ တယ်။ ဒီအခါ ကုဏ္ဍလကေသာဟာ မြတ်စွာဘုရား ဟောတော်မူတဲ့ အတိုင်း ရှုမှတ်နှလုံးသွင်းလိုက်တာကြောင့် အဲဒီနေရာမှာပဲ တရားမျက်စိမဂ်ဉာဏ်အလင်း ရခဲ့ပါတယ်။ ပြီးတဲ့အခါ မြတ်စွာဘုရားထံမှာ ရဟန်းပြုခွင့် တောင်းဆိုလိုက်ပါတယ်။ မြတ်စွာဘုရားရှင်ကလည်း ကုဏ္ဍလကေသာကို "ချစ်သမီးဘဒ္ဒါ… လာလော့"လို့ မိန့်တော်မူပြီး ဘိက္ခုနီရဟန်းမအဖြစ် ချီးမြှင့်တော်မူပါတယ်။

## ကုဏ္ဍလကေသာ ရဟန်းမ ခြေဆေးရင်း ရဟန္တာဖြစ်

ကုဏ္ဍလကေသာဟာ သာသနာတော်တွင်း ဘိက္ခုနီရဟန်းမ ဖြစ်ပြီးတဲ့နောက် မကြာခင်မှာ ခြေထောက်ကို ရေနဲ့ ဆေးကြောခဲ့ပါတယ်။ အဲဒီလို ခြေထောက်ကို ရေဆေးရင်းနဲ့ပဲ **အဖြစ်နဲ့ အပျက်ကို သိမြင်ပြီး 'ဒီအတူပဲ ကျန်တဲ့ ရုပ်နာမ်ဓမ္မ သင်္ခါရတရားတွေ အားလုံးလည်း ဒီသဘောပဲ ရှိတာပါလား'** လို့ ကုဏ္ဍလကေသာ ရဟန်းမ သန္တာန်မှာ အသိဉာဏ်တွေ ဖြစ်ပေါ်ခဲ့တယ်။ အဲဒီနောက်မှာတော့ ကုဏ္ဍလကေသာ ရဟန်းမရဲ့စိတ်အစဉ်မှာ အစွဲအလမ်းတွေ မရှိတော့ဘဲ ကိလေသာတွေကနေ လွတ်မြောက်ပြီး ရဟန္တာ ဖြစ်ခဲ့ပါတယ်။

ကုဏ္ဍလကေသာ ထေရီမ အခုလို ရဟန္တာ မြန်မြန်ဖြစ်ခဲ့တာကို အကြောင်းပြုပြီး ရဟန်းတော်တွေဟာ တရားနာတဲ့ ဓမ္မသဘင်မှာ "သြော်… ကုဏ္ဍလကေသာဟာ တရားတွေ အများကြီးလည်း မနာလိုက်ရဘဲနဲ့ ရဟန်းကိစ္စ ပြီးတာ မြန်လိုက်တာ၊ နောက်ပြီး သူမဟာ သူခိုးတစ်ယောက်နဲ့ အကြီးအကျယ် စစ်ခင်းတာ အနိုင်ရပြီးမှ သာသနာ့ဘောင် ရောက်လာတဲ့သူဆိုပါလား" လို့ တီးတိုးစကား ပြောဆိုခဲ့ကြတယ်။ ဒီအကြောင်းကို မြတ်စွာဘုရား သိတော်မူတဲ့အခါ ဖော်ပြပါ အဓိပ္ပာယ်ရတဲ့ နှစ်ဂါထာနဲ့ တရားဟောတော်မူခဲ့ပါတယ်။

"ရဟန်းတို့… ငါဘုရားဟောကြားတဲ့ တရားကို 'နည်းတယ်၊ များတယ်လို့ အမှတ် မထားကြနဲ့၊ အကျိုးမရှိတဲ့ အကြောင်းအရာတွေကို ဂါထာပေါင်း ရာထောင်နဲ့ ဖွဲ့နွဲ့ပြီး ဆိုကြပေမယ့် မမြတ်ပါဘူး၊ တရားရစေနိုင်တဲ့ တရားမျိုးကတော့ တစ်ပုဒ်ပင် ဖြစ်ပါစေ အလွန် အဖိုးတန် အကျိုးရှိ မြင့်မြတ်သည်သာ ဖြစ်တယ်။

ရဟန်းတို့… စစ်သူကြီးတစ်ယောက်ဟာ စစ်သား ရာထောင်သောင်းချီတဲ့ စစ်တပ်ကြီးကို ချေမှုန်းအနိုင်ယူပြီး အောင်ပွဲဆင်နိုင်ပေမယ့် မြတ်သူလို့ မခေါ်နိုင်ပါဘူး၊ မိမိရဲ့ အတွင်း အဇ္ဈတ္တ

သန္တာန်မှာရှိတဲ့ ကိလေသာရန်သူတွေကို အနိုင်တိုက်ပြီး အောင်နိုင်တဲ့သူ ကသာ တကယ့်အောင်နိုင်သူအစစ် ဖြစ်ပါပေတယ်''

ဒီတရားဒေသနာအဆုံးမှာ ပရိသတ်ပေါင်းများစွာ သစ္စာလေးပါး သိမြင်ပြီး တရားထူးတွေ ရခဲ့ကြတယ်။

## (ဃ) ခိပ္ပာဘိညဧတဒဂ်နဲ့ ချီးမြှောက်ခံရ

နောက်ပိုင်းကာလတစ်ချိန် ပရိသတ်လေးပါးကြားမှာ ကုဏ္ဍလကေသာ ထေရီမကြီးနဲ့ ဆက်စပ်ပြီး ''သြော်... ဒီ ဘဒ္ဒါ ကုဏ္ဍလကေသာ ထေရီမကြီးဟာ အလွန်အင်မတန်မှ ကြီးမြတ်ပါပေတယ်၊ ထေရီမကြီးဟာ တရားစကား အနည်းအကျဉ်းပဲ နာရရုံနဲ့ အရဟတ္တဖိုလ်ဆိုက်ပြီး ရဟန္တာဖြစ်တော်မူပါပေတယ်''ဆိုတဲ့ ချီးကျူးစကား ဖြစ်ပွားခဲ့ပါတယ်။

မြတ်စွာဘုရားရှင်လည်း ဒီဖြစ်ရပ်ကို အကြောင်းပြုပြီး ဇေတဝန်ကျောင်းတိုက် ပရိသတ်စုံညီရဲ့ အလယ်မှာ ''မဂ်ဖိုလ်တရားထူးကို လျင်မြန်စွာ သိကြတဲ့ ဘိက္ခုနီရဟန်းမတွေထဲမှာ ကုဏ္ဍလကေသာဟာ အသာဆုံး၊ အမြတ်ဆုံး ဖြစ်ပါပေတယ်''လို့ ချီးကျူးစကား မိန့်ကြားရင်း ကုဏ္ဍလကေသာထေရီမကို 'ခိပ္ပာဘိည ဧတဒဂ်'နဲ့ ချီးမြှောက်တော်မူခဲ့ပါတယ်။

တစ်ခါမှာတော့ ပညာနဲ့ပတ်သက်ပြီး မိလိန္ဒမင်းကြီးနဲ့ အရှင်နာဂသိန်တို့ ဖော်ပြပါအတိုင်း ဆွေးနွေးခဲ့ကြပါတယ်။

''အရှင်ဘုရား... ပညာဟာ အဘယ် လက္ခဏာ ရှိပါသလဲ''

''ဒကာတော် မင်းကြီး... ပညာဟာ ထွန်းပြခြင်း လက္ခဏာ ရှိပါတယ်''

''အရှင်ဘုရား... ဘယ်လို ထွန်းပြခြင်းလက္ခဏာရှိတယ် ဆိုတာ ရှင်းပြပါဦး ဘုရား''

"ဒကာတော် မင်းကြီး... ပညာအလင်းရောင် ဖြစ်လာပြီဆိုရင် အဝိဇ္ဇာအမိုက်မှောင်ကို ဖျက်ဆီးတယ်၊ ဝိဇ္ဇာအရောင်ကို ဖြစ်စေတယ်၊ ဉာဏ်အလင်းကို ထင်ရှားပြတယ်၊ သစ္စာတရားတွေကို ထင်ရှားပြပေးတယ်"

"ထင်ရှားအောင် ဥပမာပြပါဦး ဘုရား"

"ဒကာတော်မင်းကြီး... လူတစ်ယောက်ဟာ မှောင်မိုက်နေတဲ့ အိမ်ခန်းထဲမှာ ဆီမီးထွန်းလိုက်ရင် အဲဒီဆီမီးက အမှောင်ကို ပယ်ခွင်းပေးတယ်၊ အရောင်ကို ဖြစ်စေတယ်၊ အလင်းကို ထင်ရှားပြတယ်၊ မြင်စရာအရာဝတ္ထုတွေကို ထင်ရှားအောင် ပြပေးတယ်၊ ဒီဥပမာအတိုင်းပါပဲ ဒကာတော်"

"အရှင်ဘုရား... ပညာမှာ နောက်ထပ် လက္ခဏာတစ်မျိုး ရှိပါသေးသလား"

"ဒကာတော်မင်းကြီး... ရှိပါသေးတယ်၊ အဲဒါက 'ပညာဟာ ကွဲကွဲပြားပြား သိတတ်တဲ့ လက္ခဏာ'ရှိတယ်ဆိုတာပါပဲ"

"အရှင်ဘုရား... ဒီသဘောလက္ခဏာကို ဥပမာနဲ့ ရှင်းပြပါဦး ဘုရား"

"ဒကာတော် မင်းကြီး... ကျွမ်းကျင်တဲ့ ဆေးဆရာဟာ လူမမာနဲ့ သင့်တော်တဲ့ဓာတ်စာနဲ့ မသင့်တော်တဲ့ဓာတ်စာကို ကွဲကွဲပြားပြား သိသလိုပါပဲ၊ ပညာဟာလည်း ကုသိုလ်နဲ့ အကုသိုလ် ဆိုတာ ကွဲကွဲပြားပြားသိတယ်၊ နောက်ပြီး လုပ်ကောင်းတာနဲ့ မလုပ်ကောင်းတာ၊ အကောင်းနဲ့ အညံ့၊ အဖြူနဲ့အမည်း၊ ကောင်းကျိုးရှိတာနဲ့ မကောင်းကျိုးရှိတာ၊ ဒါတွေကို အကုန်လုံး ကွဲကွဲပြားပြား သိတယ်၊ ပညာဆိုတာ ဒီလို ကွဲကွဲပြားပြား သိတဲ့ သဘောလက္ခဏာရှိတယ် ဒကာတော်"

ကုဏ္ဍလကေသာ ထေရီမကြီးအကြောင်း ကြည့်ညိုရတဲ့အခါ ပညာအလင်းရောင်ကပဲ ထေရီမကြီးရဲ့ ဘဝကို အလင်းပြပေးခဲ့တယ်

လို့ ဆိုရမှာပါ။ အရှင်နာဂသိန်က မိလိန္ဒမင်းကြီးကို ရှင်းပြသလို ပညာအလင်းရောင် ထေရီမသန္တာန်မှာ ဖြစ်ပေါ်လာတဲ့အတွက် ထေရီမကြီးဟာ အမှောင်နဲ့ အလင်း၊ လုပ်ရမှာနဲ့ မလုပ်ရမှာ၊ အဆိုးနဲ့ အကောင်း ခွဲခြားသိမြင်ခဲ့ပါတယ်။ ဒီအခါ နည်းပရိယာယ် ဥပါယ် တံမျဉ်ကို သိနားလည်တဲ့ ဥပါယကောသလ္လ ဉာဏ်အလင်းနဲ့ သတ္တုဂုက ခိုးသားရဲ့ ဘေးရန်ကနေ လွတ်မြောက်ခဲ့ပြီး အပြင်ရန်ကို တွန်းလှန်နိုင် ခဲ့ပါတယ်။

ဒီလို ဉာဏ်အလင်းရောင်ရဲ့ ကျေးဇူးကို သိသွားတဲ့အခါ ထေရီမကြီးဟာ ဉာဏ်အလင်းရောင် ရဖို့အတွက်ပဲ ဦးတည်ချက်ထားပြီး မရမနေ ရှာဖွေခဲ့ပါတော့တယ်။ ကိလေသာဆိုတဲ့ အတွင်းရန်သူက ရှိနေသေးတာကြောင့်ပါ။ ဒီအခါ အရှင်သာရိပုတ္တရာ မထေရ်မြတ်ကြီးရဲ့ ကြီးမြတ်တဲ့ ကရုဏာတော်ကြောင့် ထေရီမဟာ မြတ်စွာဘုရားထံ ချဉ်းကပ်ခွင့်ရခဲ့တယ်။ မြတ်စွာဘုရားရှင်က ထေရီမကြီးကို "ခန္ဓာငါးပါး ရုပ်နာမ်တရားတွေဟာ အနိစ္စ၊ ဒုက္ခ၊ အနတ္တ၊ အသုဘတရားတွေချည်းပဲ" လို့ ဝိပဿနာဉာဏ်အလင်းကို ပြပေးတော်မူပါတယ်။

မြတ်စွာဘုရားပေးတဲ့ ဒီဉာဏ်အလင်းနဲ့ပဲ ကုဏ္ဍလကေသာ ထေရီမကြီးဟာ အချိန်တို တစ်ခဏအတွင်းမှာ ကိလေသာအမိုက်မှောင်တွေကို ပယ်ခွင်းနိုင်ပြီး သစ္စာဉာဏ်အလင်းတွေကို ရရှိခဲ့တယ်။ ဝိပဿနာဉာဏ်အလင်းက ကျေးဇူးပြုပေးတဲ့ မဂ်ဉာဏ်အလင်းနဲ့ပဲ အတွင်းကိလေသာ ရန်သူတွေကို အပြတ်ရှင်းနိုင်ခဲ့တာ ဖြစ်ပါတယ်။

ဒါဆိုရင် ဘဝမှာ အားကိုးရာ အစစ်အမှန်ဆိုတာ ပညာဉာဏ်အလင်းကလွဲလို့ တခြား ဘာများ ရှိပါဦးမလဲလေ။

**ကျမ်းကိုး–**

၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ပထမတွဲ၊ ၂၈၃။

၂။ မဟာဗုဒ္ဓဝင်၊ ဆဋ္ဌတွဲ၊ ဒုတိယပိုင်း၊ ၁၀၆။

၃။ အပဒါန်ပါဠိတော်၊ ၂၊ ၂၄၀။
၄။ အပဒါန်ပါဠိတော်မြန်မာပြန်၊ ၂၊ ၂၃၂။
၅။ ဓမ္မပဒအဋ္ဌကထာ၊ ၁၊ ၄၁၃။
၆။ ထေရီဂါထာပါဠိ၊ ၃၉၁။
၇။ ထေရီဂါထာအဋ္ဌကထာ၊ ၁၀၂။



အတိတ်တာဝတွေကို အမှတ်ရတဲ့အရာ အသာဆုံး

ပုဗ္ဗေနိဝါသာနုဿတိဉာဏလာဘီ တေဂ်ရ

# ဘဒ္ဒါ ကာပိလာနီ ထေရီ

"လောကဉ္စ အပြစ်ကို မြင်၍ ငါတို့ နှစ်ဦးလုံး ရဟန်းပြုကြ ကုန်၏။ ထိုငါတို့သည် ကုန်ပြီးသော အာသဝေါ ရှိကြကုန်၏၊ ယဉ်ကျေးပြီး ဖြစ်ကုန်၏၊ အေးချမ်းသည်ဖြစ်၍ ငြိမ်းအေးကုန်၏"

ဒီစကားက ဘဒ္ဒါကာပိလာနီထေရီမ ရဟန္တာဖြစ်ပြီးတဲ့အခါ ကျူးရင့်ခဲ့တဲ့ ဥဒါန်းစကား ဖြစ်ပါတယ်။ ဘဒ္ဒါကာပိလာနီထေရီ ဆိုတာ ရှုတင်အရာ အသာဆုံး ဧတဒဂ်ရတော်မူတဲ့ အရှင်မဟာ-ကဿပမထေရ်ရဲ့ ဘဝတော်တော်များများမှာ အတူတူပါရမီဖြည့်ခဲ့တဲ့ ပါရမီရှင်ပါ။ အရှင်မဟာကဿပမထေရ်ရဲ့ ဘဒ္ဒါကာပိလာနီထေရီမ တို့ဟာ "သံသာလေ ကမ်းတိုင် လှမ်းလို့တူပြိုင်" ဖြစ်လိုကြသူများ အတွက် အတုယူအားကျစရာကောင်းတဲ့ ပါရမီရှင်စုံတွဲဖြစ်ပါတယ်။

ဒီလို နောက်ဆုံး ရဟန္တာဖြစ်တဲ့ဘဝအထိ အတူတူ ပါရမီ ဖြည့်ချင်ကြတယ်ဆိုရင်တော့ ဇနီးမောင်နှံ နှစ်ယောက်လုံးဟာ တူမျှတဲ့ သဒ္ဓါ၊ တူမျှတဲ့ သီလ၊ တူမျှတဲ့ စာဂ၊ တူမျှတဲ့ ပညာဆိုတဲ့ တရားလေးပါးနဲ့ ပြည့်စုံညီမျှနေဖို့ လိုတဲ့အကြောင်း မြတ်စွာဘုရားက နကုလပိတာ ဒကာကြီးနဲ့ နကုလမာတာ ဒကာမကြီးတို့ကို ဟောတော် မူခဲ့ပါတယ်။

သာသနာ့နယ်ပယ်မှာ ဘဝတော်တော်များများ အချင်းချင်း ဆုံပြီး ပါရမီဖြည့်ဖက်ဖြစ်ခဲ့ကြသူတွေကို စေ့ငုကြည့်မယ်ဆိုရင် မြတ်စွာ ဘုရားရှင်နဲ့ ယသော်ဓရာ၊ အရှင်မဟာကဿပမထေရ်ရဲ့ ဘဒ္ဒါ ကာပိလာနီထေရီမ၊ နကုလပိတာ ဒကာကြီးနဲ့ နကုလမာတာ ဒကာမကြီးတို့ဟာ ထင်ရှားတဲ့ ပါရမီဖြည့်ဖက်များ ဖြစ်ကြပါတယ်။ ဒီလို ဘဝပေါင်းများစွာ ဆုံတွေ့ရပြီး ပါရမီဖြည့်ဖက်တွေ ဖြစ်ကြတယ် ဆိုတာ အထက်မှာ ဖော်ပြခဲ့တဲ့ သဒ္ဓါ၊ သီလ၊ စာဂ၊ ပညာဆိုတဲ့ တရားလေးမျိုးနဲ့ ညီမျှခဲ့ကြလို့ ဖြစ်ပါတယ်။

ခုကြည်ညိုကြမယ့် ဘဒ္ဒါကာပိလာနီထေရီမဟာ ဘဝပေါင်းများစွာမှာ အရှင်မဟာကဿပ မထေရ်မြတ်ကြီးနဲ့အတူ ပါရမီဖြည့်ခဲ့ပြီး အခု နောက်ဆုံးဘဝမှာတော့ အရှင်မြတ်ကြီးရော

ထေရီမကြီးပါ နှစ်ဦးစလုံး ကိလေသာ အာသဝေါတရားတွေ ကင်းကွာပြီး ရဟန္တာဖြစ်ခဲ့လို့ အထက်ပါအတိုင်း ဥဒါန်းကျူးရင့်တာ ဖြစ်ပါတယ်။

ထေရီမကြီး ခုလို ဥဒါန်းကျူးရင့်နိုင်အောင် အရှင်မြတ်ကြီးနဲ့ ဘဝသံသရာမှာ ဘယ်လို ပါရမီတွေ ဖြည့်ခဲ့တယ် ဆိုတာကတော့ အရှင်မဟာကဿပ မထေရ်မြတ်ကြီးရဲ့ အတ္ထုပ္ပတ္တိမှာ အပြည့်အစုံ ဖော်ပြခဲ့ပြီး ဖြစ်ပါတယ်။

ဒါကြောင့် ခု ဒီနေရာမှာ ဒီအကြောင်းကို ထေရီမကြီး အတ္ထုပ္ပတ္တိမှာ အပြည့်အစုံ မဖော်ပြတော့ပါဘူး။ အင်္ဂုတ္တိုရ်အဋ္ဌကထာနဲ့ ထေရီဂါထာအဋ္ဌကထာတွေမှာ အကျဉ်းဖော်ပြထားတဲ့အတိုင်းပဲ ရေးသားတင်ပြပါ့မယ်။

## (က) ထေရီမရဲ့ အမည်နဲ့ ဧတဒဂ်အဓိပ္ပာယ်

ထေရီမရဲ့ အမည်ရင်း 'ဘဒ္ဒါ' ဖြစ်ပါတယ်။ ရွှေရုပ်လေးလို လှပတင့်တယ်ကောင်းမြတ်သူ ဖြစ်တာကြောင့် ဒီအမည်ကို မိဘတွေက ပေးခဲ့တာပါ။ အရွယ်ရောက်တဲ့အခါမှာတော့ အရှင်မဟာကဿပ မထေရ်လောင်း ပိပ္ပလိလုလင်နဲ့ အိမ်ထောင်ကျခဲ့ပါတယ်။ ပိပ္ပလိလုလင်ရဲ့ အဖေနာမည်က 'ကပိလ'လို့ ခေါ်ပါတယ်။ 'ဘဒ္ဒါ'ဟာ အဲဒီ 'ကပိလ'ရဲ့ ချွေးမ ဖြစ်တာမို့ ယောက္ခမဖြစ်သူရဲ့ မျိုးရိုးနာမည် ထည့်ဆက်ပြီး 'ဘဒ္ဒါကာပိလာနီ'လို့ ထင်ရှားလာခဲ့ပါတယ်။

ဘဒ္ဒါကာပိလာနီထေရီမဟာ အတိတ်ဘဝတွေက ဖြစ်ခဲ့တဲ့ ခန္ဓာ့ဖြစ်စဉ်တွေကို ပုဗ္ဗေနိဝါသာနုဿတိအဘိညာဉ်နဲ့ ပြန်ကြည့်တဲ့အခါ အခြားဘိက္ခုနီမတွေထက် သာလွန်သူ ဖြစ်တာကြောင့် 'ပုဗ္ဗေနိဝါသာနုဿတိဧတဒဂ်'ကို ရခဲ့တာပါ။

## (ခ) အတိတ်ဘဝပါရမီနဲ့ ဆုတောင်း
## ပဒုမုတ္တရ မြတ်စွာဘုရားလက်ထက် သူဌေးကတော်ဘဝ

လွန်ခဲ့တဲ့ ကမ္ဘာတစ်သိန်းကာလတုန်းက ပဒုမုတ္တရ မြတ်စွာဘုရား ပွင့်တော်မူခဲ့ပါတယ်။ အဲဒီ ဘုရားရှင်လက်ထက်တော်က ဟံသာဝတီမင်းနေပြည်မှာ ဝိဒေဟသူဌေးဆိုတာ ရှိခဲ့တယ်။ ဘဒ္ဒါကာပိလာနီထေရီမအလောင်း အမျိုးသမီးဟာ အဲဒီတုန်းက ဝိဒေဟသူဌေးကြီးရဲ့ ဇနီး သူဌေးကတော်ကြီး ဖြစ်ခဲ့ပါတယ်။ သူဌေးကတော်ကြီးဟာ မြတ်စွာဘုရားထံ သွားရောက်ပြီး တရားနာတဲ့အခါ မြတ်စွာဘုရားရှင်က ဘိက္ခုနီမတစ်ပါးကို အတိတ်ဘဝတွေကို ပြန်လည်အောက်မေ့နိုင်တဲ့အရာမှာ အသာဆုံး ပုဗ္ဗေနိဝါသာနုဿတိဇတေဒဂ်နဲ့ ချီးမြှင့်တာကို ဖူးတွေ့လိုက်ရပါတယ်။

ဒီအခါ သူဌေးကတော်ကြီးဟာ အားကျကြည်ညိုစိတ်တွေ ဖြစ်လာတဲ့အတွက် ဘုရားအမှူးရှိတဲ့ သံဃာတော်တွေကို ပင့်ဖိတ်ပြီး ကုသိုလ်ကောင်းမှု ပြုလုပ်ပါတယ်။ ကုသိုလ်ပြုပြီးတဲ့အခါ သူအားကျကြည်ညိုတဲ့ ဘိက္ခုနီမလို အနာဂတ်ကာလမှာ အတိတ်ဘဝတွေကို အောက်မေ့နိုင်တဲ့ အဘိညာဉ်အရာ အသာဆုံး ဖြစ်တဲ့ ပုဗ္ဗေနိဝါသာနုဿတိ ဇတေဒဂ်ဘွဲ့ထူးကို ရလိုပါကြောင်း ဆုပန်ဆုတောင်းခဲ့ပါတယ်။ ဒါ့အပြင် တစ်သက်လုံးလည်း ရတနာသုံးပါးကို ဆည်းကပ်ကိုးကွယ်ပြီး ကုသိုလ်ကောင်းမှုတွေ အဆက်မပြတ် ပြုလုပ်ခဲ့တယ်။

## သူကြွယ်ကတော်ဘဝ

ဒီကုသိုလ်တွေကြောင့်ပဲ သူဌေးကတော်ကြီး ကွယ်လွန်တဲ့အခါ ဝိဒေဟသူဌေးနဲ့အတူ နတ်ပြည်မှာ ဖြစ်ခဲ့တယ်။ အဲဒီနောက်မှာတော့ သူဌေးကတော်ကြီးဟာ သူဌေးနဲ့အတူ နတ်ပြည်၊ လူ့ပြည်တွေမှာ

သံသရာကျင်လည်ခဲ့ပြီး ဘဝတစ်ခုမှာတော့ ဗာရာဏသီပြည်မှာ သူကြွယ်တစ်ဦးရဲ့ ဇနီး သူကြွယ်ကတော်ဖြစ်ခဲ့ပါတယ်။ ဖြစ်ချင်တော့ အဲဒီဘဝမှာ သူကြွယ်ကတော်ဟာ သူကြွယ်ရဲ့ ညီမနဲ့ သိပ်အဆင်မပြေ လှပါဘူး။ မကြာခဏဆိုသလို တကျက်ကျက်နဲ့ ရန်ဖြစ်တတ်ပါတယ်။

တစ်နေ့မှာတော့ သူကြွယ်ကတော်နဲ့ ယောက်မဖြစ်သူတို့ စကားများ ရန်ဖြစ်ကြတယ်။ အဲဒီအချိန်မှာ ပစ္စေကဗုဒ္ဓါ အရှင်မြတ် တစ်ပါး ဆွမ်းခံကြွလာပါတယ်။ ဒီအခါ သူကြွယ်ကတော်ရဲ့ ယောက်မ ဖြစ်သူက ပစ္စေကဗုဒ္ဓါအရှင်မြတ်ကို ဆွမ်းလောင်းလှူပါတယ်။ ဆွမ်းလောင်းပြီးတဲ့အခါ "ဘဝဆက်တိုင်း ဒီလို စိတ်ထားမကောင်းတဲ့ သူနဲ့ မဆုံရပါစေနဲ့"လို့ သူကြွယ်ကတော်ကို စောင်းမြောင်းပြီး ဆုတောင်းပါတယ်။ ယောက်မဖြစ်သူ ဆွမ်းလှူပြီး အဲဒီလို ဆုတောင်း တာကို သူကြွယ်ကတော် သိတဲ့အခါ မခံမရပ်နိုင်ဖြစ်ခဲ့တယ်။ ပြီးတဲ့ အခါ ပစ္စေကဗုဒ္ဓါအရှင်မြတ်လက်ထဲက သပိတ်ကို ယူပြီး သွန်ပစ် လိုက်တယ်။ နောက်ပြီး ရွှံ့ညွန်တွေ သပိတ်ထဲ အပြည့်ထည့်ပြီး ပစ္စေကဗုဒ္ဓါထံ ပြန်ကပ်လိုက်ပါတယ်။

ဒီအခါ ဘေးကနေ ကြည့်နေကြတဲ့ လူတွေက "ဟယ် အမိုက်မ... ပစ္စေကဗုဒ္ဓါ အရှင်မြတ်က နင့်ကို ဘာပြစ်မှားလို့ ဒီလို လုပ်ရတာတုံး"လို့ သူကြွယ်ကတော်ကို ဝိုင်းကဲ့ရဲ့ကြတယ်။ ဒီလို ကဲ့ရဲ့တော့ သူကြွယ်ကတော် ရှက်သွားတယ်၊ သံဝေဂလည်း ဖြစ်သွား တယ်။ ပြီးတဲ့အခါ ပစ္စေကဗုဒ္ဓါ အရှင်မြတ်ထံက သပိတ်ကို ပြန်ယူ လိုက်ပြီး ရွှံ့တွေကို သွန်၊ သပိတ်ကို နံ့သာရည်နဲ့ သေချာကျကျနန ပြောင်စင်အောင် ဆေးကြော သန့်စင်လိုက်ပါတယ်။ နောက်ပြီး စတုမဓုဆေး အပြည့်ထည့်ပြီး အဲဒီစတုမဓု အထက်မှာ ဖြူဝင်းနေတဲ့ ထောပတ်တွေကို လောင်းထည့်ပါတယ်။ ပြီးမှ အဲဒီသပိတ်ကို

ပစ္စေကဗုဒ္ဓါအရှင်မြတ်လက်ထဲ ကပ်လှူလိုက်ပါတယ်။ ထူးဆန်းတာက သူကြွယ်ကတော် လောင်းလှူလိုက်တဲ့ ထောပတ်တွေဟာ အရောင်တွေ တလက်လက်ထွက်နေခဲ့တာပါ။ ဒီအခါ သူကြွယ်ကတော်ဟာ "ဒီထောပတ်ဆွမ်းတွေ အရောင်တလက်လက် ထွက်သလို ဘဝဆက်တိုင်း တပည့်တော်မရဲ့ ခန္ဓာကိုယ်ဟာလည်း အရောင်တလက်လက် ထွက်ပါစေ"လို့ ဆုတောင်းမှု ပြုခဲ့ပါတယ်။

## ကဿပဘုရားရှင်လက်ထက် သူဌေးကတော်ဘဝ

အဲဒီဘဝကနေ ကွယ်လွန်တဲ့အခါ သုဂတိဘုံဘဝတွေမှာပဲ သံသရာကျင်လည်ခဲ့ပြီး ကဿပဘုရားရှင်လက်ထက်မှာတော့ ထေရီမလောင်း အမျိုးသမီးဟာ ဗာရာဏသီပြည်က သူဌေးကြီးတစ်ဦးရဲ့ သမီးဖြစ်ခဲ့ပါတယ်။ အဲဒီသူဌေးသမီးဟာ အတိတ်ဘဝက ပြုလုပ်ခဲ့တဲ့ ကုသိုလ်ကံကြောင့် ချောမော လှပတဲ့ သူဌေးသမီး ဖြစ်ခဲ့ပေမယ့် ပစ္စေကဗုဒ္ဓါရဲ့သပိတ်ထဲကို ရွှံ့တွေ ထည့်ခဲ့တဲ့အကုသိုလ်ကံကြောင့် သူဌေးသမီးပါးစပ် ဟလိုက်တာနဲ့ ပါးစပ်ကနေ အပုပ်နံ့တွေ လှိုင်နေခဲ့ပါတယ်။ ပါးစပ်ကနေ အပုပ်နံ့ ထွက်နေတဲ့အတွက်ကြောင့်ပဲ လူတွေက သူဌေးသမီးကို စက်ဆုပ်ရွံရှာခဲ့ကြတယ်။ သူမနဲ့လက်ထပ်မယ်ဆိုတဲ့ သူဌေးသားလည်း နောက်ဆုတ်သွားပြီး သူမကို လက်ထပ်ဖို့ ငြင်းပယ်ခဲ့ပါတယ်။

ဒီအခါ သူဌေးသမီးဟာ သူမရဲ့ မကောင်းတဲ့ အကုသိုလ်ကံဆိုးကျိုးတွေကို ပျောက်ကွယ်စေဖို့ ရည်စူးပြီး သူမရဲ့ လက်ဝတ်ရတနာတွေကို ရွှေအုတ်အဖြစ် စီမံလိုက်တယ်။ အဲဒီ ရွှေအုတ်ကို ကဿပမြတ်စွာဘုရားရဲ့ ဓာတ်တော်တွေ ကိန်းဝပ်တဲ့ စေတီတော်မှာ လှူလိုက်တယ်။ ဒီလိုလှူတဲ့အခါ ရွှေအုတ်ချည်းသက်သက် လှူတာ

မဟုတ်ပါဘူး။ ရွှေအုတ်ပေါ်မှာ ကြာပန်းတွေပါတင်ပြီး လှူခဲ့တာပါ။ ဒီကုသိုလ်ကံကြောင့် သူဌေးသမီးရဲ့ ခံတွင်းက မကောင်းတဲ့အပုပ်နံ့ ထွက်တာတွေ ပျောက်ကွယ်သွားတယ်။ သူမကို ငြင်းပယ်ခဲ့တဲ့ သူဌေးသားကလည်း သူမကို လက်ထပ်ခွင့် ပြန်တောင်းပြီး လက်ထပ် ခဲ့တယ်။ သူဌေးကတော်ဖြစ်လာတဲ့အခါ ခင်ပွန်းဖြစ်သူ သူဌေးကြီးရဲ့ ချစ်မြတ်နိုးမှုကိုလည်း ရခဲ့တယ်။ အဲဒီဘဝမှာ သူဌေးကတော်ဟာ သူဌေးကြီးနဲ့အတူ တစ်သက်လုံး ကောင်းမှုကုသိုလ်တွေ ပြုလုပ်ခဲ့ပြီး ကွယ်လွန်ကြတဲ့အခါ နတ်ပြည်မှာ ဖြစ်ခဲ့ကြတယ်။

## မင်းသမီးဘဝနဲ့ ဈာန်တွေ ရအောင် အားထုတ်ခဲ့

နတ်ပြည်ကနေ စုတေပြီးတဲ့ အခါမှာတော့ ဗာရာဏသီ မင်းကြီးရဲ့ သမီးတော် ဖြစ်ခဲ့ပါတယ်။ အဲဒီ ဘဝမှာ မင်းသမီးဟာ နတ်စည်းစိမ်တမျှ ပြည့်ပြည့်စုံစုံ ချမ်းချမ်းသာသာနဲ့ နေခဲ့ရပြီး နန်းတော်ကို ဆွမ်းခံကြွတော်မူကြတဲ့ ပစ္စေကဗုဒ္ဓါ အရှင်မြတ်တွေ ကိုလည်း မပြတ်ဆွမ်းလောင်းလှူခဲ့ရတယ်။ ကာလကြာလို့ ပစ္စေက ဗုဒ္ဓါ အရှင်မြတ်တွေ ပရိနိဗ္ဗာန်ပြုတော်မူကြတဲ့အခါ မင်းသမီးဟာ သံဝေဂဉာဏ်တွေ ဖြစ်ခဲ့ပြီး ရသေ့ရဟန်းမ ဝတ်ခဲ့တယ်။ ရသေ့ ရဟန်းမဘဝနဲ့ ဈာန်တရားတွေ ရအောင် ကြိုးစား အားထုတ်ခဲ့ပြီး ရသေ့ရဟန်းမဘဝကနေ ကွယ်လွန်တဲ့အခါ ဗြဟ္မာ့ပြည်မှာ ဖြစ်ခဲ့ပါ တယ်။

## (ဂ) ပစ္ဆိမဘဝတွင် နောက်ဆုံးဘဝ ရဟန္တာဖြစ်ပုံ

ဗြဟ္မာ့ပြည်ကနေ စုတေကွယ်လွန်ပြီးတဲ့ အခါအမှာတော့ မဒ္ဒရာဇ်တိုင်း သာဂလမြို့က ပြည့်စုံ ကြွယ်ဝချမ်းသာတဲ့ ကောသိယ

ပုဏ္ဏားမျိုးမှာ ဖြစ်ခဲ့ပါတယ်။ ရုပ်ရည်အဆင်း ချောမောလှပသူ ဖြစ်တာကြောင့် မိဘတွေက သူမကို 'ဘဒ္ဒါ'လို့ အမည်ပေးခဲ့ကြတယ်။ အရွယ်ရောက်တဲ့အခါ အရှင်မဟာကဿပလောင်း ပိပ္ပလိလုလင်နဲ့ အိမ်ထောင်ကျခဲ့ပါတယ်။ ပိပ္ပလိလုလင် ရဟန်းဝတ်သွားတဲ့အခါ ဘဒ္ဒါပုဏ္ဏေးမဟာ ရှိသမျှစည်းစိမ်တွေနဲ့ ဆွေမျိုးတွေကို စွန့်ခွာပြီး သူမလည်း ပရိဗိုဇ်ရဟန်းမ ဝတ်ခဲ့ပါတယ်။ ပရိဗိုဇ်ရဟန်းမဆိုတာ သာသနာပ တိတ္ထိတွေထံမှာ ရဟန်းပြုတဲ့သူကို ဆိုလိုတာပါ။ အဲဒီအချိန်က မြတ်စွာဘုရား သာသနာမှာ အမျိုးသမီးရဟန်းမတွေ မပေါ်ပေါက်သေးပါဘူး။ ဒါကြောင့် ဘဒ္ဒါပုဏ္ဏေးမဟာ သာသနာပ ပရိဗိုဇ်ရဟန်းမအဖြစ် ခံယူခဲ့တာ ဖြစ်ပါတယ်။

နောက် ငါးနှစ်အကြာမှာတော့ မြတ်စွာဘုရားရဲ့ သာသနာတော်မှာ မိထွေးတော်ဂေါတမီရဲ့ ကြိုးစားမှုကြောင့် ဘိက္ခုနီသာသနာ ပေါ်ထွန်းခဲ့ပါတယ်။ ဒီအခါ ဘဒ္ဒါ ပရိဗိုဇ်ရဟန်းမဟာ မိထွေးတော်ဂေါတမီထံ ချဉ်းကပ်ပြီး သာသနာတွင်း ဘိက္ခုနီရဟန်းမ ပြုပေးဖို့ တောင်းပန်ခဲ့ပါတယ်။ မိထွေးတော်ဂေါတမီရဲ့ စောင့်ရှောက်မှုနဲ့ပဲ ဘဒ္ဒါပရိဗိုဇ်မဟာ သာသနာတွင်း ဘိက္ခုနီရဟန်းမ ဖြစ်လာခဲ့ပါတယ်။ 'ဘဒ္ဒါကာပိလာနီထေရီမ'ရယ်လို့လည်း ထင်ရှားလာခဲ့ပါတယ်။

ဘဒ္ဒါကာပိလာနီထေရီမဟာ ရဟန်းဖြစ်ပြီးတဲ့အခါ ဝိပဿနာတရားကို ကြိုးစားအားထုတ်တဲ့အတွက် မကြာခင်မှာပဲ အရဟတ္တဖိုလ်ရရှိပြီး ရဟန္တာ ဖြစ်ခဲ့ပါတယ်။

## (ဃ) ပုဗ္ဗေနိဝါသာနုဿတိ ဉာဏလာဘီတေဒဂ်ရရှိခဲ့

ထေရီမ ရဟန္တာဖြစ်ပြီးတဲ့နောက် ရှေးပါရမီဆုတောင်းအတိုင်း ရှေးကဖြစ်ခဲ့ဖူးတဲ့ ခန္ဓာ့ဖြစ်စဉ်တွေကို အစဉ်အောက်မေ့တဲ့ ပုဗ္ဗေနိဝါသာနုဿတိအဘိညာဉ်အရာမှာ အထူး လေ့လာနိုင်နင်းသူ ဖြစ်ခဲ့ပါတယ်။

ဒါကြောင့်ပဲ မြတ်စွာဘုရားရှင်က သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်က အရိယာသံဃာ့အစည်းအဝေးသဘင်မှာ ဘဒ္ဒါကာပိလာနီထေရီမကို 'အတိတ်က ဖြစ်ခဲ့ဖူးတဲ့ ခန္ဓာ့ဖြစ်စဉ်တွေကို အစဉ်အောက်မေ့နိုင်တဲ့ ပုဗ္ဗေနိဝါသာနုဿတိအဘိညာဉ်အရာမှာ ဘဒ္ဒါကာပိလာနီဟာ အသာဆုံး၊ အမြတ်ဆုံး ဖြစ်ပါပေတယ်' လို့ ချီးကျူးစကား မိန့်ကြားတော်မူပြီး ပုဗ္ဗေနိဝါသာနုဿတိ ဉာဏလာဘီ ဧတဒဂ်နဲ့ ချီးမြှောက်တော်မူခဲ့ပါတယ်။

လောကမှာရှိတဲ့ ဇနီးမောင်နှံ စုံတွဲတွေကို သူတို့ရဲ့ ပြုမူနေထိုင်ကျင့်ကြံပုံကို အခြေခံပြီး သရုပ်ခွဲကြည့်မယ်ဆိုရင် လေးမျိုးရှိတဲ့အကြောင်း မြတ်စွာဘုရားရှင် ဟောတော်မူခဲ့ပါတယ်။ အဲဒီ စုံတွဲလေးမျိုးက –

၁။ သူသေယောကျ်ားနဲ့ သူသေမိန်းမ စုံတွဲ၊

၂။ သူသေယောကျ်ားနဲ့ မယားနတ်သမီး စုံတွဲ၊

၃။ နတ်ယောကျ်ားနဲ့ မယားသူသေ စုံတွဲနဲ့

၄။ နတ်ယောကျ်ားနဲ့ မယားနတ်သမီး စုံတွဲတို့ပဲ ဖြစ်ပါတယ်။

(၁) သူသေယောကျ်ားနဲ့ သူသေမိန်းမစုံတွဲဆိုတာ လင်ကလည်း အကျင့်မကောင်း၊ မယားကလည်း အကျင့်မရှိတဲ့ စုံတွဲမျိုး ဖြစ်ပါတယ်။ အကျင့်မကောင်းဘူးဆိုတာ နှစ်ယောက်လုံး ငါးပါးသီလနဲ့လည်း မပြည့်စုံ၊ ဝန်တိုမှု မစ္ဆရိယစိတ်ထားလည်း အပြည့်ရှိကြပြီး သူတော်ကောင်းတွေကိုလည်း ဆဲရေးတိုင်းထွာ စွပ်စွဲပုတ်ခတ်တတ်တာကို ရည်ညွှန်းတာပါ။ ဒီလိုမျိုးစုံတွဲမှာ ကောင်းတဲ့ဂုဏ်တွေ မတိုးတက်တော့ဘဲ သေသွားတဲ့ အနေမျိုးဖြစ်နေတာကြောင့် သူသေစုံတွဲလို့ ဟောတာ ဖြစ်ပါတယ်။

(၂) သူသေယောက်ျားနဲ့ မယားနတ်သမီးစုံတွဲကတော့ လင်က အကျင့်မကောင်း၊ မယားက အကျင့်ကောင်းတဲ့ စုံတွဲပါ။ လင်က ငါးပါးသီလ ပျက်ယွင်းပြီး မယားက ငါးပါးသီလ ပြည့်စုံတဲ့ စုံတွဲမျိုး ဖြစ်ပါတယ်။

(၃) နတ်ယောက်ျားနဲ့ မယားသူသေစုံတွဲ ဆိုတာကတော့ လင်က အကျင့်ကောင်းပြီး မယားက အကျင့် ပျက်ယွင်းနေတဲ့ စုံတွဲ ဖြစ်ပါတယ်။ လင်က ငါးပါးသီလမြဲ စိတ်ထားကောင်းပြီး မယားက ငါးပါးသီလ မမြဲ စိတ်ထား ယုတ်ညံ့တဲ့သူ ဖြစ်ပါတယ်။

(၄) နတ်ယောက်ျားနဲ့ မယားနတ်သမီးစုံတွဲဆိုတာ လင်ရော မယားပါ အကျင့်ကောင်းတဲ့ သူတော်ကောင်းစုံတွဲ ဖြစ်ပါတယ်။ လင်ကလည်း သီလရှိ စိတ်ထားကောင်းသလို မယားကလည်း သီလ ပြည့်စုံပြီး စိတ်ထားဖြူသူတွေ ဖြစ်ကြပါတယ်။ ဒီလို ဇနီးမောင်နှံ တွေဟာ ကိုယ့်တာဝန်ဝတ္တရားတွေလည်း ကျေပွန်ကြပြီး ကိုယ်ကျင့် သီလတွေလည်း ပြည့်စုံကြတဲ့အတွက် သူတို့ရဲ့ အိမ်ဟာ အမြဲတမ်း ကျက်သရေရှိတဲ့ သီရိဂေဟာ ဖြစ်နေတော့တာပါ။ ဒီလို စုံတွဲမျိုးဟာ နတ်သားနဲ့ နတ်သမီး စုံဖက်ထားတဲ့ အကောင်းဆုံး စုံတွဲမျိုး ဖြစ်ပါ တယ်။

အခုကြည်ညိုခဲ့ကြတဲ့ ဘဒ္ဒါကာပိလာနီထေရီမဟာ အရှင် မဟာကဿပ မထေရ်မြတ်ကြီးနဲ့ ဘဝသံသရာ ကျင်လည်ခဲ့တဲ့အခါ နတ်ယောက်ျားနဲ့ မယားနတ်သမီး စုံတွဲမျိုးနဲ့ အကောင်းဆုံး ပါရမီ တွေ ဖြည့်ခဲ့သူ ဖြစ်ပါတယ်။

ဒီအကြောင်းအရာတွေကို သိရှိကြည်ညိုပြီး စာရှုသူတို့တစ်တွေ လည်း ဘယ်လိုပုံစံမျိုးနဲ့ ပါရမီတွေ ဖြည့်ကြမလဲဆိုတာ ဆန်းစစ်ကြည့် ဖို့ပါ။

**ကျမ်းကိုး –**

၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ပထမတွဲ၊ ၂၈၈။
၂။ မဟာဗုဒ္ဓဝင်၊ ဆဋ္ဌတွဲ၊ ဒုတိယပိုင်း၊ ၁၂၄။
၃။ ထေရီဂါထာပါဠိ၊ ၃၈၇။
၄။ ထေရီဂါထာ အဋ္ဌကထာ၊ ၇၀။
၅။ အပဒါန်ပါဠိတော်၊ ၂။ ၂၅၉။
၆။ အပဒါန်ပါဠိတော်မြန်မာပြန်၊ ၂။ ၂၅၁။



ကြီးကျယ်တဲ့

အဘိညာဉ်ပညာသို့

ရောက်တဲ့အရာ

အသာဆုံး

မဟာဘိညာပတ္တာ

ဧတဒဂ်ရ

**ဘဒ္ဒကစ္စနာ**

**(ယသောဓရာ) ထေရီ**



"ရှင်တော်မြတ်ဘုရား... ဘုရားတပည့်တော် အခု အသက် ၇၈ နှစ်ရှိပါ ပြီ၊ နောက်ဆုံး အရွယ် ရောက်နေပါပြီ၊ အရှင်ဘုရားတို့ကို စွန့်ပြီး ယနေ့ညမှာပဲ ပရိနိဗ္ဗာန်ပြုပါ တော့မည် ဘုရား။

ဒီဘဝမှာရော သံသရာကျင်လည်ခဲ့တဲ့ တစ်လျှောက်မှာပါ အရှင်ဘုရားအပေါ်မှာ တပည့်တော်မရဲ့ ချွတ်ယွင်းချက်တွေ ရှိခဲ့ပါက တပည့်တော်မရဲ့ အပြစ်ကို သည်းခံတော်မူပါ ဘုရား။

ရှင်တော်ဘုရားအနေနဲ့ သဗ္ဗညုတဉာဏ်ရဖို့ရန် ရည်သန်ပြီး ဘဝများစွာ သံသရာမှာ တပည့်တော်မကို တစ်ပါးသူတို့အား လှူခဲ့တဲ့

**အခါတွေမှာလည်း အရှင်ဘုရားအပေါ် စိတ်ကွက်တာ၊ မကျေနပ်တာတွေ မဖြစ်ခဲ့ပါ။**

**ရှင်တော်မြတ်ဘုရား… ဘုရားတပည့်တော်ဟာ ရှင်တော်ဘုရားအတွက် ဘဝများစွာ သံသရာမှာ ဥစ္စာစပါးတွေ၊ ရွာတွေ၊ ဇနပုဒ်တွေ၊ လယ်ယာတွေ၊ သားသမီးတွေ စွန့်လွှတ် လှူဒါန်းခဲ့ပါပြီ။ ရှင်တော်ဘုရားအတွက် စွန့်လွှတ်ခဲ့ရတဲ့ ဆင်မြင်းကျွဲနွားတွေ၊ အလုပ်အကျွေး ကျွန်၊ ကျွန်မတွေဆိုတာ မရေတွက်နိုင်ပါ ဘုရား။**

**အလှူခံပုဂ္ဂိုလ်တွေ အလှူလာခံတဲ့အခါ ဘယ်အရာတွေကို လှူမယ်ဆိုပြီး တပည့်တော်မကို တိုင်ပင်ခဲ့တဲ့အခါတိုင်း တပည့်တော်မဟာ ဒီလို လှူဒါန်းတာနဲ့ပတ်သက်ပြီး နှမြောတွန့်တိုတာ၊ အရှင့်အပေါ်မှာ စိတ်ကွက်တယ်ဆိုတာ တစ်ခါမျှ မဖြစ်ဖူးပါ ဘုရား။**

**ရှင်တော်မြတ်ဘုရား… တပည့်တော်မဟာ ရှင်တော်ဘုရားအတွက် တပည့်တော်မရဲ့ ဘဝတွေကို လှူဒါန်းခဲ့ပါတယ်၊ ထိုတပည့်တော်မမှာ ခုတော့ ရှင်တော်ဘုရားတည်းဟူသော မိတ်ဆွေကောင်းကို ရပြီး မသေရာ အသင်္ခတဓာတ် နိဗ္ဗာန်မြတ်ကို ရခဲ့ပါပြီ ဘုရား။**

**ရှင်တော်မြတ်ဘုရား… တပည့်တော်မမှာ အတိတ်ကံတွေလည်း ကုန်ပါပြီ၊ ပစ္စုပ္ပန်ကံတွေလည်း ကုန်ပါပြီ၊ အနာဂတ်ကံတွေလည်း ကုန်ပါပြီ၊ ကံတွေအားလုံး ကုန်ခဲ့ပါပြီ၊ ယခု နောက်ဆုံးအနေနဲ့ ရှင်တော်ဘုရားရဲ့ ခြေတော်တွေကို ရှိခိုးကန်တော့ပါ၏ ဘုရား"**

ဒီစကားရပ်တွေကတော့ အခုကြည်ညိုကြမယ့် ယသောဓရာထေရီမကြီးရဲ့ ပရိနိဗ္ဗာန်စံခါနီး နောက်ဆုံး လျှောက်ထားချက်တွေထဲက ကြည်ညိုမှတ်သားဖွယ်ရာ ကောက်နုတ်ချက်စကားတွေ ဖြစ်ပါတယ်။

သဗ္ဗညုဘုရားဖြစ်ဖို့ ရည်မှန်းပြီး ပါရမီဖြည့်ကြတဲ့ ဘုရားအလောင်းတော်တွေမှာ ပါရမီဖြည့်ဖက် မိန်းမကောင်းမိန်းမမြတ်မရှိခဲ့ရင် ပါရမီပြည့်ပြီး ဘုရားအဖြစ်သို့ မရောက်နိုင်ဘူးဆိုတာ သိစေ

ချင်လို့ ကောက်နုတ်ဖော်ပြရတာ ဖြစ်ပါတယ်။ မြတ်ဗုဒ္ဓသာသနာ ပေါ်ထွန်းလာရေးမှာ မိန်းမကောင်းမိန်းမမြတ်တွေရဲ့ အခန်းကဏ္ဍ ဘယ်လောက် အရေးကြီးတယ် ဆိုတာလည်း သိစေချင်တာပါ။

ဒါကြောင့် မြန်မာစာပေသမိုင်းမှာ အလွန်ထင်ရှား ကျော်ကြား တော်မူတဲ့ မန်လည်ဆရာတော်ကြီးကလည်း မဃဒေဝလင်္ကာ ပုတ္တောဝါဒခန်း ပိုဒ်ရေ ၃၁၅ မှာ စွန့်လွှတ်စွန့်စား မိန်းမသားတွေရဲ့ တန်ဖိုးကြီးမြတ်ပုံကို အောက်ပါအတိုင်း ရေးဖွဲ့တော်မူခဲ့ပါတယ်။

**'လိမ္မာခွင့်သိ၊ ပညာရှိသား၊ ဓီတိတည်မတ်၊ မိန်းမမြတ်တို့၊ နတ်နှင့်မခြား၊ လင်ယောကျ်ားကို၊ ပျော်ပါးမပြတ်၊ ရွှင်စေတတ်လျက်၊ လေးမြတ်သက်တင်၊ မိမိလင်၏၊ လူတွင်စင်စစ်၊ မိတ်ကြီးဖြစ်၏။**

**တဆစ်ထိုပြီး၊ မြတ်ဇာတိဖြင့်၊ ဇောဓိဆုပန်၊ ယောကျ်ားမွန်တို့၊ ငါးတန် ပရိစ္စာဂ၊ စရိယဥ္၊ တကွ မချွတ်၊ တူကြည်ညွှတ်၍၊ အမြတ်ဝသီ၊ ပါရမီကို၊ ကူညီအားသစ်၊ ဖြည့်ဖက် ဖြစ်၏၊ ဉာဏ်လစ် ယောကျ်ား၊ ရှိခဲ့ငြားသော်၊ ယောကျ်ားတို့ထက်၊ ရတ်တရက်ဉာဏ်၊ ပဋိဘာန်ဖြင့်၊ လျင်မြန်မချွတ်၊ ကြံစည်တတ်၏'**

**'စန္ဒာဘဝ၊ စန္ဒကိန္နရီ၊ ဒေဝီမြတ်ပေါင်း၊ ယသော် လောင်းတို့၊ လင်ကောင်းတို့၌၊ ဘေးဆိုက်သေလု၊ သေမှုရောက်ခါ၊ နှုတ်သစ္စာဖြင့်၊ ချမ်းသာစေကြောင်း၊ ပန်ဆုတောင်း၍၊ ကြံကောင်း ကြံမ၊ ပြုကုန်ကြ၏'**

ဟုတ်ပါတယ်၊ ဘုရားအလောင်းတော်များ ပါရမီဖြည့်တဲ့အခါ စွန့်ခြင်းကြီးငါးပါးကိုလည်း မဖြစ်မနေ ဖြည့်ကျင့်ရပါတယ်။ အဲဒီထဲမှာ 'ဘရိယပရိစ္စာဂ - မယားကို စွန့်လွှတ်လှူဒါန်းခြင်း' ဆိုတာလည်း တစ်ပါး အပါအဝင် ဖြစ်ပါတယ်။ ဒီအချက်ကို မိန်းမကောင်းမိန်းမမြတ် တွေ ပါဝင်ပြီး ဖြည့်ပေးမှ ပြည့်နိုင်တာမျိုးပါ။

ယသောဓရာထေရီမကြီးဟာ ဘုရားအလောင်းတော် ပါရမီ ဖြည့်စဉ်ကာလက အကောင်းဆုံး ပါရမီဖြည့်ဖက် ဖြစ်ခဲ့ပါတယ်။

ဒီလို ဖြည့်ပေးရလို့လည်း ငြိုငြင်တာ၊ စိတ်ပျက်တာတွေ လုံးဝ မဖြစ်ခဲ့ပါဘူးတဲ့။ သြော်··· ထေရီမကြီးရဲ့ ကျေးဇူးဂုဏ်တွေဟာ ဂဏန်းချရေတွက်လို့ မရအောင် ကြီးမြတ်လှပါဘိ။

## (က) ထေရီမနာမည်နဲ့ ဧတဒဂ်အဓိပ္ပာယ်

အခု ကြည်ညိုကြမယ့် ထေရီမကတော့ ဘုရားအလောင်းနဲ့ ဖွားဖက်တော်လည်းဖြစ်၊ ဘုရားလောင်းရဲ့ ကြင်ရာတော်လည်းဖြစ်ခဲ့တဲ့ ယသောဓရာထေရီမကြီး ဖြစ်ပါတယ်။ ထေရီမကြီးရဲ့ ငယ်နာမည်က 'ဘဒ္ဒကစ္စာနာ'ပါ။ 'ကောင်းမြတ်တဲ့မျိုးနွယ်ရှိသူ'လို့ အဓိပ္ပာယ်ရပါတယ်။ တချို့ကတော့ ထေရီမကြီးရဲ့ အသားအရေအဆင်းဟာ ကောင်းမြတ်တဲ့ ရွှေအဆင်းလို ဝင်းလက်တောက်ပနေတာမို့ 'ဘဒ္ဒကဉ္စနာ'လို့လည်း ခေါ်ကြတယ်။ နောက်ပိုင်းမှာတော့ **'ယသောဓရာ'**ဆိုတဲ့ နာမည်က ပိုပြီး ထင်ရှားခဲ့ပါတယ်။ အခြွေအရံများခြင်းဆိုတဲ့ ပရိဝါရယသနဲ့ ကောင်းသတင်း ကျော်စောခြင်းဆိုတဲ့ ကိတ္တိယသ နှစ်မျိုးကို ဆောင်ထားသူ ဖြစ်တာကြောင့် **'ယသောဓရာ'**လို့ အမည်တွင်ခဲ့တာပါ။ မြန်မာတွေကတော့ **'ယသော်ဓရာ'**လို့ အသိများကြပါတယ်။

ဘဒ္ဒကစ္စနာ ယသောဓရာထေရီမကြီး ရတဲ့ ဧတဒဂ်က 'မဟာဘိညာပတ္တဧတဒဂ်' ဖြစ်ပါတယ်။ 'ကြီးမြတ်တဲ့ အဘိညာဏ်ပညာပိုင်းဆိုင်ရာကို ရတဲ့ ဘိက္ခုနီရဟန်းမတွေထဲမှာ အသာဆုံးသူ'လို့ အဓိပ္ပာယ်ရပါတယ်။

တကယ်တော့ ဘုရားတစ်ဆူရဲ့ လက်ထက်မှာ ကြီးကျယ်တဲ့ အဘိညာဏ်ပညာကို ရရှိတဲ့ သာဝကဆိုတာ လေးပါးသာ ပေါ်ထွန်းမြဲဖြစ်ပါတယ်။ ဒီလေးပါးကလွဲလို့ ကျန်တဲ့ သာဝကတွေက ရိုးရိုး အဘိညာဏ်ပညာလောက်သာ ရကြတာပါ။ ဘာလို့လဲဆိုတော့ ကျန်တဲ့ သာဝကတွေက သူတို့ ပါရမီဖြည့်ခဲ့တဲ့ ကမ္ဘာတစ်သိန်းကာလ

လောက်ပဲ အောက်မေ့နိုင်ပြီး ဒီထက်ပိုလွန် မအောက်မေ့နိုင်ကြလို့ပဲ ဖြစ်ပါတယ်။ မဟာအဘိညာဏ်ပညာကို ရကြတဲ့ သာဝကလေးပါးကတော့ ကမ္ဘာတစ်သိန်းထက် ပိုလွန်ပြီး တစ်သင်္ချေနဲ့ ကမ္ဘာတစ်သိန်းအတွင်း ဖြစ်ခဲ့တဲ့ ဖြစ်ရပ်များအထိ အောက်မေ့နိုင်ကြပါတယ်။ ဒီဘုရားသာသနာတော်မှာ မဟာအဘိညာဏ်ပညာကို ရခဲ့ကြတဲ့ သာဝကလေးပါးက အရှင်သာရိပုတ္တရာမထေရ်၊ အရှင်မဟာမောဂ္ဂလာန်မထေရ်၊ အရှင်ဗာကုလမထေရ်နဲ့ ဘဒ္ဒကစ္စနာ ယသောဓရာထေရီမကြီးတို့ ဖြစ်ကြပါတယ်။ ဒါကြောင့်ပဲ ဘဒ္ဒကစ္စနာ ယသောဓရာထေရီမကြီးဟာ 'မဟာဘိညာပတ္တဧတဒဂ်'ကို ရခဲ့တာ ဖြစ်ပါတယ်။

## (ခ) အတိတ်ဘဝ ပါရမီနဲ့ ဆုတောင်း သုမိတ္တာ ပုဏ္ဏားပျိုမလေးဘဝ

လွန်ခဲ့တဲ့ လေးသင်္ချေနဲ့ ကမ္ဘာတစ်သိန်းကာလတုန်းက ဒီပင်္ကရာမြတ်စွာဘုရားရှင် ပွင့်တော်မူခဲ့ပါတယ်။ တစ်နေ့မှာတော့ မြတ်စွာဘုရားရှင်ဟာ ရဟန္တာလေးသိန်း ခြံရံပြီး ရမ္မာဝတီ နေပြည်တော်ကို ကြွတော်မူခဲ့ပါတယ်။ နေပြည်တော် ရောက်တဲ့အခါ သုဒဿနကျောင်းတိုက်ကြီးမှာ သီတင်းသုံးတော်မူခဲ့ပါတယ်။ ဒီအခါ ရမ္မာဝတီပြည်သူပြည်သားတွေဟာ မြတ်စွာဘုရားထံ သွားရောက်ပြီး တရားတော်နာယူခဲ့ကြတယ်။ တရားပွဲပြီးတဲ့အခါ ပြည်သူပြည်သားတွေဟာ မြတ်စွာဘုရားအမှူးပြုတဲ့ သံဃာတော်တွေကို နောက်နေ့ ဆွမ်းစားကြွဖို့ရန် ပင့်လျှောက်ခဲ့ကြတယ်။

နောက်နေ့မှာတော့ တိုင်းသူပြည်သားတွေဟာ ဘုရားအမှူးပြုတဲ့ သံဃာတော်လေးသိန်းကို ဆွမ်းကပ်ဖို့ရန်အတွက် မဏ္ဍပ်ဆောက်သူက ဆောက်၊ လမ်းပြင်သူက ပြင်၊ ဆွမ်းချက်သူက ချက်နဲ့ တာဝန်ကိုယ်စီခွဲပြီး ဆောင်ရွက်နေခဲ့ကြတယ်။ ဒီအခါ ဂေါတမမြတ်စွာဘုရား

အလောင်း သုမေဓာ ရှင်ရသေ့ဟာ ကောင်းကင်ခရီး ဈာန်ယာဉ်စီးပြီး ကြွရင်းက ရမ္မာဝတီ ပြည်သူပြည်သားတွေ စုပေါင်းလမ်းပြင်နေတာကို မြင်ခဲ့တာမို့ အကြောင်းရင်းကိစ္စ သိချင်တာနဲ့ မြေပြင်ကို သက်ဆင်းခဲ့တယ်။ ပြီးတဲ့အခါ ပြည်သူပြည်သားတွေထံ သွားပြီး လမ်းပြင်ရတဲ့ အကြောင်းရင်းကို မေးမြန်းလိုက်တယ်။ ဒီအခါ ပြည်သူပြည်သားတွေ က လောကမှာ ဒီပင်္ကရာ မြတ်စွာဘုရား ပွင့်ထွန်းနေပြီ ဖြစ်တဲ့ အကြောင်း၊ ဒီနေ့ မြတ်စွာဘုရား ဆွမ်းစားကြွတော်မူမှာဖြစ်ကြောင်း၊ ဒါကြောင့် လမ်းပြင်နေတာ ဖြစ်ကြောင်း ရှင်းပြခဲ့ကြတယ်။

ဘုရားပွင့်နေပြီဖြစ်တဲ့ အကြောင်းကို သိလိုက်ရတဲ့အခါ သုမေဓာရှင်ရသေ့ဟာ အလွန် ဝမ်းမြောက်ဝမ်းသာဖြစ်ခဲ့ပြီး သူလည်း လမ်းတစ်နေရာစာ ကုသိုလ်ယူ ပြင်ဆင်ပါရစေလို့ ပြည်သူပြည်သား တွေကို တောင်းပန်ပြောဆိုခဲ့ပါတယ်။ ဒီအခါ ပြည်သူပြည်သားတွေက တန်ခိုးကြီးတဲ့ သုမေဓာရှင်ရသေ့ကို ပြင်ဖို့ ခက်ခဲတဲ့ ရွှံ့ဗွက်အိုင် နေရာကို ပြင်ပေးဖို့ ပြောဆိုခဲ့ကြတယ်။ သုမေဓာရှင်ရသေ့ဟာ တန်ခိုးနဲ့ ဒီရွှံ့ဗွက်အိုင်နေရာကို ပြုပြင်လိုက်ရင် တစ်ခဏချင်း ပြီးနိုင် တယ်ဆိုတာ သိပေမယ့် တန်ခိုးနဲ့ ပြင်တာဟာ ပကတိ ကိုယ်အားနဲ့ ပြုပြင်တာလောက် စိတ်ကို နှစ်သက်ကြည်နူးမှု ဖြစ်စေနိုင်မှာ မဟုတ် ဘူးလို့ စဉ်းစားမိတဲ့အတွက် ပကတိကိုယ်အားနဲ့ပဲ လမ်းကို ပြုပြင်ခဲ့ ပါတယ်။ အဝေးကနေ မြေကြီးတွေကို သယ်ယူပြီး ရွှံ့ဗွက်အိုင်ကြီးကို ဖို့ခဲ့ပါတယ်။

ဘုရားလောင်း သုမေဓာရှင်ရသေ့ လမ်းပြင်လို့ မပြီးခင်မှာပဲ ဒီပင်္ကရာမြတ်စွာဘုရားရှင်ဟာ သံဃာတော်လေးသိန်း ခြံရံပြီး ကြွတော်မူလာခဲ့ပါတယ်။ ဒီအခါ သုမေဓာရှင်ရသေ့ဟာ 'ဘုရား အမျှူးပြုတဲ့ သံဃာတော်တွေ ရွှံ့ဗွက်အိုင်ထဲ နင်းကြွတော်မူရရင် မသင့် တော်ပါဘူး၊ ငါ့အသက်စွန့်ပြီး ငါ့ခန္ဓာကိုယ်ကို တံတားသဖွယ်ခင်းပြီး လှူမယ်' လို့ ဆုံးဖြတ်ချက်ချပြီး ရွှံ့ဗွက်အိုင်ထဲမှာ သူ့ရဲ့ခန္ဓာကိုယ်ကို

အလျားမှောက်ခုံ ဝပ်စင်းပေးခဲ့ပါတယ်။ ဒီလို ရွှံ့ဗွက်အိုင်ထဲမှာ ဝပ်စင်းနေတဲ့အခါ သုမေဓာရှင်ရသေ့မှာ 'ငါဟာ အခု ကြွတော်မူလာမယ့် ဒီပင်္ကရာမြတ်စွာဘုရားလို သဗ္ဗညုဘုရားအဖြစ်သို့ ရောက်ပြီး ဝေနေယျ သတ္တဝါတွေကို သံသရာဝဋ်ဆင်းရဲကနေ ကယ်တင်မယ်'ဆိုတဲ့ ဘုရားဖြစ်ချင်တဲ့ စိတ်ဆန္ဒတွေ အဆက်မပြတ် ဖြစ်နေခဲ့ပါတယ်။

အဲဒီလို သုမေဓာရှင်ရသေ့ ဘုရားဖြစ်ဖို့ စိတ်အကြံတွေ ဖြစ်နေတဲ့ အခိုက်မှာပဲ ယသောဓရာထေရီမအလောင်း သုမိတ္တာ ပုဏ္ဏေးပျိုမလေးဟာ မြတ်စွာဘုရားကို ကြိုဆိုနေကြတဲ့ လူအုပ်ကြီးထဲ ရောက်လာခဲ့တယ်။ လက်ထဲမှာလည်း မြတ်စွာဘုရားကို ပူဇော်ဖို့ ကြာပန်းရှစ်ခိုင် ယူလာခဲ့တယ်။ သုမိတ္တာ ပုဏ္ဏေးမလေး ပရိသတ် အလယ် ရောက်လာပြီး ဘုရားလောင်း သုမေဓာရှင်ရသေ့ကို မြင်လိုက်ရတဲ့အခါ မြင်မြင်ချင်း သုမေဓာရှင်ရသေ့အပေါ် ချစ်ခင်မြတ်နိုးတဲ့ မေတ္တာဓာတ်တွေ ဖြစ်လာခဲ့တယ်။ ဒီအခါ သုမိတ္တာပုဏ္ဏေးမလေးဟာ သုမေဓာရှင်ရသေ့ကို လှူဒါန်းဖို့ အခြား လှူဖွယ် ပစ္စည်းလည်း ပါမလာတာနဲ့ ဒီပင်္ကရာ မြတ်စွာဘုရားကို ပူဇော်ဖို့ ယူလာတဲ့ ကြာပန်းရှစ်ခိုင်ထဲက ငါးခိုင်ကို အခုလို ပြောပြီး လှူဒါန်းခဲ့ပါတယ်။

"အရှင်ရသေ့... မြတ်စွာဘုရားအား အရှင် အလိုရှိသလို လှူဒါန်းဖို့ ဒီကြာပန်း ငါးခိုင်ကို အရှင့်အား လှူဒါန်းပါတယ်၊ ကျန်တဲ့ ကြာပန်းသုံးခိုင်ကတော့ အကျွန်ုပ် လှူဒါန်းဖို့ ဖြစ်ပါစေ"

သုမိတ္တာ ပုဏ္ဏေးမလေးဟာ ဘုရားလောင်း သုမေဓာရှင်ရသေ့ကို အခုလို ကြာပန်းငါးခိုင် လှူဒါန်းပြီးတဲ့နောက်မှာ -

"အရှင်ရသေ့... အရှင်ဟာ ဘုရားဖြစ်ဖို့ရန် ပါရမီတော်တွေကို ဖြည့်ကျင့်နေသမျှ အချိန်ကာလအတွင်းမှာ အကျွန်ုပ်ဟာ အရှင်နဲ့အတူတကွ ညီမျှတဲ့သူတို့ ဖြစ်ကြရပါစေကုန်သတည်း"

လို့လည်း နှုတ်က ရွတ်ဆိုပြီး ဆုပန်ဆုတောင်းခဲ့ပါတယ်။

## ဒီပင်္ကရာမြတ်စွာဘုရားရှင်ရဲ့ ဗျာဒိတ်တော်

အလောင်းတော် သုမေဓာရှင်ရသေ့လည်း ပရိသတ်တွေရဲ့ အလယ်မှာပဲ သုမိတ္တာ ပုဏ္ဏေးပျိုမ လှူဒါန်းတဲ့ ကြာပန်း ငါးခိုင်ကို ခံယူပြီး ဒီပင်္ကရာမြတ်စွာဘုရားကို ဆက်ကပ်လှူဒါန်းလိုက်ပါတယ်။ ''သမ္မာသမ္ဗောဓိဉာဏ်ကို ရရှိပြီး သဗ္ဗညုဗုဒ္ဓ ဖြစ်ရပါစေသား'' လို့လည်း ဘုရားဆုပန်ခဲ့ပါတယ်။

ဒီအခါ ဒီပင်္ကရာ မြတ်စွာဘုရားရှင်က ပရိသတ်တွေရဲ့ အလယ်မှာပဲ –

''သုမေဓာခေါ်မှတ် ရသေ့မြတ်… ဒီ သုမိတ္တာ အမျိုးသမီး လေးဟာ သင်ဘုရားဖြစ်ဖို့အတွက် စိတ်တူ၊ကံတူ အညီအမျှ ပြုလုပ် သူ၊ ကိုယ်နှုတ်နှလုံး သုံးမျိုးလုံးနဲ့ ချစ်ခင်နှစ်သက်အပ်တဲ့သူ ဖြစ်ပေ လိမ့်မယ်၊ နောက်ပြီး ဒီအမျိုးသမီးလေးဟာ အလွန် ရှုချင်စဖွယ် တင့်တယ် လှပတဲ့သူ၊ ချစ်ခင်နှစ်လိုဖွယ်ရှိတဲ့သူ၊ စိတ်နှလုံးကို ပွားစေ တဲ့သူ၊ ချစ်ဖွယ်စကား ပြောကြားတတ်သူ ဖြစ်ပေလိမ့်မယ်၊ နောက်ဆုံး ဘဝ အသင်ရဲ့ သာသနာတော်မှာ လောကုတ္တရာ တရားအမွေ အရဟတ္တဖိုလ်တိုင်အောင် ရရှိပြီး တန်ခိုးဣဒ္ဓိပါဒ်နဲ့ ပြည့်စုံတဲ့ သာဝိကာမ ဖြစ်ပေလိမ့်မယ်''

စသဖြင့် ဗျာဒိတ်စကား မိန့်ကြားတော်မူခဲ့ပါတယ်။

သုမိတ္တာ ပုဏ္ဏေးပျိုမလေးဟာ ဒီပင်္ကရာမြတ်စွာဘုရားရှင်ရဲ့ ဗျာဒိတ်စကား ကြားရပြီးတဲ့နောက် မြတ်စွာဘုရားအပေါ်မှာ ကြည်ညို သဒ္ဓါစိတ်တွေ ပိုပြီး ဖြစ်ခဲ့တယ်။ ကုသိုလ်ကောင်းမှုတွေလည်း များစွာ ပြုလုပ်ခဲ့တယ်။ အဲဒီ ကုသိုလ်ကံတွေရဲ့ အစွမ်းကြောင့် လူ့ပြည်၊ နတ်ပြည်တွေမှာ လူ့စည်းစိမ်၊ နတ်စည်းစိမ် အကြိမ်ကြိမ် ခံစားခဲ့ရင်း သံသရာကျင်လည်ခဲ့ရတယ်။

## ပဒုမုတ္တရဘုရားရှင်လက်ထက် အမျိုးကောင်းသမီးဘဝ

လွန်ခဲ့တဲ့ ကမ္ဘာတစ်သိန်းကာလ ပဒုမုတ္တရ မြတ်စွာဘုရားရှင် ပွင့်တော်မူတဲ့အခါမှာတော့ ထေရီမအလောင်းဟာ ဟံသာဝတီမင်း နေပြည်မှာ အမျိုးကောင်းသမီး ဖြစ်ခဲ့တယ်။ အဲဒီ အမျိုးကောင်းသမီး ဟာ တစ်ချိန်မှာ မြတ်စွာဘုရားထံ သွားရောက်ပြီး တရားတော် နာယူခဲ့ပါတယ်။ ဒီအခါ မြတ်စွာဘုရားက ဘိက္ခုနီရဟန်းမတစ်ပါးကို ကြီးကျယ်တဲ့ အဘိညာဏ်ပညာသို့ ရောက်တဲ့အရာ အသာဆုံး ဖြစ်တဲ့ 'မဟာဘိညာပတ္တဧတဒဂ်' ဘွဲ့ထူးနဲ့ ချီးမြှောက်တာကို ဖူးမြင်ခဲ့ရ ပါတယ်။ အဲဒီလို ဖူးမြင်ရတာကြောင့် အမျိုးကောင်းသမီးဟာ ဝမ်းသာအားရ အားကျတဲ့စိတ်ဖြစ်ပေါ်ခဲ့ပြီး ကုသိုလ်ကောင်းမှု အကြီး အကျယ် ပြုလုပ်ခဲ့တယ်။ ပြီးတဲ့အခါ အဲဒီ 'မဟာဘိညာပတ္တ ဧတဒဂ်' မျိုး ရရှိပြီး ကျွတ်တမ်းဝင်ရပါလိုကြောင်း ဆုပန်ဆုတောင်းခဲ့ ပါတယ်။

## (ဂ) ပစ္ဆိမဘဝတ္ထု နောက်ဆုံးဘဝဇာတ်ကြောင်း

ထေရီမလောင်း အမျိုးကောင်းသမီးဟာ ကမ္ဘာတစ်သိန်း ကာလပတ်လုံး နတ်ပြည်၊ လူ့ပြည်တွေမှာ ကျင်လည်ခဲ့ပြီး ဒီနောက်ဆုံး ဘဝ ရောက်တဲ့ အခါမှာတော့ ဒေဝဒဟပြည်မှာ ဘုရင့်သမီးတော် ဖြစ်လာခဲ့ပါတယ်။ ဖခင်က ဘိုးတော်အဉ္စနမင်းကြီးရဲ့သား သုပ္ပဗုဒ္ဓ သာကီဝင်မင်းဖြစ်ပြီး မယ်တော်က သုဒ္ဓေါဒနမင်းကြီးရဲ့ နှမတော် အမိတ္တာမင်းသမီး ဖြစ်ပါတယ်။ ဘုရင့်သမီးတော်လေးရဲ့ နာမည်ကို မိဘဆွေမျိုးတွေက 'ဘဒ္ဒကစ္စနာ' လို့ မှည့်ခေါ်ခဲ့ကြတယ်။ သမီးတော်လေးရဲ့ ကိုယ်ရေအဆင်းက အလွန်ကောင်းမြတ်တဲ့ ရွှေလို ဝါဝင်းတဲ့အဆင်း ရှိတာမို့ 'ဘဒ္ဒကဉ္စနာ' လို့လည်း ခေါ်ခဲ့ကြတယ်။ နောက်ပိုင်းမှာတော့ များမြတ်တဲ့ အခြံအရံနဲ့ ကောင်းသတင်း

ကျော်စောဂုဏ်တွေကို ဆောင်ထားနိုင်သူ ဖြစ်တာကြောင့် 'ယသော ဓရာ' ဆိုတဲ့ အမည်ကပဲ ပိုထင်ရှားခဲ့ပါတယ်။

## ယသောဓရာဒေဝီရဲ့ အလှ

ယသောဓရာ မင်းသမီး အရွယ်ရောက်တဲ့အခါ ဘုရား အလောင်းတော် သိဒ္ဓတ္ထမင်းသားရဲ့ မိဖုရားကြီး ဖြစ်လာခဲ့ပါတယ်။ ယသောဓရာဒေဝီ မိဖုရားကြီးဟာ ဘုရားလောင်းရဲ့ ဖွားဖက်တော် ခုနစ်ဦးထဲမှာ တစ်ဦးအပါအဝင် ဖြစ်ပါတယ်။ ရုပ်ရည်အဆင်းအနေနဲ့ ဇမ္ဗူရာရွှေသားကို သွန်းထုထားသလို ရှုမငြီးဖွယ် တင့်တယ်တဲ့ ရွှေ အဆင်း ရှိတယ်။ ကြော့ရှင်းတင့်တယ်တဲ့ ကိုယ်လုံး ကိုယ်ဟန်လည်း ရှိတယ်။ ဒေဝစ္ဆရာ နတ်သမီးတွေလို ခုနစ်ဆောင်တိုက်ခန်း မီးထွန်း စရာ မလိုဘဲ အမြဲတမ်း လင်းလက်နေတဲ့ ကိုယ်ရောင်ကိုယ်ဝါတွေနဲ့ လည်း ပြည့်စုံတယ်။

အရိုးရဲ့ကောင်းခြင်း၊ အရေရဲ့ကောင်းခြင်း၊ ဆံပင်ရဲ့ကောင်း ခြင်း၊ အသားအရောင်ရဲ့ ကောင်းခြင်း၊ အရွယ်ရဲ့ကောင်းခြင်းဆိုတဲ့ မိန်းမမြတ်တို့ရဲ့ ကြန်အင်လက္ခဏာ ကောင်းခြင်းငါးဖြာနဲ့လည်း ပြည့်စုံတယ်။ မည်းလွန်းခြင်း၊ ဖြူလွန်းခြင်း၊ ဆူလွန်းခြင်း၊ (ဝလွန်း)ခြင်း၊ ကြုံလွန်း(ပိန်လွန်း)ခြင်း၊ နိမ့်လွန်းခြင်း၊ မြင့်လွန်းခြင်းဆိုတဲ့ အပြစ် ခြောက်မျိုး ကင်းစင်ပြီး ရှုချင်စဖွယ် ကောင်းမြတ် တင့်တယ်တဲ့ ကိုယ်ခန္ဓာလည်း ရှိတယ်။ ကိုယ်ခန္ဓာကနေ စန္ဒကူးနံ့သာရနံ့တွေ အမြဲတမ်း သင်းကြိုင်နေတယ်။ နီရဲနေတဲ့ ခံတွင်းကနေလည်း ကြာညို ရနံ့တွေ အမြဲတမ်း သင်းပျံ့နေတယ်။ ဒီလိုအလှတွေ၊ ကောင်းခြင်းတွေ နဲ့ ပြည့်စုံနေတဲ့ ယသောဓရာဒေဝီဆိုတာ လေးကျွန်းသနင်း စက္ကဝတေး မင်းတွေ သိမ်းပိုက် သုံးဆောင်ထိုက်တဲ့ မိန်းမမြတ်ရတနာ တစ်ပါး ဖြစ်ပါတယ်။

နောက်ပိုင်းကာလ တစ်ချိန်မှာတော့ ယသောဓရာ မိဖုရားကြီးဟာ သားတော်ရာဟုလာ မင်းသားလေးကို ဖွားမြင်ခဲ့ပါတယ်။ သားတော်ရာဟုလာ မင်းသားလေး ဖွားမြင်တဲ့နေ့မှာပဲ အလောင်းတော်သိဒ္ဓတ္ထမင်းသား တောထွက်တော်မူခဲ့ပြီး ခြောက်နှစ်ကြာတဲ့အခါ သဗ္ဗညုဘုရားရှင်အဖြစ်သို့ ရောက်တော်မူခဲ့ပါတယ်။

## မြတ်စွာဘုရား ကပိလဝတ်နေပြည်တော်သို့ ကြွတော်မူ

မြတ်စွာဘုရားရှင် ဘုရားဖြစ်တော်မူပြီး ဆယ်လအကြာ တပေါင်းလပြည့်ကျော် ၁-ရက်နေ့မှာ ရာဇဂြိုဟ်ပြည်ကနေ ယူဇနာခြောက်ဆယ် ဝေးကွာတဲ့ မွေးရပ်မြေ ကပိလဝတ်ပြည်ကို ရဟန္တာနှစ်သောင်းနဲ့အတူ တစ်နေ့ တစ်ယူဇနာနှုန်းနဲ့ ကြွတော်မူခဲ့ပါတယ်။ ခရီးကြွလို့ နှစ်လပြည့်တဲ့ ကဆုန်လပြည့်ကျော် ၁-ရက်နေ့မှာ ကပိလဝတ်နေပြည်တော်ကို ဆိုက်ရောက်တော်မူခဲ့ပါတယ်။

ကပိလဝတ်ရောက်ပြီးလို့ နောက်တစ်နေ့ မနက်မှာ မြတ်စွာဘုရားအမှူးပြုတဲ့ ရဟန္တာပေါင်း နှစ်သောင်းဟာ ကပိလဝတ်မြို့ထဲ ဆွမ်းခံကြွတော်မူခဲ့ပါတယ်။ ခမည်းတော် သုဒ္ဓေါဒနမင်းကြီးက သားဘုရားရှင်ဟာ နန်းတော်ကို ကြွပြီး ဆွမ်းဘုဉ်းပေးမှာပဲလို့ အောက်မေ့ပြီး ဘုရားအမှူးပြုတဲ့ သံဃာတော်တွေကို နန်းတော်ကို ဆွမ်းစားကြွဖို့ ကြိုတင် မပင့်လျှောက်ခဲ့ပါဘူး။ ဒါကြောင့် မြတ်စွာဘုရားရှင်ဟာ ဘုရားရှင်တို့ ထုံးစံအတိုင်း ကပိလဝတ်မြို့ထဲကို ဆွမ်းခံကြွဝင်တော်မူခဲ့တာ ဖြစ်ပါတယ်။

ဒီအခါ ခမည်းတော် သုဒ္ဓေါဒနမင်းကြီးဟာ ပျာပျာသလဲဖြစ်ပြီး ဆွမ်းခံကြွဝင်တော်မူတဲ့ သားတော်ဘုရားထံ ကပျာကယာသွားရောက်ခဲ့ပါတယ်။ ပြီးတော့ "သားတော်ဘုရား… တပည့်တော်ကို ဘာလို့ အရှက်ခွဲရတာလဲ ဘုရား၊ ဘာလို့ ခုလို မြို့ထဲ ဆွမ်းခံလျှောက်ပြီး လှည့်နေရတာလဲ ဘုရား၊ ဒီလောက်များတဲ့ ရဟန်း

နှစ်သောင်းအတွက် ခမည်းတော်အထံမှာ ဆွမ်းအပြည့်အစုံ မရနိုင်လောက်ဘူးလို့များ ထင်လို့လားဘုရား”လို့လည်း လျှောက်ထားလိုက်ပါတယ်။ မြတ်စွာဘုရားရှင်ကလည်း “ခမည်းတော်မင်းကြီး… ဒီလိုအိမ်စဉ်မပြတ် ဆွမ်းရပ်လှည့်လည်တဲ့ကျင့်ဝတ်ဟာ ငါဘုရားတို့ရဲ့ အနွယ်စဉ်ဆက် ဆင်းသက်လာတဲ့ အကျင့်ဖြစ်ပေတယ်”လို့ မိန့်ကြားတော်မူခဲ့ပါတယ်။

## သုဒ္ဓေါဒနမင်းကြီး သောတာပန်ဖြစ်

မြတ်စွာဘုရားက အခုလို မိန့်ကြားတော်မူလိုက်တဲ့အခါ ခမည်းတော် သုဒ္ဓေါဒနမင်းကြီးက “သားတော် အရှင်မြတ်ဘုရား… အကျွန်ုပ်တို့ရဲ့ အမျိုးအနွယ်ဆိုတာ ကပ်ဦးအစ သမ္မတမင်းကနေ အနွယ်မပျက် ဆင်းသက်လာတဲ့ မဟာသမ္မတ ခတ္တိယနွယ် မဟုတ်ပါလားဘုရား။ ဒီမဟာသမ္မတ ခတ္တိယ အနွယ်အစဉ်အဆက်မှာ မင်းတစ်ဦးတလေမျှ ဆွမ်းခံလှည့်လည်တယ်ဆိုတာ မရှိခဲ့ပါ”လို့ လျှောက်ထားခဲ့ပြန်ပါတယ်။ ဒီအခါ မြတ်စွာဘုရားရှင်က “ခမည်းတော်မင်းကြီး… သင်မင်းကြီး ပြောတဲ့ မဟာသမ္မတ ခတ္တိယအနွယ်ဆိုတာ သင်မင်းကြီးရဲ့ အနွယ်ဖြစ်ပါတယ်၊ ငါတို့ရဲ့ အနွယ်ဆိုတာ ပွင့်တော်မူပြီးတဲ့ ရှေးရှေးသော ဘုရားရှင်တွေရဲ့ အနွယ်စဉ်ဆက်ဖြစ်ပါတယ်၊ ဂင်္ဂါဝါဠု သဲစုမက ပွင့်တော်မူခဲ့ကြတဲ့ ဘုရားရှင်တိုင်းဟာ အိမ်စဉ်မပြတ် ဆွမ်းရပ်လှည့်လည်တော်မူကြမြဲ ဖြစ်ပါတယ်၊ အိမ်စဉ်မပြတ် ဆွမ်းရပ်လှည့်လည်တဲ့အကျင့်နဲ့ပဲ အသက်မွေးမှုကို ပြုတော်မူကြတယ်”လို့ မိန့်ကြားပြီး ဖော်ပြပါ အဓိပ္ပာယ်ရတဲ့ ဂါထာနဲ့ ခရီးလမ်းအကြား ရပ်တော်မူရင်းနဲ့ပဲ အခုလို တရားဟောတော်မူခဲ့ပါတယ်။

“ခမည်းတော်ကြီး… ရဟန်းဖြစ်တဲ့သူဆိုတာ ဒကာ၊ ဒကာမတွေရဲ့ အိမ်တံခါးဝမှာ သပ္ပာယ်စွာရပ်ပြီး ဆွမ်းခံတဲ့ဝတ်ကို

မမေ့မလျော့ရပါ၊ ကောင်းစွာကျင့်အပ်တဲ့ ဆွမ်းခံလှည့်လည်တဲ့ အကျင့်ကို ကျင့်ရမယ်၊ အဲဒီလို ဆွမ်းခံဝတ်ကို မချွတ်ပြုကျင့်လေ့ရှိတဲ့ ရဟန်းဟာ ခုဘဝမှာရော တမလွန်ဘဝမှာပါ ကိုယ်စိတ်နှစ်ဖြာ ချမ်းသာစွာ နေထိုင်ရတယ်"

ဒီတရားဂါထာအဆုံးမှာ ခမည်းတော်မင်းကြီးဟာ တရားနာ ရင်းနဲ့ပဲ သောတာပတ္တိဖိုလ် ဆိုက်ရောက်ပြီး သောတာပန်ဖြစ်ခဲ့ပါတယ်။

ခမည်းတော် သုဒ္ဓေါဒနမင်းကြီးဟာ သောတာပန်ဖြစ်ပြီး နောက် မြတ်စွာဘုရားရှင်ရဲ့ လက်တော်မှ သပိတ်ကို ကိုယ်တိုင်လှမ်းယူ ပွေ့ဆောင်ပြီး နောက်ပါ ရဟန္တာအရှင်မြတ်နှစ်သောင်းနဲ့ အတူတကွ မြတ်စွာဘုရားကို ရွှေနန်းတော်ဆီ ပင့်ဆောင်ခဲ့ပါတယ်။ နန်းတော် ရောက်တဲ့အခါ အသင့် စီမံထားတဲ့ နေရာတွေမှာ သီတင်းသုံးစေတော် မူပါတယ်။ ရွှေနန်းတော် ရောက်ပြီးတဲ့အခါမှာလည်း မြတ်စွာဘုရား ရှင်က –

"ခမည်းတော်မင်းကြီး… ရဟန်းဆိုတာ မအပ်စပ်တဲ့နည်း တွေနဲ့ ပစ္စည်းလေးပါး ရှာဖွေတာကို ပယ်ပြီး စင်ကြယ်သန့်ရှင်း အပ်စပ်တဲ့ ဆွမ်းခံအကျင့်ကို ကျင့်ရမှာဖြစ်တယ်၊ ရှင်ရဟန်းတွေ အတွက် မသင့်တော် မအပ်စပ်တဲ့ အရက်ဆိုင်၊ အပျိုကြီးအိမ် စတဲ့ နေရာတွေမှာ သူများ သံသယဖြစ်လောက်အောင် ရင်းနှီးကျွမ်းဝင် လှည့်လည်တာမျိုးစတဲ့ မသင့်တော်တဲ့အကျင့်ကို မကျင့်ရဘူး၊ အဲဒီလို မအပ်စပ် မသင့်တော်တာတွေကို ရှောင်ကြဉ်ပြီး ဖြူစင်သန့်ရှင်းတဲ့ ဆွမ်းခံကျင့်ဝတ်ကို မချွတ်ပြုကျင့်လေ့ရှိတဲ့ ရဟန်းဟာ အခုဘဝမှာပဲ ဖြစ်ဖြစ်၊ တမလွန်ဘဝမှာပဲဖြစ်ဖြစ် ချမ်းသာစွာ နေထိုင်ရတယ်" ဆိုတဲ့ ဒီဒုတိယဂါထာကို ဟောကြားတော်မူခဲ့ပါတယ်။

ဒီဒုတိယဂါထာအဆုံးမှာ ခမည်းတော် သုဒ္ဓေါဒနမင်းကြီးက သကဒါဂါမိဖိုလ်မှာ တည်ခဲ့ပြီး မိထွေးတော် မဟာပဇာပတိဂေါတမီ ကတော့ သောတာပတ္တိဖိုလ်မှာ တည်ခဲ့ပါတယ်။

အဲဒီနောက်မှာတော့ ခမည်းတော် သုဒ္ဓေါဒနမင်းကြီးဟာ မြတ်စွာဘုရား အမှူးရှိတဲ့ ရဟန္တာ အရှင်မြတ် နှစ်သောင်းကို စောစော ကတည်းက ကြိုတင်ချက်ပြုတ် စီမံထားတဲ့ ဆွမ်းခဲဖွယ် ဘောဇဉ်တွေနဲ့ ဆက်ကပ်ခဲ့ပါတယ်။

## မြတ်စွာဘုရားရှင် ယသောဓရာဒေဝီရဲ့ ခန်းမဆောင်သို့ ကြွတော်မူ

ဘုရားအမှူးရှိတဲ့ သံဃာတော်တွေ ဆွမ်းကိစ္စပြီးတဲ့အခါ ရွှေနန်းတော်မှာ ရှိကြတဲ့ နန်းတွင်းသူ မင်းမောင်းမတွေက မြတ်စွာ ဘုရားထံ လာရောက်ပြီး ရိုသေစွာ ရှိခိုးကန်တော့ကြတယ်။ ဒါပေမဲ့ ရာဟုလာမယ်တော် ယသောဓရာဒေဝီ မိဖုရားကတော့ မြတ်စွာဘုရား ထံ လာပြီး မကန်တော့ခဲ့ပါဘူး။

ရာဟုလာမယ်တော် ယသောဓရာဒေဝီ မိဖုရားဟာ အခြွေအရံ တွေက "အရှင်မ... အဆောင်တော်ကနေ ထွက်ကြွပြီး အရှင့်သားကို ရှိခိုးပါလော့"လို့ တင်လျှောက်ပြောဆိုကြပေမယ့် "ရှင်မတို့... ငါရဲ့ ကျေးဇူး အထူးရှိခဲ့မယ်ဆိုရင် အရှင့်သားကိုယ်တိုင်ပဲ ငါ့ထံ ကြွလာ တော်မူပါလိမ့်မယ်၊ အဲဒီလို ကြွတော်မူလာမှပဲ ငါ အရှင့်သားကို ရှိခိုးမယ်"လို့ ပြန်ပြောခဲ့ပြီး တိုက်ခန်းထဲမှာပဲ ဣန္ဒြေမပျက် နေနေခဲ့ တယ်။

မြတ်စွာဘုရားရှင်ဟာ ခမည်းတော် သုဒ္ဓေါဒနမင်းကြီးကို သပိတ်တော် ယူဆောင်စေပြီး အဂ္ဂသာဝကမထေရ်မြတ်ကြီး နှစ်ပါးနဲ့ အတူတကွ ယသောဓရာဒေဝီ မိဖုရားရဲ့ ကျက်သရေခန်းမဆောင်ကို ကြွတော်မူခဲ့ပါတယ်။ အဲဒီအချိန် ယသောဓရာဒေဝီရဲ့ ခန်းမဆောင် ထဲမှာ ခြွေရံမောင်းမတွေလည်း ရှိနေခဲ့ပါတယ်။ ယသောဓရာဒေဝီက မြတ်စွာဘုရားရှင် ကိုယ်တော်မြတ် မိမိရဲ့ ခန်းမဆောင်ကို ကြွတော်မူ လာတဲ့သတင်း ကြားရတဲ့အခါ ခြွေရံမောင်းမတွေကို ဖန်ရည်ဆိုးတဲ့

အဝတ်တွေ ဝတ်ဆင်ကြဖို့ ညွှန်ကြားပြောဆိုလိုက်တယ်။ ခြွေရံမောင်းမတွေ အားလုံးလည်း ယသောဓရာဒေဝီ ညွှန်ကြားတဲ့အတိုင်း ဖန်ရည်ဆိုးတဲ့ အဝတ်တွေကိုပဲ ဝတ်ဆင်ခဲ့ကြတယ်။

မြတ်စွာဘုရားရှင်ဟာ ယသောဓရာဒေဝီရဲ့ ကျက်သရေတိုက်ခန်း ရောက်တဲ့အခါ "ငါဘုရားရှင်ကို ယသောဓရာမိဖုရား အလိုရှိတိုင်း ရှိခိုးလာတဲ့အခါ ဘယ်သူမှ ဟန့်တားတဲ့စကား မပြောကြနဲ့" လို့ မိန့်တော်မူပြီး အသင့်ခင်းထားတဲ့နေရာမှာ ထိုင်နေတော်မူခဲ့ပါတယ်။ ယသောဓရာဒေဝီဟာ မြတ်စွာဘုရားထံမှောက် အလျင်အမြန်ရောက်လာပြီး မြတ်စွာဘုရားရဲ့ ခြေထောက်တော်နှစ်ဖက်ကို မိမိလက်နှစ်ဖက်နဲ့ တအားကုန် တင်းကျပ်စွာ ဆွဲကိုင်ပိုက်ဖက်ခဲ့တယ်။ မြတ်စွာဘုရားရဲ့ ခြေဖမိုးတော်နှစ်ဖက်ပေါ်မှာ မိမိရဲ့ဦးခေါင်း နဖူးပြင်ကို တင်ထားပြီး ဘယ်ဘက်ပါးပြင်နဲ့ ရှိခိုးလိုက်၊ ညာဘက်ပါးပြင်နဲ့ ရှိခိုးလိုက် စိတ်အလိုဆန္ဒရှိတဲ့အတိုင်း အားပါးတရ ရှိခိုးခဲ့ပါတယ်။

## ယသောဓရာဒေဝီရဲ့ ချီးမွမ်းဖွယ် ဂုဏ်ရည်များ

ဒီအခါ ခမည်းတော် သုဒ္ဓေါဒနမင်းကြီးက -

"သားတော်မြတ်ဘုရား… အကျွန်ုပ်ရဲ့ သမီးတော်ဟာ အရှင်ဘုရားတို့ ဖန်ရည်စွန်းတဲ့ အဝတ်သင်္ကန်းတွေကို ဝတ်ရုံတော်မူပြီဆိုတဲ့ သတင်းကို ကြားရတဲ့အချိန်ကစပြီး ဖန်ရည်စွန်းတဲ့ အဝတ်ကို ဝတ်ခဲ့ပါတယ် ဘုရား၊ အရှင်ဘုရားတို့ ဆွမ်းတစ်ထပ်သာ စားကြောင်း သိရတဲ့ အချိန်ကစပြီး ပွဲတော်စာကို တစ်ထပ်သာ စားပါတော့တယ် ဘုရား၊ အရှင်ဘုရားတို့ မြတ်သော အိပ်ရာနေရာတွေကို စွန့်ပယ်ကြောင်း သတင်းစကား ကြားရတဲ့ အချိန်ကစပြီး အကျွန်ုပ်ရဲ့ သမီးတော်လည်း ကြိုးပြားနဲ့ ရက်ထားတဲ့ ညောင်စောင်းပေါ်မှာပဲ အိပ်ခဲ့ရှာတယ် ဘုရား၊ အရှင်ဘုရားတို့ ပန်းနံ့သာစတာတွေမှ ရှောင်ကြဉ်တယ်ဆိုတဲ့ သတင်းစကား ကြားရတဲ့အချိန်က စပြီး အကျွန်ုပ်ရဲ့

သမီးတော်လည်း ပန်းပန်တာ၊ နံ့သာလိမ်းတာတွေကနေ ရှောင်ကြဉ်ခဲ့ပါတယ် ဘုရား။

ဒါ့အပြင် အရှင်ဘုရားတို့ တောထွက်သွားတဲ့အခါ မင်းညီမင်းသားတွေက လက်ဆက်လိုပါကြောင်း၊ ကောင်းမွန်စွာ စောင့်ရှောက်မွေးမြူလိုပါကြောင်း သဝဏ်လွှာ သတင်းစကား ပါးလာကြတဲ့အခါမှာလည်း အကျွန်ုပ်ရဲ့ သမီးတော်ဟာ တစ်ဦးတစ်ယောက်ကိုမျှ တဏှာပေမ စိတ်ထားနဲ့ ပြန်လှန်စောင်းငဲ့ မကြည့်ခဲ့ရှာပါ ဘုရား။ အကျွန်ုပ်ရဲ့ သမီးတော်ဟာ အဲဒီလောက်ကို အံ့သြချီးမွမ်းလောက်တဲ့ ဂုဏ်ကျေးဇူးတွေနဲ့ ပြည့်စုံသူ ဖြစ်ပါပေတယ် ဘုရား''

လို့ မြတ်စွာဘုရားအပေါ်မှာပဲ ချစ်ခင်မြတ်နိုးမှုရှိတဲ့အကြောင်း လျှောက်ထားပြောဆိုခဲ့ပါတယ်။

ဒီအခါ မြတ်စွာဘုရားရှင်က -

''ခမည်းတော်မင်းကြီး··· ခုနေအခါ ခမည်းတော်မင်းကြီးက ထိန်းသိမ်းစောင့်ရှောက်နေတဲ့အပြင် ဉာဏ်ပညာကလည်း ရင့်ကျက်နေတဲ့အတွက် ရာဟုလာမယ်တော် ယသောဓရာဒေဝီဟာ မိမိကိုယ်မိမိ ထိန်းသိမ်းစောင့်ရှောက်နိုင်တယ်ဆိုတာ အံ့သြစရာ မဟုတ်သေးပါ၊ ဒီရာဟုလာမယ်တော် ယသောဓရာဒေဝီဟာ ရှေးအတိတ်အခါက အရှင်မင်းကြီးလို စောင့်ရှောက်ထိန်းသိမ်းသူလည်း မရှိပါဘဲနဲ့ စန္ဒတောင်ခြေရင်းမှာ လှည့်ပတ်သွားလာနေရတဲ့ ပါရမီဉာဏ် မရင့်သန်သေးတဲ့ အချိန်မှာကိုပဲ မိမိကိုယ်မိမိ ထိန်းသိမ်းစောင့်ရှောက်ခဲ့တယ်''

လို့ မိန့်ကြားတော်မူပြီး အတိတ်ဖြစ်ရပ် စန္ဒကိန္နရီဇာတ်ကို ဟောကြားတော်မူခဲ့ပါတယ်။

## စန္ဒကိန္နရီဇာတ်

''မြတ်သောမင်းကြီး··· ရှေးလွန်လေပြီးသောအခါ ဗာရာဏသီပြည်မှာ ဗြဟ္မဒတ်မင်းကြီး စိုးစံတော်မူခဲ့တယ်၊ အဲဒီအချိန်တုန်းက

ဘုရားလောင်းဟာ ဟိမဝန္တာတောင်မှာ ကိန္နရာ ဖြစ်ခဲ့တယ်၊ အဲဒီ ဘုရားလောင်း ကိန္နရာဟာ ဟိမဝန္တာက စန္ဒတောင်မှာ နေတဲ့အတွက် စန္ဒကိန္နရာ အမည်တွင်ခဲ့တယ်၊ ဗာရာဏသီပြည်က ဗြဟ္မဒတ်မင်းကြီးဟာ တောပစ်ဝါသနာပါ၊ အသားစားကြူးသူဖြစ်တာမို့ တိုင်းပြည်ကို အမတ်တွေနဲ့ လွှဲအပ်ခဲ့ပြီး တောပစ်ဖို့အတွက် ဟိမဝန္တာကို တစ်ယောက်တည်း ထွက်လာခဲ့တယ်။

စန္ဒတောင်မှာ နေကြတဲ့ ကိန္နရီကိန္နရာတွေဟာ မိုးတွင်းအခါမှာ စန္ဒတောင်မှာပဲ နေကြပြီး နွေရာသီရောက်တဲ့အခါမှာတော့ မြစ်နံဘေးက သဲသောင်ယံတွေမှာ ပျော်မြူးဆော့ကစားဖို့အတွက် စန္ဒတောင်ကနေ သက်ဆင်းတတ်ကြတယ်၊ တစ်နေ့မှာတော့ စန္ဒကိန္နရာဟာ မိမိရဲ့မယားဖြစ်တဲ့ စန္ဒကိန္နရီနဲ့အတူ သဲငွေသောင်ယံမှာ ပျော်မြူးဆော့ကစားဖို့ စန္ဒတောင်ကနေ ဆင်းလာခဲ့တယ်၊ စန္ဒကိန္နရာနဲ့ စန္ဒကိန္နရီ မောင်နှံတို့ဟာ တောပန်း၊ တောင်ပန်းတွေ ခူးပြီး ငွေသောင်ယံမှာ ပန်းမွေ့ရာ ခင်းကြတယ်၊ ပန်းတွေလည်း ပန်ကြတယ်၊ ပန်းမွေ့ရာပေါ်မှာ စန္ဒကိန္နရာက ဝါးလုံးကို တီးပြီး သီချင်းဆိုတယ်၊ စန္ဒကိန္နရီက စန္ဒကိန္နရာရဲ့အနားမှာ ရပ်ပြီး ကလည်းကတယ်၊ သီချင်းလည်း ဆိုတယ်။

## စန္ဒကိန္နရာ မြားထိမှန်

ဗာရာဏသီမင်းဟာ ကိန္နရီကိန္နရာတွေရဲ့ သီချင်းသံကို ကြားရတာနဲ့ ခြေသံမကြားအောင် ဖြည်းဖြည်းကလေး သွားပြီး တစ်နေရာကနေ ပုန်းကွယ်ရင်း ကိန္နရီကိန္နရာတွေကို ချောင်းကြည့်လိုက်တယ်၊ ဗာရာဏသီမင်းဟာ စန္ဒကိန္နရီကို မြင်လိုက်တာနဲ့ စန္ဒကိန္နရီကို လိုချင်တပ်မက်တဲ့စိတ်တွေ ဖြစ်လာခဲ့တယ်၊ ဒီအခါ ဗာရာဏသီမင်းဟာ စန္ဒကိန္နရီနဲ့ အတူနေရဖို့အတွက် စန္ဒကိန္နရာကို

လေးမြားနဲ့ ပစ်လိုက်တယ်၊ စန္ဒကိန္နရာလည်း မြားမှန်လို့ မြားဆိပ် တက်ပြီး မေ့မြောသွားတယ်။

**စန္ဒကိန္နရီရဲ့ အပူသောက**

စန္ဒကိန္နရာ မြားမှန်ခံရပြီး မေ့မြောသွားတဲ့အခါ စန္ဒကိန္နရီလည်း "ငါ့လင် စန္ဒကိန္နရာ ဘာဖြစ်သွားပါလိမ့်"လို့ စိုးရိမ်စိတ်နဲ့ ဟိုကြည့် ဒီကြည့် လိုက်ကြည့်လိုက်တဲ့အခါ မြားစူးဝင်တဲ့ နေရာက နေ ထွက်လာတဲ့ သွေးတွေကို မြင်လိုက်တယ်၊ ဒီအခါ စန္ဒကိန္နရာ အပေါ် အလွန်စိုးရိမ်သွားပြီး စိတ်တွေ မထိန်းနိုင်တော့ဘဲ သည်းထန်စွာ ငိုကြွေးပါတော့တယ်။

ဗာရာဏသီမင်းဟာ အခြေအနေကို စောင့်ကြည့်နေရင်းက စန္ဒကိန္နရာ သေသွားလောက်ပြီ အထင်နဲ့ ပုန်းကွယ်နေရာကနေ ထွက်လာခဲ့ပါတယ်၊ ဒီအခါ စန္ဒကိန္နရီဟာ ဗာရာဏသီမင်းကို မြင်လိုက်တာနဲ့ 'ငါ့လင်ကို မြားနဲ့ပစ်တဲ့သူဟာ ဒီခိုးသူ ဖြစ်မှာပဲ' လို့တွေးပြီး ကြောက်ကြောက်လန့်လန့်နဲ့ တောင်ထိပ်ပေါ် ပျံတက်သွားတယ်။ ပြီးတဲ့အခါ တောင်ထိပ်ပေါ်ကနေ ဗာရာဏသီမင်းကို ဖော်ပြပါအတိုင်း ကျိန်ဆဲပါတော့တယ် -

"ငါ့ကို မုဆိုးမဖြစ်အောင် ငါ့လင်ကို မြားနဲ့ပစ်တဲ့ သင်ဟာ လူယုတ်မာပဲ၊ ငါ့လင်အတွက် စိတ်နှလုံးပူဆွေးရတဲ့သောကမျိုး သင့်အမေလည်း ရပါစေ၊ သင့်မိန်းမလည်း ရပါစေ။

သင်ဟာ အပြစ်မရှိတဲ့ ငါ့လင်ကို သတ်ခဲ့တယ်၊ ဒီအတွက် သင့်အမေလည်း သားကို မမြင်ရပါစေသား၊ သင့် မိန်းမကိုလည်း လင်ကို မမြင်ရပါစေသား။

သင်ဟာ အပြစ်မရှိတဲ့ ငါ့လင်ကို သတ်ခဲ့တယ်၊ ဒီအတွက် သင့်မိန်းမလည်း သားကို မမြင်ရပါစေသား၊ လင်ကိုလည်း မမြင်ရပါစေသား"

ဒီအခါ ဗာရာဏသီမင်းဟာ ကျိန်ဆဲနေတဲ့ စန္ဒကိန္နရီမကို နှစ်သိမ့်တဲ့အနေနဲ့ "ရှင်မ စန္ဒာ… သင် မစိုးရိမ်ပါနဲ့၊ ငိုလည်း မငိုပါနဲ့၊ ငါဟာ ဗာရာဏသီပြည့်ရှင်မင်း ဖြစ်တယ်၊ ငါဟာ သင့်ကို နန်းတော်ကို ခေါ်သွားပြီး မိဖုရားခေါင်ကြီးအဖြစ် တင်မြှောက်ပါ့မယ်၊ ရှင်မစန္ဒာဟာ ငါရဲ့ ဇနီးမယား မိဖုရား ဖြစ်လှည့်ပါ"လို့ ချစ်ရေးစကား ဆိုခဲ့ပါတယ်။

## စန္ဒကိန္နရီရဲ့ သစ္စာ

စန္ဒကိန္နရီဟာ မင်းကြီးရဲ့ စကားကို ကြားရတဲ့အခါ "သင် ဘယ်လို ပြောလိုက်တာလဲ အရှင်မင်းကြီး၊ တကယ်တော့ ငါဟာ အသက်သာ အသေခံလိုက်မယ်။ ငါဟာ အပြစ်မရှိတဲ့ ငါ့လင်ကို သတ်တဲ့ သင်ရဲ့ ဇနီးမယား ဘယ်တော့မှ အဖြစ်ခံမှာမဟုတ်"လို့ ရဲရဲတောက် ပြန်လည် ပြောဆိုခဲ့ပါတယ်။ ဒီအခါ ဗာရာဏသီမင်းကြီးလည်း လက်လျှော့ပြီး ပြန်သွားပါတော့တယ်။

ဗာရာဏသီမင်း ပြန်သွားပြီဆိုတာ သိလိုက်တာနဲ့ စန္ဒကိန္နရီလည်း တောင်ထိပ်ကနေ သက်ဆင်းလာပြီး စန္ဒကိန္နရာကို ပွေ့ချီကာ တောင်ထိပ်ပေါ် ပြန်လာခဲ့တယ်။ တောင်ထိပ်ရောက်တဲ့အခါ စန္ဒကိန္နရာကို အသာအယာလေးချပြီး စန္ဒကိန္နရာရဲ့ ဦးခေါင်းကို မိမိပေါင်ပေါ်မှာ တင်ထားလိုက်တယ်။ ပြီးတဲ့အခါ မဖြေဆည်နိုင်လို့ ဖွဲ့နွဲ့ပြီး ငိုကြွေးခဲ့တယ်။ အဲဒီလို ငိုကြွေးရင်းနဲ့ စန္ဒကိန္နရာရဲ့ ရင်ဘတ်ကို စမ်းကြည့်တဲ့အခါ ပူနွေးနွေးလေး ရှိနေတာကို သိလိုက်ရလို့ အသက်မသေသေးဘူးဆိုတာ နားလည်လိုက်တယ်။

ဒီအခါ လောကပါလနတ်တွေကို တိုင်တည်ပြီး အသက်ရှင်အောင် လုပ်မယ်ဆိုတဲ့ အကြံနဲ့ "အို… လောကပါလ နတ်အပေါင်းတို့၊ အသင်နတ်တို့ မရှိများ မရှိလေကြသလား၊ ဒါမှမဟုတ် မေ့များမေ့နေကြသလား၊ ဒါမှမဟုတ် သေများသေကုန်ကြပြီလား၊ အဘယ့်

ကြောင့် ငါရဲ့ချစ်စွာသော လင်ကို မစောင့်ရှောက်ကြရတာလဲ”လို့ ပြောပြီး လောကပါလနတ်တွေကို တိုင်ကြားလိုက်တယ်။ စန္ဒကိန္နရီရဲ့ သောကအဟုန်ကြောင့် သိကြားမင်းရဲ့ ကျောက်ဖျာ ပူလာခဲ့တယ်။ သိကြားမင်း ဆင်ခြင်လိုက်တဲ့အခါ အကြောင်းစုံကို သိလိုက်ရပြီး ပုဏ္ဏားအသွင်နဲ့ ဆင်းလာခဲ့တယ်။ ပုဏ္ဏားဟာ လက်ထဲမှာ ရေကရား ကိုင်ပြီး ဘုရားလောင်း စန္ဒကိန္နရာကို ရေစင်နဲ့ သွန်းလောင်းလိုက်တယ်။ အဲဒီခဏမှာပဲ မြားဆိပ်တွေ ပြယ်သွားခဲ့ပြီး အနာကနေ အသားနုတွေ တက်လာခဲ့တယ်။ မြားမှန်ထားတယ်ဆိုတဲ့ ဒဏ်ရာ တောင် မကျန်တော့ပါဘူး။ ဒီအခါ ဘုရားလောင်း စန္ဒကိန္နရာဟာ ချမ်းသာရာရပြီး လျောင်းစက်နေရာကနေ ထလာခဲ့တယ်။

စန္ဒကိန္နရီဟာ သူ့ရဲ့ ချစ်စွာသောလင်ကို ရောဂါပျောက်ကင်းတာ မြင်ရတာနဲ့ ဝမ်းမြောက်ဝမ်းသာဖြစ်ပြီး သိကြားမင်းရဲ့ ခြေကို အကြိမ်ကြိမ် ဦးတိုက်ကန်တော့နေပါတော့တယ်။ သိကြားမင်းလည်း ကိန္နရီကိန္နရာတွေကို ဒီနေ့မှစပြီး နောက်နောင်မှာ လူတွေ လာတတ်တဲ့ သဲသောင်ပြင်ကို မသက်ဆင်းဖို့နဲ့ ဘေးကင်းတဲ့ တောင်ထိပ်မှာပဲ နေကြဖို့ ဆုံးမစကား ပြောကြားပြီး နတ်ပြည်ကို ပြန်သွားခဲ့ပါတယ်။ စန္ဒကိန္နရီနဲ့ စန္ဒကိန္နရာတို့လည်း သိကြားမင်း ဆုံးမတဲ့အတိုင်း စန္ဒတောင်ဆီ ပျံတက်သွားခဲ့ပါတော့တယ်။

**စန္ဒကိန္နရီဇာတ် ဇာတ်ပေါင်းခန်း**

မြတ်သောမင်းကြီး… ရာဟုလာမယ်တော်ဟာ ခုနေခါမှာသာ ငါဘုရားအပေါ် သစ္စာရှိတာ မဟုတ်၊ ရှေးအခါ ကိန္နရီဖြစ်စဉ်ကလည်း ငါ့အပေါ် သစ္စာရှိခဲ့တာပါ”လို့ မိန့်ကြားတော်မူပြီး “ယခုအခါ ဒေဝဒတ်ဟာ အဲဒီတုန်းက ဗြဟ္မဒတ်မင်း ဖြစ်ခဲ့တယ်၊ အနုရုဒ္ဓါဟာ သိကြားမင်း ဖြစ်ခဲ့တယ်၊ ရာဟုလာမယ်တော်ဖြစ်တဲ့ ယသောရော

ဒေဝီဟာ စန္ဒကိန္နရီ ဖြစ်ခဲ့တယ်၊ ယခုအခါ ငါဘုရားဟာ အဲဒီတုန်းက စန္ဒကိန္နရာဖြစ်ခဲ့တယ်''လို့ ဇာတ်ပေါင်းတော်မူခဲ့ပါတယ်။

စန္ဒကိန္နရီဇာတ်ကို ဟောတော်မူပြီးတဲ့အခါ မြတ်စွာဘုရား အမှူးပြုတဲ့ သံဃာတော်များဟာ နန်းတော်ကနေ နိဂြောဓာရုံကျောင်းကို ပြန်လည်ကြွတော်မူခဲ့ကြပါတယ်။

## ယသောဓရာဒေဝီ ရဟန်းပြုပြီး ရဟန္တာဖြစ်

နောက်ပိုင်းကာလ မြတ်စွာဘုရား ဘုရားအဖြစ်သို့ ရောက်တော်မူပြီးလို့ ငါးဝါရတဲ့အချိန်မှာတော့ ခမည်းတော် သုဒ္ဓေါဒနမင်းကြီးဟာ ထီးဖြူတော်အောက်မှာ အရဟတ္တဖိုလ်ရရှိပြီး အဲဒီနေ့မှာပဲ ပရိနိဗ္ဗာန်စံခဲ့ပါတယ်။ ခမည်းတော် သုဒ္ဓေါဒနမင်းကြီး ပရိနိဗ္ဗာန်ပြုပြီးတဲ့နောက် မိထွေးတော်ကြီး မဟာပဇာပတိဂေါတမီဟာ သာကီဝင်မင်းသမီး ငါးရာနဲ့အတူ မြတ်စွာဘုရားအထံတော်မှာ ဘိက္ခုနီ ရဟန်းမ ပြုခဲ့ပါတယ်။ ဒီအခါ ရာဟုလာမယ်တော် ယသောဓရာဒေဝီနဲ့ ဇနပဒကလျာဏီ မင်းသမီးတို့လည်း မိထွေးတော်ကြီး မဟာပဇာပတိဂေါတမီအထံမှာ ရှင်ရဟန်းမ ပြုခဲ့ကြတယ်။

ယသောဓရာဟာ ဘိက္ခုနီရဟန်းမ ပြုပြီးတဲ့အချိန်ကစပြီး 'ဘဒ္ဒကစ္စနာထေရီ'လို့ သာသနာတော်မှာ ထင်ရှားခဲ့ပါတယ်။ ဘဒ္ဒကစ္စနာထေရီမ ရဟန်းပြုပြီးနောက် ဝိပဿနာတရား ကြိုးစားပွားများ အားထုတ်တဲ့အတွက် နှစ်ပတ်အတွင်းမှာပဲ အရဟတ္တဖိုလ် ရရှိပြီး ရဟန္တာ ထေရီမကြီး ဖြစ်ခဲ့ပါတယ်။

## (ဃ) မဟာဘိညာပတ္တတေဒဂ်ဘွဲ့ထူးရ

ဘဒ္ဒကစ္စနာ ထေရီမကြီးဟာ ရဟန္တာဖြစ်ပြီးတဲ့နောက် အဘိညာဏ်ပိုင်းမှာ အထူးလေ့လာ နိုင်နင်းခဲ့ပါတယ်။ တင်ပလ္လင်တစ်ခွေတည်း ထိုင်ရင်းက အာဝဇ္ဇန်းတစ်မျိုးတည်းနဲ့ တစ်သချီနဲ့

ကမ္ဘာတစ်သိန်းအတွင်း ဖြစ်ပျက်ခဲ့သမျှတွေကို ပြန်လည်အောက်မေ့နိုင်ပါတယ်။ ဘဒ္ဒကစ္စနာ ထေရီမကြီးရဲ့ အဲဒီ ဂုဏ်ကျေးဇူးသတင်း ထင်ရှားကျော်ကြားမှုကြောင့်ပဲ မြတ်စွာဘုရားရှင်က ဇေတဝန်ကျောင်းတိုက်မှာ ပြုလုပ်တဲ့ သံဃာ့အစည်းအဝေးမှာ ဘဒ္ဒကစ္စနာ ထေရီမကြီးကို "ကြီးကျယ်တဲ့ အဘိညာဏ်ပညာသို့ ရောက်ရှိကြတဲ့ ဘိက္ခုနီရဟန်းမတွေထဲမှာ ဘဒ္ဒကစ္စနာဟာ အသာဆုံး၊ အမြတ်ဆုံး ဖြစ်တယ်"လို့ မိန့်တော်မူပြီး 'မဟာဘိညာပတ္တဇတဒဂ်'ဘွဲ့ထူးနဲ့ ချီးမြှောက်တော်မူခဲ့ပါတယ်။

'အမေရိကန်နိုင်ငံသမိုင်းမှာ အောင်မြင်ကျော်ကြားခဲ့တဲ့ သမ္မတကြီးတွေ ရှိခဲ့ပါတယ်၊ ဒီလို အောင်မြင်ကျော်ကြားတဲ့ သမ္မတတိုင်းမှာ ထက်မြက်တဲ့ ဇနီးကောင်းတွေ ရှိတတ်ပါတယ်။ ပါရမီဖြည့်ဖက်ဖြစ်တဲ့ ဇနီးကောင်းတွေရဲ့ နောက်ကွယ်ကနေ ဖြည့်ဆည်းပေးမှု၊ အကြံပေးမှုတွေကြောင့်ပဲ ဒီသမ္မတကြီးတွေဟာ လုပ်ဆောင်ချက်တိုင်း ပိုမို အောင်မြင်ခဲ့ကြတာပါ'လို့ သမိုင်းဆရာတွေက ထောက်ပြကြပါတယ်။

ဒီသမိုင်းဆရာတွေရဲ့ ထောက်ပြချက်ဟာ ရာနှုန်းပြည့်နီးပါး မှန်တယ်လို့ ဆိုမယ်ဆို ဆိုနိုင်ပါတယ်။ ဘာလို့လဲဆိုတော့ တစ်လောကလုံးရဲ့ အမြတ်ဆုံး ဖြစ်တော်မူတဲ့ မြတ်စွာဘုရားတောင် ပါရမီဖြည့်စဉ်ကာလမှာ ဇနီးကောင်း မိဘုန်းမြတ်တွေရဲ့ ကူညီဖြည့်ဆည်းပေးမှုကို ရယူခဲ့ရလို့ပဲ ဖြစ်ပါတယ်။

ဒါကြောင့် ဘာသာရေးနယ်ပယ်မှာ ဖြစ်ဖြစ်၊ နိုင်ငံရေး၊ စီးပွားရေး၊ စစ်ရေးနယ်ပယ်မှာ ဖြစ်ဖြစ် ဘယ်နယ်ပယ်မှာမဆို မင်းယောက်ျားတွေချည်း ရှိရုံနဲ့တော့ ပြည့်စုံလုံလောက်ပြီလို့ ဆိုနိုင်မှာ မဟုတ်ပါဘူး။ ပါရမီဖြည့်ဖက် မိဘုန်းမြတ်တွေပါမှ ပြီးပြည့်စုံမယ်ဆိုတာကတော့ ယသော်ထေရီရဲ့ အတ္ထုပ္ပတ္တိကို ကြည့်ရုံနဲ့တင် သိနိုင်

လောက်ပါပြီ။ မိဘုန်းမြတ်တွေကိုလည်း အလေးထား တန်ဖိုးထားကြဖို့ပါ။

(အခုဖော်ပြခဲ့တဲ့ ဘဒ္ဒကစ္စနာ ယသောဓရာထေရီမကြီးရဲ့ အတ္ထုပ္ပတ္တိက သိသာရုံအကျဉ်းကလေးပဲ ဖြစ်ပါတယ်။ ထေရီမကြီးရဲ့ ပါရမီဖြည့်ပုံတွေကို အကျယ်တဝင့် သိချင်တယ်ဆိုရင်တော့ မဟာဗုဒ္ဓဝင်နဲ့ ငါးရာငါးဆယ် ဇာတ်နိပါတ်တွေမှာ ကြည့်ညှိနိုင်ကြပါတယ်။)

**ကျမ်းကိုး–**

၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ပထမတွဲ၊ ၂၈၉။
၂။ မဟာဗုဒ္ဓဝင်၊ ဆဋ္ဌတွဲ၊ ဒုတိယပိုင်း၊ ၁၂၇။ ပထမတွဲ၊ ပထမပိုင်း၊ ၅၇၊ ၆၆။
၃။ မဟာဗုဒ္ဓဝင်၊ ဒုတိယတွဲ၊ ၁၅၂။ တတိယတွဲ၊ ၁၂၆။
၄။ အပဒါန်ပါဠိတော်၊ ၂၊ ၂၆၄။
၅။ အပဒါန်ပါဠိတော် မြန်မာပြန်၊ ၂။ ၂၅၆။

အညှိုးအား သက်နိုးကို

ဝတ်ရုံတဲ့အရာ အသာဆုံး

လူခဓီဝရေရေ ဓတေခင်ရ

# ကိသာဂေါတမီ ထေရီ

''သောကမီးကို၊

ငြိမ်းစေလို၊ ဘယ်လမ်းစဉ်ကို လိုက်ပါ့မယ်။

သောကမီးကို၊ ငြိမ်းစေလို၊

သတိပဋ္ဌာန်လမ်းစဉ်ကို လိုက်ရ

မယ်''



ဒီလင်္ကာဆောင်ပုဒ်ကတော့ မြတ်ဗုဒ္ဓရဲ့ သတိပဋ္ဌာန်ကျင့်စဉ် တွေကို မြန်မာသာမက ကမ္ဘာ့နိုင်ငံတွေအထိ ဖြန့်ဖြူးတော်မူခဲ့တဲ့ ကမ္ဘာ့သာသနာပြု မဟာစည် ဆရာတော်ဘုရားကြီး သီကုံးထားတော်မူတဲ့ လင်္ကာဆောင်ပုဒ်ပဲ ဖြစ်ပါတယ်။ ဆရာတော်ကြီးဟာ မဟာသတိပဋ္ဌာနသုတ်ကို ဟောတဲ့အခါ ဒီလို လင်္ကာဆောင်ပုဒ်လေးတွေ တိုင်ပေးပြီးမှ အကျယ်ရှင်းလင်း ဟောကြားတော်မူလေ့ရှိပါတယ်။

ဟုတ်ပါတယ်၊ မြတ်စွာဘုရားရှင်က သောကမီးတွေ ငြိမ်းလိုတယ်ဆိုရင် သတိပဋ္ဌာန်ကျင့်စဉ်ကို ကျင့်ရမယ်လို့ မဟာသတိပဋ္ဌာန သုတ်မှာ ဟောတော်မူခဲ့ပါတယ်။ ‘သတိပဋ္ဌာန်အကျင့်ကို ပွားများ အားထုတ်မယ်ဆိုရင် သောကမီးတွေ

ငြိမ်းရုံမက ပရိဒေဝမီးတွေ၊ ကိုယ်ဆင်းရဲ၊ စိတ်ဆင်းရဲ ဖြစ်ရတာတွေပါ ချုပ်ငြိမ်းနိုင်ပါတယ်၊ ဒါတင်မက မဂ်ဉာဏ်ကိုလည်း ရစေနိုင်တယ်၊ နိဗ္ဗာန်ကိုလည်း မျက်မှောက်ပြုနိုင်ပါတယ်၊ ဒီအကျိုးတရားတွေ ရချင်တယ်ဆိုရင် သတိပဋ္ဌာန်ကျင့်စဉ်မှတစ်ပါး အခြား နည်းလမ်း မရှိဘူး’လို့ မဟာ သတိပဋ္ဌာနသုတ် နိဒါန်းမှာ မြတ်စွာဘုရားက ရဲရဲတောက် ဟောမိန့် တော်မူခဲ့ပါတယ်။

သတိပဋ္ဌာန်ဆိုတာ ကာယာနုပဿနာသတိပဋ္ဌာန်၊ ဝေဒနာနုပဿနာသတိပဋ္ဌာန်၊ စိတ္တာနုပဿနာသတိပဋ္ဌာန်၊ ဓမ္မာနုပဿနာ သတိပဋ္ဌာန်ဆိုပြီး လေးမျိုး ရှိပါတယ်။ ခန္ဓာမှာရှိတဲ့ ရုပ်တွေရဲ့ ဖြစ်ပျက်ကို ရှုနေရင် ကာယာနုပဿနာသတိပဋ္ဌာန်၊ ခံစားမှု ဝေဒနာတွေရဲ့ ဖြစ်ပျက်ကို ရှုနေရင် ဝေဒနာနုပဿနာသတိပဋ္ဌာန်၊ စိတ်တွေရဲ့ ဖြစ်ပျက်ကို ရှုနေရင် စိတ္တာနုပဿနာသတိပဋ္ဌာန်၊ ရုပ်ဓမ္မ နာမ်ဓမ္မ တွေရဲ့ အကြောင်းနဲ့အကျိုးကိုပါ သိမ်းဆည်းပြီး ဖြစ်ပျက်ရှုနေရင် ဓမ္မာနုပဿနာသတိပဋ္ဌာန် ဖြစ်ပါတယ်။

ခုကြည့်ညိုကြမယ့် ကိသာဂေါတမီထေရီမဟာ ချစ်စရာ အရွယ် သားကလေး သေတာကို ကြုံလိုက်ရတဲ့အတွက် သောကမီး တွေ တောက်လောင်ပြီး အရူးတစ်ပိုင်း ဖြစ်ခဲ့တာပါ။ ဒီအခါ မြတ်စွာ ဘုရား ဥပါယ်တံမျဉ်နဲ့ ပေးလိုက်တဲ့ တရားဆေးကြောင့် ရုပ်ခန္ဓာ တွေရဲ့ အဖြစ်သဘောနဲ့ အပျက်သဘောကို မြင်အောင်ရှုနိုင်ခဲ့ပါတယ်။ ဒီလို သတိပဋ္ဌာန်ကျင့်စဉ်ကို ကျင့်သုံးပွားများလိုက်တဲ့အတွက်၊ တစ်နည်း ပြောရမယ်ဆိုရင် မြတ်ဗုဒ္ဓရဲ့ သတိပဋ္ဌာန်တရားဆေးကို သောက်သုံး လိုက်တဲ့အတွက် ကိသာဂေါတမီရဲ့ သောကမီးတွေ ငြိမ်းအေးသွား ခဲ့တာပါ။

ကိသာ ဂေါတမီ ထေရီမကြီး သောကမီးတွေ ငြိမ်းပြီး ရဟန္တာဖြစ်တဲ့အထိ ဘယ်လို သတိပဋ္ဌာန် ကျင့်စဉ်တွေကို ကျင့်သုံးခဲ့ တယ်ဆိုတာ ကြည့်ညိုကြည့်ကြပါစို့။

## (က) ထေရီမရဲ့ အမည်နဲ့ ဧတဒဂ်အဓိပ္ပာယ်

ထေရီမရဲ့ အမည်ရင်းက 'ဂေါတမီ'ဖြစ်ပါတယ်။ ဒါပေမဲ့ ပုံမှန်ထက် နည်းနည်းလေး ပိုပိန်တဲ့သူ ဖြစ်တာမို့ 'ကိသာဂေါတမီ' ဆိုတဲ့ အမည်နာမက ပိုထင်ရှားခဲ့တယ်။

သင်္ကန်းဝတ်ရုံတဲ့နေရာမှာ အကြမ်းစားပိတ်စတွေကို အကြမ်းစားချည်နဲ့ သီချုပ်ပြီး သင်္ကန်းရောင်ဖြစ်ရုံ အကြမ်းစားဆိုးရည်နဲ့ ဆိုးထားတဲ့ သင်္ကန်းကြမ်းကြီးကိုပဲ ဝတ်ရုံတာကြောင့် 'အကြမ်းစား၊ အညံ့စားသင်္ကန်းကို ဝတ်ရုံကြတဲ့ ဘိက္ခုနီရဟန်းမတွေထဲမှာ အသာဆုံး'လို့ အဓိပ္ပာယ်ရတဲ့ 'လူခစီဝရဓရ ဧတဒဂ်'ကို ရခဲ့တာ ဖြစ်ပါတယ်။

## (ခ) အတိတ်ဘဝ ပါရမီနဲ့ ဆုတောင်း မထင်မရှား အမျိုးသမီးဘဝ

လွန်ခဲ့တဲ့ ကမ္ဘာတစ်သိန်းထက်မှာ ပဒုမုတ္တရ မြတ်စွာဘုရားရှင် ပွင့်တော်မူခဲ့ပါတယ်။ ကိသာ ဂေါတမီ ထေရီမလောင်း အမျိုးကောင်းသမီးဟာ အဲဒီဘုရားရှင်လက်ထက်တော်တုန်းက ဟံသာဝတီမင်းနေပြည်မှာ မထင်ရှားတဲ့ အမျိုးသမီး ဖြစ်ခဲ့ပြီး မြတ်စွာဘုရားကို ကြည်ညိုဆည်းကပ် ကိုးကွယ်သူ ဖြစ်ခဲ့ပါတယ်။ တစ်နေ့မှာတော့ မြတ်စွာဘုရား ဟောကြားတဲ့ သစ္စာလေးပါး တရားတော်ကို နာယူခဲ့ပါတယ်။ ဒီတရားပွဲမှာ မြတ်စွာဘုရားက ဘိက္ခုနီရဟန်းမတစ်ပါးကို ခေါင်းပါးတဲ့သင်္ကန်းကို ဆောင်လေ့ရှိတဲ့ ရဟန်းမတွေထဲမှာ အသာဆုံးဖြစ်တဲ့ 'လူခစီဝရဓရ ဧတဒဂ်'နဲ့ ချီးမြှောက်တော်မူခဲ့ပါတယ်။

ထေရီမလောင်း အမျိုးသမီးဟာ အဲဒီ ဧတဒဂ်ရတဲ့ ဘိက္ခုနီရဟန်းမရဲ့ ဂုဏ်သတင်းကို ကြားနာရတဲ့အခါ ဝမ်းသာအားရ ကြည်ညိုတဲ့စိတ်၊ အားကျတဲ့စိတ်တွေ ဖြစ်ပေါ်လာခဲ့ပါတယ်။ ဒါကြောင့် ထေရီမလောင်း အမျိုးသမီးဟာ စွမ်းအားရှိသလောက် မြတ်စွာဘုရားကို

လှူဒါန်းပူဇော်ပြီး သူလည်းပဲ နောင်တစ်ဆူသော ဘုရားရှင်လက်ထက်မှာ အဲဒီ 'လူခစီဝရဓရဇတေဒဂ်'ဘွဲ့ထူး ရလိုပါကြောင်း ဆုတောင်းခဲ့ပါတယ်။

## ကိကီမင်းကြီးရဲ့ သမီးတော်ဘဝ

အဲဒီ အမျိုးသမီးဟာ ကမ္ဘာတစ်သိန်းကြာ အပါယ်လေးပါး မလားမရောက်ရဘဲ နတ်ပြည်၊ လူ့ပြည်တွေမှာ သံသရာကျင်လည်ခဲ့ရပြီး ဒီဘဒ္ဒကမ္ဘာ ကဿပဘုရားရှင် ပွင့်တော်မူတဲ့အခါမှာတော့ ဗာရာဏသီပြည်က ကိကီမင်းကြီးရဲ့ သမီးတော် ခုနစ်ဖော်အနက် ပဉ္စမမြောက် သမီးတော် ဖြစ်ခဲ့ပါတယ်။ အဲဒီသမီးတော်ရဲ့ နာမည်က 'ဓမ္မာမင်းသမီး' ဖြစ်ပါတယ်။ အဲဒီ ဓမ္မာမင်းသမီးဟာ ကျန်တဲ့ ညီအစ်မတွေနဲ့အတူ အိမ်ထောင်မပြုဘဲ ရှစ်ပါးသီလစောင့်ထိန်းပြီး ကောမာရီ ဗြဟ္မစရိယအကျင့်ကို အနှစ်နှစ်သောင်းတိတိ ကျင့်ခဲ့ပါတယ်။

## (ဂ) ပစ္ဆိမပွန်ဝတ္ထု နောက်ဆုံးဘဝ ဇာတ်ကြောင်း

ဓမ္မာမင်းသမီးဟာ အဲဒီဘဝကနေ ကွယ်လွန်တဲ့အခါ တာဝတိံသာနတ်ပြည်မှာ ဖြစ်ခဲ့ပြီး ဒီနောက်ဆုံးဘဝမှာတော့ သာဝတ္ထိပြည်က ဆင်းရဲတဲ့အမျိုးမှာ ဖြစ်ခဲ့ပါတယ်။ သူမဖြစ်တဲ့ အမျိုးဟာ ပင်ကိုက ကြွယ်ဝချမ်းသာတဲ့ သူဌေးမျိုး ဖြစ်ခဲ့ပြီး စီးပွားရေး ဆုတ်ယုတ်ပျက်စီးတဲ့အတွက် ချမ်းသာရာကနေ ဆင်းရဲသွားရှာတဲ့ အထည်ကြီးပျက်အမျိုး ဖြစ်ပါတယ်။ ပုံမှန်ထက် ပိုပြီး ကြုံလှီ သေးငယ်တဲ့ ကိုယ်ခန္ဓာ ရှိတာကြောင့် အဲဒီအမျိုးသမီးကို 'ကိသာဂေါတမီ' လို့ ခေါ်ကြတယ်။

## ကုသိုလ်ကံကုန်လို့ စီးပွားပျက်သွားတဲ့ သူဌေး

ကိသာဂေါတမီ အရွယ်ရောက်စအချိန် သာဝတ္ထိပြည်က သူဌေးတစ်ဦးမှာ ထူးဆန်းတဲ့ အဖြစ်အပျက်တစ်ခု ဖြစ်ခဲ့ပါတယ်။ ဖြစ်ပုံက အဲဒီသူဌေးပိုင်ဆိုင်တဲ့ ကုဋေလေးဆယ်လောက်ရှိတဲ့ ရွှေငွေ ပစ္စည်းဥစ္စာတွေဟာ အံ့သြဖွယ်ရာ မီးသွေးခဲတွေ ဖြစ်သွားတာပါ။ မြတ်စွာဘုရား ဟောထားတဲ့ နိမိကဏ္ဍသုတ်တော်အရဆိုရင် အဲဒီ သူဌေးမှာ ကုသိုလ်ကံအဟုန် ကုန်သွားလို့ ဥစ္စာစီးပွား ပျက်သွားတဲ့ သဘောပါ။ အဲဒီလို အဖြစ်ဆိုးနဲ့ ကြုံလိုက်ရတဲ့ သူဌေးဟာ စိတ် သောကတွေ အကြီးအကျယ်ဖိစီးလို့ မစားနိုင် မသောက်နိုင်ဖြစ်ပြီး အိပ်ရာထဲ လဲသွားပါတော့တယ်။

ဒီအကြောင်းကို သူဌေးကြီးရဲ့ သူငယ်ချင်းတစ်ယောက် သိသွားတဲ့အခါ အဲဒီ သူငယ်ချင်းက သူဌေးကြီးထံ ရောက်လာပြီး ခုလို အကြံပေးခဲ့ပါတယ်။

"သူငယ်ချင်း… ဘာမှ မစိုးရိမ်ပါနဲ့၊ သင့်ရဲ့ အဖိုးတန် ပစ္စည်းတွေ ပကတိအတိုင်း ပြန်ဖြစ်ဖို့ နည်းပရိယာယ် ဥပါယ်တံမျဉ် ရှိပါတယ်၊ အဲဒီ နည်းပရိယာယ်က လမ်းသွားလမ်းလာ လူတွေ မြင် လောက်တဲ့ အိမ်ရဲ့ တစ်နေရာမှာ ဖျာခင်းပြီး အဲဒီဖျာပေါ်မှာ မီးသွေး တွေ ပုံထားလိုက်ပါ၊ ပြီးရင် အသင်က အိမ်ဈေးရောင်းတဲ့သူလို မီးသွေးပုံဘေးနားမှာ ထိုင်နေလိုက်ပါ။

အိမ်ရှေ့ဖြတ်သွားဖြတ်လာလုပ်တဲ့ လူတွေထဲက 'ဟာ သူဌေး ကြီး… ဘယ့်နှယ်လဲ၊ သူများတွေက ဆန်တွေ၊ ဆီတွေ၊ ပျားရည်တွေ ရောင်းလို့၊ သင်သူဌေးကြီးကတော့ မီးသွေးတွေ ရောင်းလို့ပါလား' လို့ ပြောလာတဲ့သူတွေကို သူငယ်ချင်းက စကားရှည်ရှည်ဝေးဝေး ပြန်ပြော မနေဘဲ 'ဟ… ငါ့ဥစ္စာတွေ မရောင်းလို့ ဘာလုပ်ရမှာလဲ' လို့ တိုတို တုတ်တုတ်ပဲ ပြန်ပြောလိုက်ပါ။

အဲဒီလို မဟုတ်ဘဲ ‘ဘယ့်နှယ်လဲ သူဌေးကြီး··· အခြားလူတွေက အဝတ်အထည်တွေ၊ စားသောက်ကုန်တွေ ရောင်းလို့၊ သင်သူဌေးကြီးကတော့ ရွှေတွေ၊ ငွေတွေ ရောင်းနေသကိုး’လို့ ပြောလာတဲ့သူဆိုရင်တော့ ‘ဘယ်မှာလဲ ရွှေတွေ ငွေတွေ’လို့ ပြန်မေးလိုက်ပါ။ အဲဒီသူက ‘ဒီမှာလေ···’လို့ ပြောလာခဲ့ရင် သူငယ်ချင်းက ‘အဲဒီပစ္စည်းတွေ ယူခဲ့ပါဦး’လို့ ပြောပြီး အဲဒီလူ ပေးလာတဲ့ ပစ္စည်းတွေကို လက်နှစ်ဖက်နဲ့ ခံယူလိုက်ပါ။ တကယ်တော့ အဲဒီလို ပြောလာတဲ့သူဟာ ဘုန်းရှင်ကံရှင် ဖြစ်တယ်။ ဒီလိုနည်းနဲ့ အဲဒီဘုန်းရှင်ကံရှင်လက်နဲ့ ယူပေးလာတဲ့ ဥစ္စာတွေဟာ သူငယ်ချင်းရဲ့ လက်ထဲမှာ မူလပကတိအတိုင်း ရွှေတွေ၊ ငွေတွေပဲ ပြန်ဖြစ်သွားပါလိမ့်မယ်။

သူငယ်ချင်း··· တစ်ဆက်တည်း ဆက်ပြီး အထူး သတိပေးလိုတာကတော့ အဲဒီလို ပြောလာတဲ့သူဟာ မိန်းကလေးဖြစ်ခဲ့ရင် အဲဒီမိန်းကလေးကို သင့်ရဲ့သားနဲ့ နေရာချထားပေးလိုက်ပါ၊ ပြီးတဲ့အခါ ကုဋေလေးဆယ်ရှိတဲ့ အဲဒီရွှေတွေ ငွေတွေကို သင့်ချွေးမထံမှာ အပ်နှံထားလိုက်ပါ၊ သင့်ချွေးမက စီမံပေးတဲ့ ပစ္စည်းဥစ္စာကိုပဲ သင်သုံးဆောင်ပါ။

တကယ်လို့ အဲဒီလို ပြောလာတဲ့သူက ယောကျ်ားလေး ဖြစ်ခဲ့ရင် သင့်သမီးနဲ့ နေရာချထားပေးလိုက်ပါ၊ ပြီးရင် အဲဒီရွှေငွေတွေကို သမက်ဖြစ်သူထံ အပ်နှံထားပြီး အဲဒီသမက် စီမံပေးတာကိုပဲ သင်သုံးဆောင်ပါ”

အခုလို သူငယ်ချင်းတစ်ယောက်က သူဌေးကြီးကို နည်းလမ်းဥပါယ်ကောင်း ပေးခဲ့ပါတယ်။

## ဘုန်းရှင်ကံရှင် ကိသာဂေါတမီ

စီးပွားပျက်သူဌေးလည်း ‘ဒါ အလွန်ကောင်းတဲ့ နည်းလမ်းပဲ’ လို့ သဘောကျပြီး သူ့သူငယ်ချင်း အကြံပေးတဲ့အတိုင်း လူအများ

မြင်လောက်တဲ့နေရာမှာ ဖျာခင်းပြီး ဖျာပေါ်မှာ မီးသွေးတွေ ပုံထား လိုက်တယ်။ အိမ်ဈေးရောင်းတဲ့သူလို မီးသွေးပုံဘေးမှာ သူက ထိုင်နေ လိုက်တယ်။

"သူဌေးကြီး… ဘယ်လိုလဲ၊ သူများတွေက အဝတ်အထည် တွေ ရောင်းလို့၊ သူဌေးကြီးကတော့ ဘာလို့ မီးသွေးတွေ ရောင်းနေရ တာတုံး"လို့ ပြောလာတဲ့သူတွေကို သူဌေးကြီးက "ငါ့ ပစ္စည်းဥစ္စာ မရောင်းလို့ ဘာလုပ်ရမှာလဲ"လို့ပဲ ခပ်ပြတ်ပြတ်စကားနဲ့ တုံ့ပြန် လိုက်တယ်။

တစ်နေ့မှာတော့ အထည်ကြီးပျက်မျိုးရိုးမှာ မွေးဖွားခဲ့တဲ့ ကိသာဂေါတမီ အမျိုးသမီးလေးဟာ ကိစ္စတစ်ခုနဲ့ စီးပွားပျက် သူဌေးကြီးအိမ်ရှေ့ ရောက်လာတယ်။ သူဌေးကြီးကို မြင်လိုက်တာနဲ့ ကိသာဂေါတမီက "အို… ဖခင်၊ ဘယ့်နှယ်ပါလဲ၊ သူများတွေက ဆန်တွေ၊ ဆီတွေ ရောင်းလို့၊ သင် ဖခင်ကတော့ ရွှေတွေ၊ ငွေတွေ ရောင်းနေတာကိုး"လို့ ပြောဆိုခဲ့တယ်။ ဒီအခါ သူဌေးကြီးက "သမီး… ဘယ်မှာလဲ ရွှေတွေ၊ ငွေတွေ"လို့ မေးတာနဲ့ ကိသာ ဂေါတမီက "ဖခင်… သင်ဟာ ဒီရွှေတွေ၊ ငွေတွေ စုပုံပြီး ထိုင် ရောင်းနေတာ မဟုတ်ပါလား"လို့ ပြန်ပြောလိုက်တယ်။

"သမီး… ဒါဆိုရင် အဲဒီ ရွှေတွေ၊ ငွေတွေ ယူခဲ့ပါဦး"လို့ သူဌေးကြီးက ပြောလိုက်တယ်။ ကိသာဂေါတမီဟာ လက်ခုပ်အပြည့်နဲ့ ယူပြီး သူဌေးကြီးလက်ထဲ ထည့်ပေးလိုက်တယ်။ ဒီနည်းနဲ့ သူဌေးကြီးရဲ့ ပစ္စည်းအားလုံးဟာ မူလပကတိအတိုင်း ရွှေနဲ့ ငွေတွေပဲ ပြန်ဖြစ်ခဲ့ပါ တယ်။

## သူဌေးချွေးမ ကိသာဂေါတမီ

ဒီနောက်မှာတော့ သူဌေးကြီးဟာ ကိသာဂေါတမီရဲ့ ဘဝ အခြေအနေကို မေးမြန်းပြီး အိမ်ထောင် မရှိသေးတာ သိတာနဲ့ ကိသာ

ဂေါတမီကို သူ့သားနဲ့ နေရာချပေးခဲ့ပါတယ်။ ပြီးတဲ့အခါ ကုဋေ လေးဆယ် ပစ္စည်းဥစ္စာတွေ အားလုံးကိုလည်း ကိသာဂေါတမီထံ အပ်နှံထားလိုက်ပါတယ်။ ဒါပေမဲ့ သူဌေးကြီးရဲ့အိမ်မှာရှိတဲ့ လူတွေက ကိသာဂေါတမီကို 'ဆင်းရဲသမ'လို့ပဲ ခပ်နှိမ်နှိမ် ပြောဆို ဆက်ဆံခဲ့ ကြတယ်။ နောက်ပိုင်းမှာတော့ ကိသာဂေါတမီမှာ သားလေး တစ်ယောက် မွေးဖွားခဲ့တယ်။ သားလေး မွေးဖွားတဲ့အချိန်ကစပြီး သူဌေးအိမ်မှာရှိတဲ့လူတွေဟာ ပုံစံပြောင်းသွားခဲ့ကြတယ်။ သူမကို အရင်လို မလေးမစား မလုပ်တော့ဘဲ လေးလေးစားစားနဲ့ ပြောဆို ဆက်ဆံလာကြတော့တယ်။

## ကိသာဂေါတမီ အရူးတစ်ပိုင်းဖြစ်

ဒါပေမဲ့ ကံဆိုးချင်တော့ ကိသာဂေါတမီရဲ့ သားလေးဟာ ပြေးနိုင်လွှားနိုင် ဆော့ကစားနိုင်တဲ့ ချစ်စရာ အရွယ်လေးမှာပဲ ရုတ်တရက် ဆုံးသွားခဲ့တယ်။ ဒီအခါ ကိသာဂေါတမီခမျာ သောကမီး တွေ တောက်လောင်ပြီး အရူးတစ်ပိုင်း ဖြစ်သွားတော့တယ်။ 'ငါ့ သားလေးကို အကြောင်းပြုပြီး ငါ့မှာ လူလေးစားသူလေးစားခံရတဲ့ဘဝ ရောက်ခဲ့ရတယ်၊ ခုတော့ ငါ့သားလေ သေရှာပါပေါ့၊ လူတွေက ငါ့သားလေးကို သင်္ချိုင်းမှာ သွားစွန့်ပစ်ကြတော့မယ်'လို့တွေးပြီး သားသေလေးကို ရင်မှာ ပိုက်ရင်း "ကျွန်မသားလေးအတွက် အသက် ရှင်ဆေး ပေးကြပါ၊ ကျွန်မသားလေးအတွက် အသက်ရှင်ဆေး ပေးကြ ပါ"လို့ နှုတ်ကနေ တတွတ်တွတ်ရွတ်ပြီး အိမ်ပေါက်စေ့ လျှောက်သွား ပါတော့တယ်။

ဒီအခါ တွေ့သမျှ မြင်သမျှ လူတွေက "ဟဲ့… သေသွားတဲ့ သူ ပြန်ရှင်ဖို့အတွက် အသက်ရှင်ဆေး ဆိုတာ ဘယ်မှာ ရှိလို့လဲ၊ ဘယ်မှာ မြင်ဖူးလို့လဲ"လို့ ပြက်ရယ်ပြု ပြောင်လှောင် ပြောဆိုကြ

တယ်။ ကိသာဂေါတမီခမျာ လူတွေက အဲဒီလို ပြောင်လှောင်ပြောဆို ကြပေမယ့် အသိတရားလည်း မရနိုင်၊ သတိလည်း မထားနိုင် ဖြစ်ခဲ့ရှာ တယ်။ ဒါပေမဲ့ ကံကောင်းချင်တော့ ကိသာဂေါတမီဟာ ကိုယ်ချင်း စာစိတ်ရှိတဲ့ ပညာရှိတစ်ယောက်နဲ့ တွေ့ခဲ့ပါတယ်။ အဲဒီ ပညာရှိက ကိသာဂေါတမီကို မြင်လိုက်တာနဲ့ 'သြော်··· ဒီသူငယ်မ သား သောကကြောင့် စိတ်ကယောက်ကယက် ဖြစ်နေရှာတာကိုး၊ ဒီသူငယ်မ လိုချင်တဲ့ဆေးကို ကျန်တဲ့သူတွေတော့ တစ်ယောက်မှ သိမှာ မဟုတ်ဘူး၊ မြတ်စွာဘုရားရှင်ပဲ သိတော်မူလိမ့်မယ်'လို့ စဉ်းစားမိလိုက်တယ်။

ပြီးတဲ့ အခါမှာတော့ အဲဒီ ပညာရှိက ကိသာဂေါတမီကို "ချစ်သမီး··· ချစ်သမီးရဲ့ သားလေးအတွက် အသက်ပြန်ရှင်နိုင်မယ့် ဆေးကို မြတ်စွာဘုရားရှင်မှတစ်ပါး အခြားသိနိုင်တဲ့သူဆိုတာ မရှိဘူး၊ မြတ်စွာဘုရားရှင်လည်း အခု ဇေတဝန်ကျောင်းတိုက်မှာ သီတင်းသုံး နေတော်မူလျက် ရှိနေတယ်၊ ဒီတော့ သင်ချစ်သမီးဟာ မြတ်စွာ ဘုရားရှင်ထံပဲ သွားပြီး မေးမြန်းလျှောက်ထားပါ"လို့ အကြံပေး တိုက်တွန်းလိုက်တယ်။

## သောကငြိမ်းကြောင်း နည်းလမ်းကောင်း

ဒီအခါ ကိသာဂေါတမီဟာ 'ဒီပညာရှိပုဂ္ဂိုလ်ဟာ အမှန် ပြောတာ ဖြစ်မယ်'လို့ အောက်မေ့ပြီး သားသေလေး ရင်ဝယ်ပိုက် လျက်နဲ့ မြတ်စွာဘုရားရှိရာ ဇေတဝန်ကျောင်းတော်ကို သွားခဲ့ပါတယ်။ အဲဒီအချိန်မှာ ပရိသတ်တွေကို မြတ်စွာဘုရားရှင် တရားဟောနေတဲ့ အချိန် ဖြစ်ပါတယ်။ ကိသာဂေါတမီဟာ ဇေတဝန်ကျောင်းတိုက်ထဲ ဝင်ပြီး တရားနာပရိသတ်ရဲ့ အစွန်ကနေ "မြတ်စွာဘုရား၊ တပည့်တော်မ ရဲ့ သားလေးအတွက် အသက်ရှင်ဆေး ပေးသနားတော်မူပါ ဘုရား"လို့ အော်ဟစ် လျှောက်ထားလိုက်တယ်။

မြတ်စွာဘုရားရှင်က ဉာဏ်တော်နဲ့ ကြည့်လိုက်တဲ့အခါ ကိသာဂေါတမီရဲ့ တရားထူးရနိုင်တဲ့ ရှေးကောင်းမှုကုသိုလ်ကံ ရှိကြောင်းကို မြင်တော်မူပါတယ်။ ဒါကြောင့်ပဲ မြတ်စွာဘုရားက "ချစ်သမီး ဂေါတမီ… သင့်သားအသက်ရှင်ဆေး ရဖို့အတွက် ဒီကို ရောက်လာတာ သိပ်ကောင်းတယ်၊ ချစ်သမီး ဂေါတမီ… ဒီတော့ သင် သာဝတ္ထိမြို့ထဲ သွားပါ၊ မြို့စွန်အိမ်ကနေစပြီး တစ်မြို့လုံးမှာရှိတဲ့ အိမ်တွေကို သွားပါ၊ လူတစ်ယောက်မှ မသေဖူးတဲ့အိမ်ကနေ မုန်ညင်း ဆီ နည်းနည်းတောင်းခဲ့ပါ" လို့ ကိသာဂေါတမီကို မိန့်တော်မူလိုက်ပါ တယ်။

ကိသာဂေါတမီရဲ့ စိတ်ထဲမှာ 'မုန်ညင်းဆီရရင် သူ့သား ကလေး အသက်ပြန်ရှင်လာမယ်' လို့ ထင်ပြီး အားရဝမ်းသာ ဖြစ်သွား တယ်။ တကယ်တော့ မြတ်စွာဘုရားက 'ဒီမုန်ညင်းဆီရရင် သင့်သား ကလေး အသက်ပြန်ရှင်လာမယ်' လို့ မိန့်ခဲ့တာတော့ မဟုတ်ပါဘူး။ ဥပါယ်တံမျဉ်နဲ့ 'သေတယ်ဆိုတာ တစ်ယောက်တည်း၊ တစ်အိမ် တည်း၊ တစ်ရွာတည်း၊ တစ်မြို့တည်းနဲ့သာ ဆိုင်တာမဟုတ်၊ လူတိုင်း၊ ရပ်တိုင်း၊ ရွာတိုင်းနဲ့ ဆိုင်တဲ့ သဘာဝတရား ဖြစ်တယ်"ဆိုတာ သဘောပေါက်ပြီး သောကမီးကို ငြိမ်းအောင် ကိုယ်ပိုင်အသိတရားနဲ့ ထိန်းစေချင်လို့ ခုလို မုန်ညင်းဆီ ရှာခိုင်းတော်မူတာ ဖြစ်ပါတယ်။

ဒါပေမဲ့ ကိသာဂေါတမီကတော့ သူ့သားအတွက် အသက် ရှင်ဖို့ နည်းလမ်းကောင်းရပြီဆိုတဲ့ ဝမ်းသာစိတ်နဲ့ပဲ "ကောင်းပါပြီ အရှင်ဘုရား"လို့ မြတ်စွာဘုရားကို လျှောက်ထားပြီး သာဝတ္ထိမြို့ထဲ ဝင်ခဲ့တယ်။ ပထမဦးဆုံးတွေ့ရတဲ့အိမ် ရောက်တဲ့အခါ "ကျွန်မကို မုန်ညင်းဆီ နည်းနည်းလောက် ပေးပါရှင်၊ မြတ်စွာဘုရားရှင်က ကျွန်မသားလေး အသက်ပြန်ရှင်ဆေးအတွက် တောင်းခိုင်းလို့ပါ"လို့ သားငယ်လေးအလောင်းကို ပိုက်ရင်း အိမ်ရှင်တွေကို ပြောပါတယ်။ အိမ်ရှင်တွေက သနားတဲ့စိတ်ထားနဲ့ မုန်ညင်းဆီ ပေးကြပါတယ်။

ဒီအခါ ကိသာဂေါတမီက "ကျွန်မ တစ်ခုလောက်တော့ မေးပါရစေ၊ ဒီအိမ်မှာ အရင်က တစ်ယောက်ယောက်များ သေဖူးတာ ရှိပါသလား" လို့ မေးလိုက်ပါတယ်။ အိမ်ရှင်တွေက "ဘယ့်နှယ်ပြောပါလိမ့် ဂေါတမီ… ဒီအိမ်မှာ အရင်က သေသွားကြတဲ့သူတွေဆိုတာ ရေတောင်မရေနိုင်ဘူး" လို့ ပြန်ဖြေကြတယ်။ ဒီအဖြေကြားရတဲ့အခါ ကိသာဂေါတမီက "ဒီလိုဆို တော်ပါပြီ၊ ကျွန်မ ဒီမုန်ညင်းဆီကို မယူတော့ပါဘူး၊ ကျွန်မကို မြတ်စွာဘုရားက လူမသေဖူးတဲ့အိမ်က မုန်ညင်းဆီကိုသာ အတောင်းခိုင်းလိုက်တာပါ" လို့ ပြောပြီး အဲဒီ အိမ်ကနေ ပြန်ထွက်လာခဲ့တယ်။

## ကိသာဂေါတမီ သံဝေဂဉာဏ်ရပြီ

ကိသာဂေါတမီဟာ ဒီလိုနဲ့ နောက်ထပ် နှစ်အိမ်၊ သုံးအိမ်လောက် ဆက်ပြီး ဝင်ရောက်မေးမြန်းခဲ့ပါတယ်။ တတိယအိမ်က ပြန်ထွက်ပြီးတဲ့ အခါမှာတော့ 'သြော်… တစ်မြို့လုံး ဒီလိုချည်း ဖြစ်မှာပါပဲ၊ ဒီသဘောဟာ တကယ်တော့ သတ္တဝါတွေရဲ့အစီးအပွားကို လိုလားတော်မူတဲ့ မြတ်စွာဘုရားရှင် မြင်တော်မူပြီး ဖြစ်ပါလိမ့်မယ်" လို့ သတိသံဝေဂဉာဏ်တွေ ရလာခဲ့တယ်။ ဒီနောက်တော့ ကိသာဂေါတမီဟာ မြို့ပြင်ထွက်ပြီး သုသာန်သင်္ချိုင်းဆီ သွားခဲ့တယ်။ သင်္ချိုင်းရောက်တဲ့အခါ သားငယ်ရဲ့ ရုပ်အလောင်းကို လက်နဲ့ ကိုင်ပြီး "ချစ်သားရယ်… အမေဟာ ဒီသေခြင်းသဘောဆိုတာ သားမှာပဲ ကွက်ပြီး ဖြစ်တာလို့ အထင်မှားခဲ့မိတယ်၊ တကယ်တော့ သေခြင်းဆိုတာ သင်ချစ်သားမှာပဲ ဖြစ်တာ မဟုတ်ပါဘူး၊ လူတကာ၊ အိမ်တကာနဲ့ ဆက်ဆံတဲ့ သဘာဝတရား ဖြစ်နေပါလား" လို့ ပြောဆိုရင်း သားငယ်ရဲ့ ရုပ်အလောင်းကို သုသာန်မှာ စွန့်ပစ်လိုက်တယ်။

ပြီးတော့ ဖော်ပြပါ အဓိပ္ပာယ်ရတဲ့ ဂါထာကို ရွတ်ဆိုပြီး သံဝေဂဉာဏ်တွေ ပွားခဲ့တယ်။

"ဒီရုပ်နာမ်ဓမ္မ သင်္ခါရတရားတွေရဲ့ မမြဲခြင်းသဘောဆိုတာ တစ်ရွာတည်း၊ တစ်နယ်တည်း၊ တစ်အိမ်တည်း ကွက်ပြီးဖြစ်တဲ့ သဘော မဟုတ်ပါဘူး၊ တကယ်တော့ ဒီရုပ်နာမ်ဓမ္မ သင်္ခါရတရား တွေရဲ့ မမြဲခြင်းသဘောဆိုတာ လူတွေတင်မက နတ်တွေရော၊ ဗြဟ္မာ တွေရော တစ်လောကလုံး ရှိရှိသမျှ သတ္တဝါတွေရဲ့ လွန်ဆန်လို့မရတဲ့ သဘာဝလမ်းရိုးကြီးပါလား"

ကိသာဂေါတမီဟာ အခုလို သံဝေဂဉာဏ်တွေ ပွားရင်းနဲ့ပဲ မြတ်စွာဘုရားထံ ပြန်လာခဲ့ပါတယ်။ မြတ်စွာဘုရားထံ ရောက်တဲ့အခါ မြတ်စွာဘုရားက "ချစ်သမီး ဂေါတမီ… မုန်ညင်းဆီ ရခဲ့လား" လို့ မေးတော်မူပါတယ်။ ဒီအခါ ကိသာဂေါတမီက "မြတ်စွာ ဘုရား… မုန်ညင်းဆီနဲ့ လုပ်ဆောင်ဖွယ် ကိစ္စ မရှိတော့ပါ ဘုရား၊ မြတ်စွာဘုရား… ရှင်တော်ဘုရားအနေနဲ့ တပည့်တော်မရဲ့ ထောက်ရာ တည်ရာ အားကိုးရာကိုသာ ပေးသနားတော်မူပါ ဘုရား"လို့ တောင်းပန် လျှောက်ထားလိုက်ပါတယ်။

## ကိသာဂေါတမီ သောတာပန်တည်

ဒီလို တောင်းပန်လျှောက်ထားတဲ့အခါ မြတ်စွာဘုရားရှင်က ဖော်ပြပါ အဓိပ္ပာယ်ရတဲ့ ဂါထာတွေနဲ့ တရားပြတော်မူခဲ့ပါတယ်။

**"ချစ်သမီး ဂေါတမီ… အိပ်ပျော်နေတဲ့ ရွာသူရွာသားတွေကို တစ်ဟုန်ထိုး စီးကျလာတဲ့ ချောင်းရေအလျဉ်၊ မြစ်ရေအလျဉ်တွေက ကျွဲ နွား ခွေးတွေပါ မကျန် တိုက်ဆောင်ယူငင် စီးဆင်းသွားတယ်၊ ဒီဥပမာလိုပဲ သားရေး၊ သမီးရေး၊ စီးပွားရေးတွေနဲ့ပဲ ငြိကပ်တွယ်တာ မေ့လျော့နေတဲ့ လူတွေကို သေမင်းဆိုတဲ့ သေခြင်းတရားက ယူဆောင် သွားတော့တာပါ"**

**"ချစ်သမီး ဂေါတမီ… ရုပ်နာမ်ဓမ္မ သင်္ခါရတရားတွေရဲ့ အဖြစ်နဲ့အပျက်ကို မမြင်ဘဲ အသက်တစ်ရာရှည်ပြီး နေရတဲ့သူထက်**

**ရုပ်နာမ်ဓမ္မ သင်္ခါရတရားတွေရဲ့ အဖြစ်နဲ့အပျက်ကို မြင်ပြီး တစ်ရက်ကလေး အသက်ရှင်နေရသူက ပိုပြီး မြင့်မြတ်လှပါပေတယ်”**

ဒီတရားဒေသနာတော်အဆုံးမှာတော့ ကိသာဂေါတမီဟာ သောတာပတ္တိဖိုလ်သို့ ဆိုက်ရောက်ခဲ့ပြီး သောတာပန်အရိယာပုဂ္ဂိုလ် ဖြစ်ခဲ့ပါတယ်။

## ကိသာဂေါတမီ ဘိက္ခုနီရဟန်းပြုပြီ

ကိသာဂေါတမီဟာ သောတာပန်အရိယာပုဂ္ဂိုလ် ဖြစ်ပြီးတဲ့နောက် မြတ်စွာဘုရားရှင်ထံမှာ ဘိက္ခုနီရဟန်းမ ပြုခွင့် တောင်းခံခဲ့ပါတယ်။ မြတ်စွာဘုရားရှင်ကလည်း ခွင့်ပြုတော်မူခဲ့ပါတယ်။ ဒီနောက်မှာတော့ ကိသာဂေါတမီဟာ မြတ်စွာဘုရားကို ရှိခိုးကန်တော့လိုက်တယ်၊ ပြီးတဲ့အခါ ဘိက္ခုနီမကျောင်းသွားပြီး ရှင်ရဟန်းအဖြစ်ကို ခံယူခဲ့ပါတယ်။ အဲဒီအချိန်ကစပြီး ‘ကိသာဂေါတမီထေရီ’ရယ်လို့ ထင်ရှားလာခဲ့ပါတယ်။

## ကိသာဂေါတမီထေရီ ရဟန္တာဖြစ်

ကိသာဂေါတမီထေရီမဟာ ဘိက္ခုနီရဟန်းမ ဖြစ်ပြီးတဲ့ နောက် ဝိပဿနာတရားကို ကြိုးစား ပွားများ အားထုတ်ခဲ့ပါတယ်။ တစ်နေ့မှာတော့ ဥပုသ်ပြုရာ သိမ်တန်ဆောင်းမှာ ဝေယျာဝစ္စ လုပ်ရမယ့် တာဝန်အလှည့်ကျခဲ့ပါတယ်။ ဒီအခါ တံမြက်စည်းလှည်းတာစတဲ့ ဝေယျာဝစ္စလုပ်ငန်းဆောင်တာတွေ ပြုပြီးတဲ့နောက် ညနေပိုင်း မှောင်လာတဲ့အခါ သိမ်တန်ဆောင်းထဲမှာ ဆီမီးညှိထွန်းလိုက်ပါတယ်။ ဆီမီးညှိထွန်းပြီး ဆီမီးတောက်ကို ကြည့်ရင်းနဲ့ ထိုင်နေတဲ့အခါ မီးတောက်မီးလျှံတွေ တဖြစ်ပျက်ပျက် ရှိနေတာကို မြင်ခဲ့ပါတယ်။

မီးတောက်မီးလျှံတွေရဲ့ တဖြစ်ပျက်ပျက် ဖြစ်နေတာကို ကြည့်ရင်း **“သြော်… ဒီဆီမီးတောက် မီးလျှံတွေ ဖြစ်ဖြစ်ပြီး**

**ပျက်ပျက်သွားကြတယ်၊ ဒီဥပမာလိုပဲ လောကထဲမှာရှိတဲ့ သတ္တဝါတွေလည်း ဖြစ်လည်း ဖြစ်ကြ၊ ပျက်လည်း ပျက်ကြတယ်၊ နိဗ္ဗာန်ရောက်ပြီးတဲ့သူများမှာပဲ ဒီဖြစ်သဘော၊ ပျက်သဘောတွေ မရှိတော့တာပါလား"** လို့ တရားအာရုံကို နှလုံးသွင်း ဆင်ခြင် ပွားများလိုက်တယ်။

ဒီအခါ မြတ်စွာဘုရားရှင်က ဂန္ဓကုဋီတိုက်တော်ထဲမှာ ထိုင်နေတော်မူရင်းကပဲ ရောင်ခြည်တော်လွှတ်လိုက်ပါတယ်။ ပြီးတဲ့အခါ ထေရီမရဲ့ရှေ့မှာ ကိုယ်တိုင်ထိုင်ပြီး တရားဟောတော်မူဘိအလား "ချစ်သမီး ဂေါတမီ... သင် ချစ်သမီး စဉ်းစားဆင်ခြင်တဲ့အတိုင်း မှန်ပါတယ်၊ ဒီသတ္တဝါတွေဟာ ဆီမီးလျှံတွေလို ဖြစ်လည်း ဖြစ်၊ ပျက်လည်း ပျက်ကြတယ်၊ နိဗ္ဗာန်ကို ရတဲ့သူတွေမှာပဲ ဖြစ်၊ ပျက်သဘောတွေ မရှိတော့တာ ဖြစ်ပါတယ်"လို့ စကားအနုသန္ဓေ ဆက်စပ်ပြီး ဖော်ပြပါ အဓိပ္ပာယ်ရတဲ့ ဂါထာနဲ့ တရားဟောတော်မူခဲ့ပါတယ်။

**"ချစ်သမီး ဂေါတမီ... နိဗ္ဗာန်တရားကို မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်နဲ့ မမြင်ရဘဲ အနှစ်တစ်ရာ အသက်ရှည်ရသူထက် နိဗ္ဗာန်ကို မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်နဲ့ မြင်ရသူရဲ့ တစ်ခဏမျှ အသက်ရှင်ရတာက ပိုပြီး ချီးမွမ်းထိုက်ပါပေတယ်၊ ပိုပြီး မြတ်လှပါပေတယ်"**

ဒီတရားဒေသနာ အဆုံးမှာ ကိသာဂေါတမီထေရီမဟာ အရဟတ္တဖိုလ် ဆိုက်ရောက်ပြီး အာသဝေါကုန်ခန်းတဲ့ ရဟန္တာထေရီမ ဖြစ်ခဲ့ပါတယ်။

## (ဃ) လူခစီဝရဓရေတဒဂ်ဘွဲ့ထူးနဲ့ ချီးမြှောက်ခံရ

ကိသာဂေါတမီထေရီမကြီးဟာ ရဟန္တာဖြစ်ပြီးတဲ့နောက် ပရိက္ခရာကို သုံးစွဲတဲ့အခါ ရှေးဆုတောင်းအတိုင်း အထွတ်အထိပ်ရောက် ခေါင်းပါးစွာ ဝတ်ရုံသုံးဆောင်ခဲ့ပါတယ်။ ထေရီမ ဝတ်ရုံတဲ့

သက်န်းဟာ အဝတ်အထည်၊ အသားစအနေနဲ့လည်း ကြမ်းတမ်း ညံ့ဖျင်းပါတယ်။ သက်န်း ချုပ်တဲ့ချည်ကလည်း ကြမ်းတမ်းညံ့ဖျင်းတဲ့ အပြင် ဆိုးရည်ဆိုးတဲ့အခါလည်း သက်န်းအဖြစ် အပ်စပ်ရုံလောက်ပဲ အညံ့စားဆိုးရည်တွေနဲ့ ဆိုးထားတာ ဖြစ်ပါတယ်။ အခုလို အသားစ ကြမ်းတမ်းတာ၊ ချုပ်တဲ့ ချည် ကြမ်းတမ်းတာ၊ ဆိုးရည် အညံ့စား ဖြစ်တာဆိုတဲ့ အင်္ဂါသုံးမျိုးရှိတဲ့ သက်န်းကိုပဲ ထေရီမကြီးဟာ ဝတ်ရုံ သုံးစွဲခဲ့ပါတယ်။

ဒါကြောင့်ပဲ မြတ်စွာဘုရားရှင်က ဇေတဝန်ကျောင်းတိုက်မှာ ပြုလုပ်တဲ့ သံဃာ့အစည်းအဝေးသဘင်မှာ ကိသာဂေါတမီထေရီမ ကြီးကို "ကြမ်းတမ်း ခေါင်းပါး ညံ့ဖျင်းတဲ့ သက်န်းကို ဝတ်ရုံ သုံးဆောင်ကြတဲ့ ဘိက္ခုနီမတွေထဲမှာ ကိသာဂေါတမီဟာ အသာဆုံး အမြတ်ဆုံး ဖြစ်ပါပေတယ်"လို့ ချီးကျူးတော်မူပြီး 'လူခစီဝရဓရ တေဒဂ်'ဘွဲ့ထူးနဲ့ ချီးမြှောက်တော်မူခဲ့ပါတယ်။

## ကိသာဂေါတမီထေရီမကြီးရဲ့ ဥဒါန်း

ကိသာဂေါတမီထေရီမကြီးဟာ ရဟန္တာဖြစ်ပြီးတဲ့အခါ မိမိရဲ့ အကျင့်ပဋိပတ်ကို ဉာဏ်နဲ့ ဆင်ခြင်လိုက်ပါတယ်။ ဒီလို ဆင်ခြင်လိုက်တဲ့အခါ 'သြော်...ငါဟာ မြတ်စွာဘုရားတည်းဟူသော မိတ်ဆွေကောင်းကို အမှီပြုပြီးမှ ဒီတရားထူးကို ရခဲ့တာပါလား'လို့ သိခဲ့ပြီး မိတ်ဆွေကောင်းရဲ့ တန်ဖိုး ကြီးမားပုံကို သဘောပေါက် နားလည်ခဲ့ပါတယ်။

ဒီအခါ မိတ်ကောင်းဆွေကောင်း ရှိခြင်းရဲ့ ကျေးဇူးဂုဏ်ကို ချီးကျူးတဲ့အနေနဲ့ ဂါထာပေါင်း ၁၁ ဂါထာနဲ့ ဥဒါန်းကျူးခဲ့ပါတယ်။ ဒီဂါထာတွေကို ထေရီဂါထာပါဠိတော်မှာ မှတ်တမ်းတင်ထားပါတယ်။ အခု ထေရီမရဲ့ ဥဒါန်းကောက်နုတ်ချက်ကို ဖော်ပြပါမယ်။

“မြတ်စွာဘုရားရှင်ဟာ အဆွေခင်ပွန်းကောင်း ရှိတာကို ချီးမွမ်းတော်မူတယ်”

“ဘုရား စတဲ့ အဆွေခင်ပွန်းကောင်းတွေကို မှီဝဲဆည်းကပ်ရင် လူမိုက်ကလည်း လူလိမ္မာ ဖြစ်နိုင်တယ်၊ ဒါကြောင့် ဘုရား စတဲ့ သူတော်ကောင်းတွေကို အမြဲတမ်း မှီဝဲဆည်းကပ်သင့်တယ်”

“ဘုရား စတဲ့ အဆွေခင်ပွန်းကောင်း သူတော်ကောင်းတွေကို မှီဝဲဆည်းကပ်တဲ့သူတွေမှာ ပညာတွေ တိုးပွားနိုင်တယ်၊ ဆင်းရဲဒုက္ခတွေ အားလုံးကနေ လွတ်မြောက်နိုင်တယ်၊ ဒုက္ခသစ္စာ၊ သမုဒယသစ္စာ၊ နိရောဓသစ္စာ၊ မဂ္ဂသစ္စာဆိုတဲ့ သစ္စာလေးပါးကို သိမြင်နိုင်တယ်”

“များသောအားဖြင့် မိန်းမတွေဆိုတာ လျှပ်ပေါ်လော်လည်တတ်တယ်၊ မနာလိုမှု၊ ဝန်တိုမှုတွေ များတယ်၊ ကိုယ်ဝန်ဆောင်ရတယ်၊ ဒါကြောင့် မိန်းမဖြစ်ရတာဟာ ဆင်းရဲတယ်လို့ မြတ်စွာဘုရား ဟောတော်မူတယ်”

“နောက်ပြီး မိန်းမဆိုတာ လင်တူမိန်းမအဖြစ်နဲ့ နေရရင်လည်း ဆင်းရဲတယ်၊ သားဖွားရတဲ့ ဒုက္ခကလည်း ကြီးလှတယ်၊ တချို့မိန်းမတွေဆိုရင် သားဖွားရတဲ့ ဒုက္ခကို မခံနိုင်လို့ ကိုယ့်လည်ပင်းကို ဓားနဲ့လှီးတယ်၊ တချို့က အဆိပ်သောက်တယ်၊ ကိုယ်ဝန်ဆောင်ရတဲ့ ဒုက္ခကလည်း မသေးတာမို့ အဆင်မပြေရင် မိခင်ရော ကလေးပါ နှစ်ယောက်စလုံး သေကျေ ပျက်စီးနိုင်တယ်”

“အို… ကိသာဂေါတမီ… သင်ဟာ ခုဘဝမှာ အထည်ကြီးပျက် ဆင်းရဲတဲ့ အိမ်မှာ ဖြစ်ခဲ့ရတယ်၊ အိမ်ထောင်ကျပြန်တော့လည်း ‘ဆင်းရဲသမ’ဆိုပြီး ဝိုင်းနှိမ်တာကို ခံရတယ်၊ ဒါတွေကြောင့် သင်ဟာ မျက်ရည်တွေလည်း အများကြီး ကျခဲ့ဖူးပါပြီ၊ ဘဝသံသရာမှာလည်း ငိုခဲ့ရပေါင်း များလှပါပြီ”

"ခုတော့ မြတ်စွာဘုရားဆိုတဲ့ မိတ်ဆွေကောင်းကို အမှီပြုပြီး ဒီဒုက္ခတွေကနေ လွတ်မြောက်ငြိမ်းအေးခဲ့ပါပြီ၊ ငြိမ်းအေးတဲ့ နိဗ္ဗာန်ကို မျက်မှောက်ပြုနိုင်ခဲ့ပါပြီ"

ရောဂါဆိုတာ ရုပ်ရောဂါနဲ့ စိတ်ရောဂါဆိုပြီး နှစ်မျိုး ရှိပါတယ်။ ရုပ်ရောဂါ ဆိုတာကတော့ အများသိကြပြီးဖြစ်တဲ့အတိုင်း ခန္ဓာကိုယ်မှာဖြစ်တဲ့ ရုပ်ပိုင်းဆိုင်ရာ ရောဂါတွေကို ပြောတာပါ။ ရုပ်ရောဂါဖြစ်လာပြီဆိုရင် တတ်ကျွမ်းနားလည်တဲ့ သမားတော်တွေ၊ ဆရာဝန်တွေဆီမှာ သွားရောက် ပြသပြီး ကုသမှု ခံယူကြရပါတယ်။

စိတ်ရောဂါဆိုတာကတော့ စိတ်မှာ ကိလေသာအပူတွေ တောက်လောင်နေတာကို ဆိုလိုတာ ဖြစ်ပါတယ်။ စိတ်ရောဂါဖြစ်ပြီဆိုရင်တော့ ဘုရားပေးတဲ့ တရားဆေးနဲ့ပဲ ကုသကြရပါတယ်။ တရားဆေးက စိတ်ရဲ့ အနာဖြစ်တဲ့ ကိလေသာအပူတွေကို ချက်ချင်း ငြိမ်းစေပါတယ်။ ကိလေသာအပူတွေ အမြစ်ပြတ် ငြိမ်းအောင်ဆိုရင် တရားဆေးမှတစ်ပါး အားကိုးစရာ မရှိပါဘူး။ တရားဆေးသည်သာ အကောင်းဆုံးဆေး ဖြစ်ပါတယ်။

တစ်ခါမှာတော့ မိလိန္ဒမင်းကြီးက အရှင်နာဂသိန်ကို "အရှင်ဘုရား နာဂသေန... မြတ်စွာဘုရားရဲ့ တရားဆေးဆိုတာ ဘယ်လိုဟာပါလဲ ဘုရား"လို့ မေးမြန်းခဲ့ပါတယ်။ ဒီအခါ အရှင်နာဂသေနက မိလိန္ဒမင်းကြီးကို ခုလို အဖြေပေးခဲ့ပါတယ်။

"ဒကာတော်မင်းကြီး... မြတ်စွာဘုရားရှင်ဟာ စိတ်ရောဂါပျောက်ဆေးတွေကို ဟောတော်မူခဲ့ပါတယ်၊ မြတ်စွာဘုရားက အဲဒီဆေးတွေနဲ့ လူတွေ နတ်ပြဟ္မာတွေကို စိတ်ရောဂါ ပျောက်ကင်းအောင် ကုသခဲ့ပါတယ်၊ အဲဒီဆေးတွေက သတိပဋ္ဌာန်လေးပါး၊ သမ္မပ္ပဓာန်လေးပါး၊ ဣဒ္ဓိပါဒ်လေးပါး၊ ဣန္ဒြေငါးပါး၊ ဗိုလ်ငါးပါး၊ ဗောဇ္ဈင်ခုနစ်ပါး၊ မဂ္ဂင်ရှစ်ပါးဆိုတဲ့ ဗောဓိပက္ခိယတရား ၃၇ ပါးပဲ ဖြစ်ပါတယ်။

ဒကာတော်မင်းကြီး… မြတ်စွာဘုရားရှင်ဟာ ဒီတရားဆေးတွေနဲ့ မှားယွင်းတဲ့အယူ၊ မှားယွင်းတဲ့အတွေး၊ မှားယွင်းတဲ့အပြော၊ မှားယွင်းတဲ့အပြုအမူ၊ မှားယွင်းတဲ့ အသက်မွေးမှု၊ မှားယွင်းတဲ့ အားထုတ်မှု၊ မှားယွင်းတဲ့ အမှတ်ရမှု၊ မှားယွင်းတဲ့ တည်ကြည်မှုဆိုတဲ့ မိစ္ဆာမဂ္ဂင် ရှစ်ပါးကို ဖယ်နုတ်ပေးတယ်၊ ဒီမှားယွင်းတဲ့အဆိပ်တွေကို စိတ်နှလုံးသားထဲကနေ ဖယ်ထုတ်ပေးတဲ့အနေနဲ့ ဝမ်းနုတ်ဆေးသဖွယ် အောက်ကို လျှောကျသွားအောင် ကုစားပေးတယ်။

နောက်ပြီး လောဘအဆိပ်၊ ဒေါသအဆိပ်၊ မောဟအဆိပ်၊ မာနအဆိပ်၊ ဒိဋ္ဌိအဆိပ်၊ ဝိစိကိစ္ဆာအဆိပ်၊ ထိနအဆိပ်၊ ဥဒ္ဓစ္စအဆိပ်၊ အဟိရိကအဆိပ်၊ အနောတ္တပ္ပအဆိပ် စတဲ့ ကိလေသာအဆိပ်တွေ အားလုံးကို ပျို့အန်ဆေးသဖွယ် အန်ထုတ်စေတယ်။

ဒကာတော်မင်းကြီး… ဒါဟာ မြတ်စွာဘုရားရဲ့ ဆေးတော်ကြီး ဖြစ်ပါတယ်။

ဒကာတော်မင်းကြီး၊ ဒါကြောင့် မြတ်စွာဘုရားက -

'ယေကေစိ ဩသဓာ လောကေ၊ ဝိဇ္ဇန္တိ ဝိဝိဓာ ဗဟူ။
ဓမ္မောသဓသမံ နတ္ထိ၊ ဧတံ ပိဝထ ဘိက္ခဝေါ။
ဓမ္မောသဓံ ပိဝိတွာန၊ အဇရာ မရဏာ သိယုံ။
ဘာဝယိတွာ စ ပဿိတွာ ၊ နိဗ္ဗုတာ ဥပဓိက္ခယေ။

'ရဟန်းတို့… လောကမှာ ဆေးတွေ အမျိုးမျိုး ရှိကြပါတယ်၊ အဲဒီ ဆေးတွေထဲမှာ တရားဆေးနဲ့တူတဲ့ ဆေးဆိုတာ မရှိပါဘူး၊ ဒါကြောင့် သင်ချစ်သားတို့ဟာ တရားဆေးကို သောက်ကြပါ၊ တရားဆေးသောက်ရတဲ့အတွက်ကြောင့် အိုလည်း မအိုရတော့ဘူး၊ သေလည်း မသေရတော့ဘူး။

သတိပဋ္ဌာန် စတဲ့ တရားဆေးကို ပွားလည်း ပွားပါ၊ အမှန်အတိုင်း မြင်အောင်လည်း ရှုမှတ်ပါ။ အဲဒီလို တရားဆေးကို ရှုမှတ်ပွားများတဲ့အနေနဲ့ သောက်သုံးတဲ့သူဟာ ကိလေသာ ရောဂါတွေ

အားလုံး ကင်းအေးရာဖြစ်တဲ့ နိဗ္ဗာန်ကို မျက်မှောက်ပြုပြီး ငြိမ်းအေးသွားပါလိမ့်မယ်’လို့ ဟောတော်မူခဲ့ပါတယ်’’

အခု ကြည်ညိုခဲ့ကြတဲ့ ကိသာဂေါတမီထေရီမလည်း ဘုရားပေးတဲ့ သတိပဋ္ဌာန်ကျင့်စဉ် တရားဆေးကို သောက်သုံးတဲ့ အနေနဲ့ နှလုံးသွင်း ရှုမှတ်ပွားများခဲ့တဲ့အတွက်ကြောင့် ထေရီမ သန္တာန်မှာ စိတ်ရောဂါတွေဖြစ်တဲ့ ကိလေသာအပူမီးတွေ အားလုံးငြိမ်းအေး ပျောက်ကင်းသွားခဲ့တာပါ။ မြတ်ဗုဒ္ဓရဲ့ တရားဆေးတော်ကို မှန်မှန် သောက်ပြီး ကိသာဂေါတမီထေရီမကြီးလို ကိလေသာဆိုတဲ့ စိတ်ရောဂါတွေ လုံးဝ ပျောက်ကင်းပြီး ထာဝရ ငြိမ်းအေးနိုင်ကြပါစေ။

**ကျမ်းကိုး –**

၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ပထမတွဲ၊ ၂၉၀။
၂။ မဟာဗုဒ္ဓဝင်၊ ဆဋ္ဌတွဲ၊ ဒုတိယပိုင်း၊ ၁၃၀။
၃။ အပဒါန်ပါဠိတော်၊ ၂။ ၅၅။
၄။ အပဒါန်ပါဠိတော်မြန်မာပြန်၊ ၂။ ၂၃၆။
၅။ ထေရီဂါထာပါဠိ၊ ၄၀၃။
၆။ ထေရီဂါထာ အဋ္ဌကထာ၊ ၁၈၁။
၇။ ဓမ္မပဒအဋ္ဌကထာ၊ ၁၊ ၄၄၃။ ၂၊ ၂၇၀။
၈။ မိလိန္ဒပဉှာပါဠိ၊ ၃၁၉။

# သဒ္ဓါတရား ကြီးမားတဲ့အရာ အသာဆုံး

## သဒ္ဓါဓိမုတ္တ ဧတဒဂ်ရ

# ဝက္ကလိမဟာ ထေရ်



နတ်ပြည်က နတ်တွေ နတ်ဘဝကနေ စုတေကွယ်လွန်ချိန် ရောက်လာပြီဆိုရင် သူတို့ရဲ့ ကိုယ်ရောင်ကိုယ်ဝါတွေ မှိန်လာတာ၊ နတ်ဝတ်နတ်စားတွေ ညစ်နွမ်းလာတာ၊ ပန်ဆင်ထားတဲ့ ပန်းတွေ ညှိုးလာတာ၊ ချိုင်းကြားတွေကနေ ချွေးတွေ ထွက်လာတာ၊ ကိုယ်နေ နေကျနေရာမှာ နေရတာလည်း မပျော်တော့တာဆိုတဲ့ ရှေ့ပြေးနိမိတ်ငါးမျိုး ထင်ရှားဖြစ်ပေါ်လာတတ်ပါတယ်။ ဒီအခါ ကျန်တဲ့ နတ်တွေက အဲဒီ



နိမိတ်ငါးမျိုး ဖြစ်ပေါ်နေတဲ့ နတ်သား၊ နတ်သမီး တွေကို မကြာခင် နတ်ပြည်ကနေ စုတေကွယ်လွန်တော့မယ်ဆိုတာ သိကြတယ်။ ဒီလိုသိတာနဲ့ စုတေကွယ်လွန်ကြတော့မယ့် နတ်သား၊ နတ်သမီးတွေကို "အချင်း နတ်သား၊ နတ်သမီး··· ဒီနတ်ဘဝကနေ ကွယ်လွန်တဲ့အခါ သုဂတိဘုံဘဝကို သွားပါ၊ သုဂတိဘုံဘဝရောက် တဲ့ အခါ အကောင်းဆုံးလာဘ်ကို ရအောင် ယူပါ၊ အဲဒီ အကောင်းဆုံး လာဘ်ကို ရပြီးရင်လည်း ခိုင်ခိုင်မြဲမြဲတည်နေအောင် ကြိုးစားပါ" လို့ အားပေးစကား သုံးခွန်းနဲ့ အားပေးနှစ်သိမ့်တတ်ပါတယ်။

ဒီအကြောင်းကို မြတ်စွာဘုရားရှင်က ရဟန်းတော်တွေကို ဟောတော်မူခဲ့တာပါ။ ခုဒ္ဒကနိကာယ် ဣတိဝုတ်ပါဠိတော်မှာ '**ပဉ္စပုဗ္ဗနိမိတ္တသုတ်**'လို့ သင်္ဂါယနာတင် မထေရ်တွေက မှတ်တမ်းတင်တော်မူခဲ့ကြပါတယ်။

ဒါဆိုရင် 'နတ်တွေအတွက် သုဂတိဘုံဘဝဆိုတာ ဘာလဲ၊ နတ်တွေအတွက် အကောင်းဆုံး လာဘ်ဆိုတာ ဘာလဲ၊ အကောင်းဆုံး လာဘ်ကို ခိုင်မြဲအောင် ကြိုးစားဖို့ဆိုတာ ဘာလဲ'စတဲ့ စိတ်ဝင်စားဖို့ကောင်းတဲ့ မေးခွန်းတွေ ထွက်လာမှာပါ။

အဖြေကတော့ နတ်တွေအတွက် သုဂတိဘုံဘဝဆိုတာ လူ့ဘုံကို ပြောတာပါ။ လူတွေက နတ်ပြည်ကို အားကျပေမယ့် သူတော်ကောင်း နတ်တွေကတော့ လူ့ပြည်ကို သုဂတိဘုံကောင်းအနေနဲ့ အားကျကြပါသတဲ့။ ဘာလို့လဲဆိုတော့ လူ့ပြည်ဆိုတာ ဘုရားပွင့်တဲ့ဘုံ ဖြစ်တယ်။ ပစ္စေကဗုဒ္ဓါ အရှင်မြတ်တွေ ပွင့်ထွန်းတဲ့ဘုံ ဖြစ်တယ်။ အရိယာရဟန်း သံဃာတွေလည်း ရှိတယ်။ ကံအနိမ့်အမြင့် မတူကြလို့ ဆင်းရဲသားတွေ ဆိုတာလည်း ရှိတယ်။ ဒီတော့ လူ့ပြည်မှာ အလှူပေးတာ၊ သီလ ဖြည့်ကျင့်တာ၊ တရားအားထုတ်တာ စတဲ့ ကုသိုလ်ကောင်းမှုတွေ အများကြီး လုပ်လို့ရတယ်။ ပါရမီတွေ ဖြည့်လို့ရတယ်။

နတ်ပြည်မှာကျတော့ လူ့ပြည်နဲ့ ပြောင်းပြန်ပါ၊ ပျော်စရာအာရုံတွေ များတဲ့အတွက် တရားလုပ်ဖို့ မေ့လျော့နေကြတာများတယ်၊ ကုသိုလ်ပြုဖို့၊ ပါရမီဖြည့်ဖို့ ဆိုတာ မလွယ်ဘူး။ ဒါကြောင့် သူတော်ကောင်း နတ်တွေက လူ့ဘုံကို သုဂတိဘုံဘဝလို့ မှတ်ယူလေ့ရှိကြပါတယ်။

'နတ်တွေအတွက် အကောင်းဆုံး လာဘ်ဆိုတာ ဘာလဲ' ဆိုတဲ့ မေးခွန်းရဲ့အဖြေကတော့ 'ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါးနဲ့ ကံ၊ ကံရဲ့အကျိုးတွေကို ယုံကြည်တဲ့ သဒ္ဓါတရား'ကို ပြောတာ ဖြစ်ပါတယ်။ ဒီသဒ္ဓါတရားရှိမှ ဒါန၊ သီလ၊ ဘာဝနာတွေကို မဖြစ်မနေ လုပ်ရမယ်လို့ ယုံကြည်မှု ရှိတာပါ။ ဒါန၊ သီလ၊ ဘာဝနာ ဆိုတဲ့ ကုသိုလ်ကောင်းမှုတွေ ရှိပါမှလည်း သုဂတိဘုံကောင်း ဘဝကောင်းတွေမှာ ဖြစ်ခွင့်ရတယ်။ ချမ်းသာသုခတွေနဲ့ ပြည့်စုံနိုင်တယ်။ မဂ်ဖိုလ်နိဗ္ဗာန်တွေကို ရနိုင်ပါတယ်။ ဒီတော့ ပြည့်စုံမှုမှန်သမျှရဲ့ အကြောင်းတရားက ကုသိုလ်ဖြစ်တယ်။ ကုသိုလ်ဖြစ်ဖို့ အကြောင်းရင်းက သဒ္ဓါတရား ဖြစ်တယ်။ ဒါကြောင့် သဒ္ဓါတရားဟာ ကုသိုလ်တရား မှန်သမျှရဲ့ ဝင်ရာတံခါးပေါက် ဖြစ်တယ်။ သဒ္ဓါတရား တံခါးပေါက် ပိတ်ထားရင် ဘာကုသိုလ်ကိုမှ မယုံတော့တဲ့အတွက် ဘယ်ကုသိုလ်မှ ဝင်မလာနိုင်တော့ပါဘူး။

သဒ္ဓါတရား တံခါးပေါက် ဖွင့်ထားမှ ကုသိုလ်မျိုးစုံ လုပ်ဖြစ်ပြီး ကုသိုလ်တွေ ဝင်လာပါမယ်။ ကုသိုလ်အကြောင်းတရားတွေ ရှိပါမှ လောကီ၊ လောကုတ္တရာ အကောင်းဆုံးအကျိုးတရားတွေကို ရနိုင်မှာပါ။ ဒါကြောင့် နတ်တွေက သဒ္ဓါတရားကို အကောင်းဆုံး လာဘ်လို့ မှတ်ယူကြတာ ဖြစ်ပါတယ်။

တတိယမေးခွန်းဖြစ်တဲ့ 'အကောင်းဆုံးလာဘ်ကို ခိုင်ခိုင်မြဲမြဲ ဖြစ်အောင်လုပ် ဆိုတာ ဘာလဲ' ဆိုတဲ့ မေးခွန်းရဲ့အဖြေကတော့

'သဒ္ဓါတရားကို ခိုင်အောင်လုပ်ပါ'ဆိုတဲ့ အဖြေပဲ ဖြစ်ပါတယ်။ ဟုတ်ပါတယ်၊ ပုထုဇဉ်ပုဂ္ဂိုလ်တွေရဲ့ သဒ္ဓါတရားဆိုတာ မခိုင်ပါဘူး။ ခုသူတော်ကောင်းဖြစ်နေပေမယ့် တော်ကြာနေ လူမိုက်ကြီးဖြစ်ချင် ဖြစ်သွားတတ်တာမျိုးပါ။ ဘယ်လောက်ခိုင်တဲ့ သဒ္ဓါရှိရှိ ပုထုဇဉ်ပုဂ္ဂိုလ်ဟာ သေရင်တော့ ဘုရား၊ တရား၊ သံဃာအပေါ် ယုံကြည်တဲ့ သဒ္ဓါတရား ပျက်သွားတတ်တာမျိုးပါ။ အနည်းဆုံး သောတာပန် အရိယာပုဂ္ဂိုလ်ဖြစ်ပါမှ သဒ္ဓါတရားက ခိုင်သွားတာပါ။ သေရင်လည်း သဒ္ဓါတရား ပျက်သွားရိုး ထုံးစံမရှိပါဘူး။ နောက်ဘဝသစ်ရောက်တာနဲ့ မှန်ကန်တဲ့ သဒ္ဓါတရားဟာ ပဋိသန္ဓေမျိုးစေ့နဲ့အတူ ပါလာပြီးသား ဖြစ်ပါတယ်။ ဒါကြောင့် အကောင်းဆုံးလာဘ်ကို ခိုင်မြဲအောင် လုပ်ပါ ဆိုတာ သောတာပန်ပုဂ္ဂိုလ်ရဲ့ သဒ္ဓါတရားမျိုး ရတဲ့အထိ ကြိုးစား အားထုတ်ပါလို့ ဆိုလိုတာ ဖြစ်ပါတယ်။

ခု ကြည်ညိုကြမယ့် သိင်္ဂါလမာတာထေရီမကတော့ အကောင်းဆုံးလာဘ်ဖြစ်တဲ့ သဒ္ဓါတရားနဲ့ ဘုရားအပေါ် သက်ဝင်ယုံကြည် ကြည်ညိုတဲ့ဘိက္ခုနီတွေထဲမှာ အသာဆုံး ဧတဒဂ်ကို ရခဲ့တာ ဖြစ်ပါတယ်။ သဒ္ဓါတရား ခိုင်ရုံတင်မက အတိုင်းထက်အလွန် သက်ဝင်ယုံကြည်တဲ့ သဒ္ဓါမျိုးကို ပိုင်ဆိုင်သူ ဖြစ်ပါတယ်။ ဖြစ်ဖို့တောင် မလွယ်ကူတဲ့ သဒ္ဓါတရားကို အမြင့်ဆုံး ခိုင်ခိုင်မြဲမြဲ ရတဲ့အထိ ပိုင်ဆိုင်ခဲ့တဲ့ ထေရီမ ဖြစ်လေတော့ ဘယ်လောက် ကြည်ညိုစရာ ကောင်းလိုက်မလဲဆိုတာကတော့ ထေရီမ အကြောင်းကို ကိုယ်တိုင် ကြည်ညိုကြည့်ပြီးတဲ့အခါ သိနိုင်ပါလိမ့်မယ်။

## (က) ထေရီမရဲ့ နာမည်နဲ့ ဧတဒဂ်အဓိပ္ပာယ်

ထေရီမရဲ့ သားနာမည်က 'သိင်္ဂါလ' ဖြစ်ပါတယ်။ ထေရီမဟာ 'သိင်္ဂါလ'ရဲ့ မိခင် ဖြစ်တာကြောင့် ထေရီမရဲ့ နာမည်ကို

'သိင်္ဂါလမာတာ'လို့ ခေါ်ကြပါတယ်။ သိင်္ဂါလမာတာထေရီမဟာ မြတ်စွာဘုရားကို သိပ်ကြည်ညိုပါတယ်။ မြတ်စွာဘုရားရှင်ရဲ့ ကြည်ညိုသပ္ပာယ်တော်မူလှတဲ့ ရုပ်အဆင်းတော်ကို ဖူးမြော်ရတာ ရောင့်ရဲသွားတယ်၊ တင်းတိမ်သွားတယ်လို့ မရှိဘူး။ မြတ်စွာဘုရား အပေါ် သဒ္ဓါစိတ်နဲ့ ကြည်ညိုဖူးမြော်ကြတဲ့ ဘိက္ခုနီတွေထဲမှာ သိင်္ဂါလ မာတာထေရီမဟာ သဒ္ဓါအလွန်ကဲဆုံး ဖြစ်တာကြောင့် 'သဒ္ဓါဓိမုတ္တ ဧတဒဂ်'ကို ရခဲ့တာ ဖြစ်ပါတယ်။

## (ခ) အတိတ်ဘဝ ပါရမီဖြည့်ပုံနဲ့ ဆုတောင်း အမတ်သမီးဘဝ

လွန်ခဲ့တဲ့ ကမ္ဘာတစ်သိန်းကာလထက်မှာ ပဒုမုတ္တရ မြတ်စွာ ဘုရားရှင် ပွင့်တော်မူခဲ့ပါတယ်။ သိင်္ဂါလမာတာ ထေရီမလောင်း အမျိုးသမီးဟာ ပဒုမုတ္တရဘုရားရှင် လက်ထက်တော်မှာ ဟံသာဝတီ မင်းနေပြည်က ပြည့်စုံကြွယ်ဝချမ်းသာတဲ့ အမတ်မျိုးမှာ မွေးဖွားခဲ့ ပါတယ်။ အမတ်သမီးဟာ အရွယ်ရောက်ပြီး တစ်ချိန်မှာတော့ ဖခင် အမတ်ကြီးနဲ့အတူ မြတ်စွာဘုရားကျောင်းတော် လိုက်သွားပြီး တရား တော်ကို နာယူခဲ့ပါတယ်။ ဒီအခါ ကြည်ညိုသဒ္ဓါဖြစ်ပြီး မြတ်စွာ ဘုရားအထံမှာ ဘိက္ခုနီရဟန်းမ ဝတ်ခဲ့ပါတယ်။

ဘိက္ခုနီရဟန်းမ ဝတ်ပြီးတဲ့အခါ ဘိက္ခုနီရဟန်းမတွေ လိုက်နာကျင့်သုံးရတဲ့ သီလသိက္ခာပုဒ်တွေကို ဖြူစင်နေအောင် ကျင့်သုံး ခဲ့တယ်။ ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါးအပေါ်မှာလည်း အလွန့် အလွန်ကို ရိုသေလေးစား ကိုင်းရှိုင်းခဲ့ပါတယ်။ တရားနာတဲ့ နေရာမှာလည်း ထက်သန်တဲ့ စိတ်ရှိသူဖြစ်ပြီး ဘုရားရှင်ကို ဖူးမြော်တဲ့ နေရာမှာလည်း အရှင်ဝက္ကလိမထေရ်လို ဆန္ဒအလွန်ပြင်းပြသူ ဖြစ်ခဲ့ပါ တယ်။

တစ်နေ့မှာတော့ ပဒုမုတ္တရဘုရားရှင်က ဘိက္ခုနီမတစ်ပါးကို သဒ္ဓါတရား ထက်သန်တဲ့အရာမှာ အသာဆုံး၊ အမြတ်ဆုံးဆိုတဲ့ 'သဒ္ဓါဓိမုတ္တဧတဒဂ်'နဲ့ ချီးမြှောက်တော်မူခဲ့ပါတယ်။ ဒီလို ချီးမြှောက်တာကို တွေ့မြင်ရတဲ့အခါ အမတ်သမီးဖြစ်တဲ့ ဘိက္ခုနီမမှာ ကြည်ညို အားကျတဲ့စိတ်တွေ ဖြစ်ပေါ်လာခဲ့တယ်။ ဒီအခါ အမတ်သမီး ဘိက္ခုနီမဟာ အဲဒီ သဒ္ဓါဓိမုတ္တဧတဒဂ်ကို ရည်သန် တောင့်တပြီး သီလသိက္ခာ၊ သမာဓိသိက္ခာ၊ ပညာသိက္ခာဆိုတဲ့ သိက္ခာသုံးပါးကို ပိုမိုပြီး ဖြည့်ကျင့်ခဲ့ပါတယ်။

**မဆင်းရဲတဲ့သူ**

ဒီအခါမှာ ပဒုမုတ္တရ မြတ်စွာဘုရားရှင်က အမတ်သမီး ဘိက္ခုနီမကို အခုလို ဆုံးမဩဝါဒ ပေးတော်မူခဲ့ပါတယ်။

"ချစ်သမီး… ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်ရဲ့ သန္တာန်မှာ မြတ်စွာဘုရားအပေါ် မတုန်မလှုပ် သက်ဝင်ယုံကြည်တဲ့ **သဒ္ဓါ**တရား ရယ်၊ သူတော်ကောင်းတွေ ချီးကျူးတဲ့ **သီလ**ရယ်၊ သံဃာအပေါ်မှာ ကြည်ညိုတဲ့ **ပသာဒ**တရားရယ်၊ မှန်ကန်တဲ့ ဉာဏ်အမြင်လို့ခေါ်တဲ့ **သမ္မာဒိဋ္ဌိ**ရယ် ဒီတရားလေးမျိုး ရှိခဲ့မယ်ဆိုရင် အဲဒီတရားလေးမျိုးနဲ့ ပြည့်စုံတဲ့သူကို 'မဆင်းရဲတဲ့သူ'လို့ ခေါ်တယ်။ အဲဒီ ပုဂ္ဂိုလ်ရဲ့ အသက်ရှင်ခြင်းဟာ အချည်းနှီး မဟုတ်ပါ။

ဒါကြောင့် ပညာရှိသူဟာ မြတ်စွာဘုရားရဲ့ အဆုံးအမကို အစဉ်အောက်မေ့နှလုံးသွင်းပြီး **သဒ္ဓါ**တရား၊ **သီလ**ဖြည့်ကျင့်မှု၊ ကြည်ညိုမှု **ပသာဒ**၊ မှန်ကန်တဲ့ ဉာဏ်အမြင် **သမ္မာဒိဋ္ဌိ**တွေကို ပိုမိုပြီး ပြည့်စုံအောင် အားထုတ်ရမယ်"

အမတ်သမီး ဘိက္ခုနီမဟာ ဒီဆုံးမဩဝါဒစကားကို နာရပြီး တဲ့အခါ ဝမ်းမြောက်ဝမ်းသာ ဖြစ်ခဲ့ပြီး သူ ရည်သန်တောင့်တတဲ့

ဇေတဒဂ်ဆုတောင်း ပြည့်နိုင်မလား၊ မပြည့်နိုင်မလား ဆိုတာကိုလည်း မြတ်စွာဘုရားရှင်ထံ မေးမြန်းလျှောက်ထားခဲ့ပါတယ်။ ဒီအခါ ပဒုမုတ္တရ မြတ်စွာဘုရားရှင်က ''သင့်ရဲ့ဆုတောင်း နောင် ဂေါတမ မြတ်စွာဘုရားဘုရားပွင့်တော်မူတဲ့အခါ ပြည့်လိမ့်မယ်'' လို့ ဗျာဒိတ်စကား မိန့်ကြားတော်မူခဲ့ပါတယ်။

မြတ်စွာဘုရားရှင်ရဲ့ ဒီဗျာဒိတ်စကားကို ကြားရတဲ့အခါ အမတ်သမီး ဘိက္ခုနီမလေးဟာ အလွန်ဝမ်းမြောက်ဝမ်းသာဖြစ်ခဲ့ပြီး မြတ်စွာဘုရားရှင်ကို ပဋိပတ်အကျင့်နဲ့ တစ်သက်လုံး ပူဇော်ခဲ့ပါ တယ်။

## (၈) ပစ္ဆိမပွန်ဝတ္ထု နောက်ဆုံးဘဝဇာတ်ကြောင်း

ဒီပါရမီကောင်းမှု ကုသိုလ်ကံတွေကြောင့် ထေရီမလောင်း အမျိုးကောင်းသမီးဟာ အဲဒီ ဘဝကနေ စုတေကွယ်လွန်တဲ့အခါ တာဝတိံသာနတ်ပြည်မှာ ဖြစ်ခဲ့တယ်။ ကမ္ဘာတစ်သိန်းကြာ အပါယ် လေးပါး မလားမရောက်ဘဲ နတ်ပြည်၊ လူ့ပြည်ဆိုတဲ့ သုဂတိဘုံဘဝ တွေမှာပဲ ကျင်လည်ခဲ့ရတယ်။ ဒီနောက်ဆုံးဘဝ ရောက်တဲ့အခါ မှာတော့ ထေရီမလောင်း အမျိုးသမီးဟာ ရာဇဂြိုဟ်မြို့မှာ သူဌေးသမီး ဖြစ်လာခဲ့ပါတယ်။ အရွယ်ရောက်တဲ့အခါ အမျိုးဇာတ်တူ သူဌေးသားနဲ့ အိမ်ထောင်ကျခဲ့ပြီး သားတစ်ယောက် ဖွားမြင်ခဲ့ပါတယ်။ အဲဒီသားရဲ့ အမည်ကို 'သိင်္ဂါလ သတို့သား' လို့ မှည့်ခေါ်ခဲ့ကြတယ်။ သားကို အကြောင်းပြုပြီး မိခင် သူဌေးမလေးဟာ 'သိင်္ဂါလမာတာ' လို့ အမည်တွင်ခဲ့ပါတယ်။

မိဘနှစ်ပါးလုံးက ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါး အပေါ် သက်ဝင်ယုံကြည်ကြတယ်။ ဒါပေမဲ့ သားဖြစ်သူ သိင်္ဂါလ သတို့သားကတော့ မိဘတွေနဲ့ ဆန့်ကျင်ဘက်ပါ။ မိဘတွေက သား ဖြစ်သူကို မြတ်စွာဘုရားထံ ချဉ်းကပ်ဖို့၊ အရှင်သာရိပုတ္တရာ၊ အရှင်

မဟာမောဂ္ဂလာန် အရှင်မြတ်ကြီးတွေထံ ချဉ်းကပ်ဖို့ မကြာမကြာ ဆုံးမပြောဆိုကြပေမယ့် သိင်္ဂါလသတို့သားက နားမထောင်ခဲ့ပါဘူး။

နားမထောင်ရုံတင်မက "သင်တို့ ရဟန်းတွေထံ ချဉ်းကပ်ဖို့ ကျွန်တော့်မှာ ဘာကိစ္စမှ မရှိဘူး၊ ရဟန်းတွေထံ သွားရင် ရှိခိုးရတယ်၊ ကိုယ်ကိုကိုင်းညွတ်ပြီး ရှိခိုးရတော့ ခါးနာတယ်၊ ဒူးတွေနာတယ်၊ မြေကြီးပေါ် ကြမ်းပြင်ပေါ်လည်း ထိုင်ရတယ်၊ ဒီတော့ အဝတ်တွေလည်း ညစ်ပတ်တယ်၊ ဒါတင်မက သူတို့နား သွားပြီဆိုရင် အာလာပ သလ္လာပ စကားတွေ ပြောရတယ်၊ ဒီလိုပြောတော့ ရင်းနှီး ကျွမ်းဝင်မယ်၊ ရင်းနှီးကျွမ်းဝင်ပြီဆိုရင် ပစ္စည်းလေးပါး အလှူခံတော့မယ်၊ ဒီအခါ လှူရမယ်၊ အဲဒီလို လှူတော့ ပစ္စည်းဥစ္စာ ကုန်ခန်းတယ်၊ ဒါကြောင့် သင်တို့ ရဟန်းတွေထံ သွားစရာ ဘာအကြောင်းမှ မရှိဘူး" လို့ ကြွပ်ဆတ်ဆတ်နဲ့ ဆန့်ကျင်ဘက်စကားတွေပဲ ပြန်ပြောခဲ့တယ်။ ဒါနဲ့ မိဘတွေလည်း သိင်္ဂါလသတို့သားကို သာသနာနဲ့ ရင်းနှီးကျွမ်းဝင်အောင်လုပ်ဖို့ လက်လျှော့လိုက်ရတော့တယ်။

ဒါပေမဲ့ မိဘမေတ္တာတွေကတော့ တကယ့်ကို အံ့သြစရာ ကောင်းလှပါတယ်။ သိင်္ဂါလ သတို့သားရဲ့ ဖခင်ကြီးဟာ သူ့သားကို ဘုရား စတဲ့ သူတော်ကောင်းတွေထံ ဆည်းကပ်ဖို့အတွက် လုံးဝ လက်လျှော့ခဲ့တာတော့ မဟုတ်ပါဘူး။ နောက်ဆုံး သေခါနီး ရောက်တဲ့ အချိန်မှာ သူ့သားကို "ချစ်သား··· အဖေမရှိတော့တဲ့ နောက်ပိုင်း သားဟာ နေ့တိုင်း မနက်စောစောထပြီး ရာဇဂြိုဟ်မြို့ အပြင်ဘက်ကို သွားပါ၊ ပြီးတဲ့အခါ အဝတ်စို၊ ဆံပင်စိုနဲ့ လက်အုပ်ချီပြီး အရှေ့၊ အနောက်၊ တောင်၊ မြောက်၊ အထက်၊ အောက်ဆိုတဲ့ အရပ်ခြောက် မျက်နှာကို ရှိခိုးပါ" လို့ ဆုံးမမှာကြားခဲ့ပါတယ်။ သေခါနီး မှာတဲ့ စကားဆိုရင် ကျန်ရစ်တဲ့သူတွေက ပိုပြီး တန်ဖိုးထား လေးစားကြလို့ ခုလို သေခါနီးမှာတောင် လက်မလျှော့ဘဲ မှာရတာ ဖြစ်ပါတယ်။

ဖခင်ကြီးရဲ့ ရည်ရွယ်ချက်ကတော့ ဒီလို သိင်္ဂါလ မနက်တိုင်း အရပ်မျက်နှာတွေကို ရှိခိုးနေတာ မြတ်စွာဘုရား ဖြစ်ဖြစ်၊ တပည့်သာဝက ရဟန်းတစ်ပါးပါးဖြစ်ဖြစ် မြင်တော်မူကြလိမ့်မယ်၊ ဒီလို မြင်တော်မူကြတဲ့အခါ 'ဘာလို့ ဒီလို အရပ်မျက်နှာတွေကို ရှိခိုးရတာလဲ' လို့ မေးတော်မူကြလိမ့်မယ်။ ဒီအခါ သိင်္ဂါလက 'ဖခင်ကြီး ကွယ်လွန်ခါနီးမှာ အရပ်မျက်နှာတွေကို ရှိခိုးရမယ်လို့ မှာခဲ့လို့ပါ' လို့ ပြန်လျှောက်လိမ့်မယ်။ ဒီလိုလျှောက်ရင် ထိုအရှင်မြတ်တွေက 'အရပ်မျက်နှာတွေကို ရှိခိုးရမယ်ဆိုတာ သင် ခုလုပ်နေသလို ရှိခိုးရမယ်လို့ မှာချင်တာ မဟုတ်ပါဘူး၊ အရပ်မျက်နှာနဲ့တူတဲ့ ပုဂ္ဂိုလ်တွေအပေါ် ပြုကျင့်ရမယ့် တာဝန်တွေကို ကျေပွန်အောင်ကျင့်ဖို့ ပြောတာ' လို့ ကျင့်စဉ်မှန်ကို မိန့်ကြားပြီး အယူကို ဖြောင့်မှန်အောင် ပြုပေးတော်မူကြလိမ့်မယ်'' ဆိုတဲ့ အတွေးနဲ့ မှာခဲ့တာ ဖြစ်ပါတယ်။

ဒီအကြောင်းဖြစ်ရပ်တွေကြောင့်ပဲ မြတ်စွာဘုရားရှင်က သိင်္ဂါလသုတ္တန်ကို ဟောကြားတော်မူခဲ့ပါတယ်။ အဲဒီ သုတ္တန်ကို ဒီဃနိကာယ် ပါထိကဝဂ္ဂပါဠိတော်မှာ သိင်္ဂါလသုတ္တန်ဆိုပြီး မှတ်တမ်းတင်ထားပါတယ်။

## သိင်္ဂါလသုတ္တန် အကျဉ်းချုပ်

သိင်္ဂါလသုတ္တန် အကျဉ်းချုပ်ကတော့ အောက်ပါအတိုင်း ဖြစ်ပါတယ်။

တစ်ခါမှာတော့ မြတ်စွာဘုရားရှင် ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်းတော်မှာ သီတင်းသုံးနေတော်မူပါတယ်။ အဲဒီအချိန်မှာ သိင်္ဂါလသတို့သားဟာ နံနက်စောစောထပြီး ရာဇဂြိုဟ်မြို့ အပြင်ဘက်ထွက်လာခဲ့တယ်။ မြို့ပြင်ရောက်တဲ့အခါ အရှေ့၊ အနောက်၊ တောင်၊ မြောက်၊ အောက်၊ အထက် အရပ်ခြောက်မျက်နှာကို ရှိခိုးကန်တော့နေပါတယ်။

အဲဒီအခါ မြို့ထဲကို ဆွမ်းခံကြွတော်မူလာတဲ့ မြတ်စွာဘုရားရှင်က သိင်္ဂါလသတို့သား အရပ်မျက်နှာတွေကို ရှိခိုးနေတာ မြင်တော်မူတာနဲ့ "ဘာကြောင့် အရပ်မျက်နှာတွေကို ရှိခိုးနေရတာလဲ"လို့ သိင်္ဂါလသတို့သားကို မေးတော်မူခဲ့ပါတယ်။ သိင်္ဂါလသတို့သားက သူ့ဖခင် သေခါနီး မှာသွားတဲ့အတွက် ဖခင်စကားကို လေးစားတဲ့အနေနဲ့ ခုလို အရပ်မျက်နှာတွေကို ရှိခိုးနေတာဖြစ်ကြောင်း ပြန်လည် ဖြေကြားပါတယ်။

"သူကြွယ်သား… ငါဘုရားရဲ့ သာသနာတော်မှာတော့ အရပ်မျက်နှာတွေကို အဲဒီလို ရှိမခိုးရဘူး"လို့ မိန့်တော်မူလိုက်ပါတယ်။ "အရှင်ဘုရား… ဒါဆိုရင် အရှင်ဘုရားတို့ရဲ့ သာသနာမှာ အရပ်မျက်နှာတွေကို ဘယ်လို ရှိခိုးရတာလဲ ဆိုတာ ရှင်းပြတော်မူပါဘုရား"လို့ တောင်းပန် လျှောက်ထားလိုက်တယ်။

မြတ်စွာဘုရားရှင်က "သူကြွယ်သား… ငါဘုရား သာသနာတော်ရဲ့ အရပ်မျက်နှာတွေကို ရှိခိုးနည်းကတော့ အရပ်မျက်နှာတွေကို ရှိခိုးလိုတဲ့သူဟာ အရင်ဆုံး မကောင်းမှု ၁၄ မျိုးကို ပယ်ခွာထားရတယ်။

အဲဒီ မကောင်းမှု ၁၄ မျိုးက -

၁။ ပယ်ရမယ့် အကုသိုလ်ကံကိလေသာက ၄ - မျိုး၊

၂။ မလိုက်စားရမယ့် အဂတိတရား ၄ - မျိုး၊

၃။ မမှီဝဲရမယ့် စီးပွားပျက်ကြောင်း ၆ - မျိုးတို့ပဲ ဖြစ်တယ်။

(၁) အဲဒီထဲက ပယ်ရမယ့် အကုသိုလ်ကံကိလေသာ ၄ မျိုးဆိုတာ-

- ပါဏာတိပါတ - သူ့အသက်သတ်တာ၊
- အဒိန္နာဒါန - သူများပစ္စည်း ခိုးတာ၊
- ကာမေသုမိစ္ဆာစာရ - သူတစ်ပါး သားသမီး ပြစ်မှားတာ၊
- မုသာဝါဒ - လိမ်ပြောတာတွေ ဖြစ်တယ်။

(၂) မလိုက်စားရမယ့် အဂတိတရား ၄ မျိုးကတော့--

- ဆန္ဒာဂတိ - ချစ်လို့ ဘက်လိုက်ပြီး မကောင်းတာ လုပ်တာ၊

- ဒေါသာဂတိ - မုန်းလို့ ဘက်လိုက်ပြီး မကောင်းတာ လုပ်တာ၊

- မောဟာဂတိ - ဘာမှမသိနားမလည်ဘဲနဲ့ ဘက်လိုက်ပြီး မကောင်းတာ လုပ်တာ၊

- ဘယာဂတိ - ကြောက်လို့ ဘက်လိုက်ပြီး မကောင်းတာ လုပ်တာတွေပဲ ဖြစ်တယ်။

(၃) မမှီဝဲရမယ့် စီးပွားပျက်ကြောင်း ၆ မျိုးက-

- အရက်သေစာ သောက်စားတာ၊ မူးယစ်ဆေးဝါး သုံးစွဲတာ၊
- အချိန်မဲ့အခါမဲ့ လျှောက်သွားတာ၊ လည်ပတ်တာ၊
- ပွဲလမ်းသဘင် အကြည့်အရှုများပြီး အပျော်ကြူးတာ၊
- လောင်းကစားကြူးတာ၊
- မကောင်းတဲ့သူတွေနဲ့ ပေါင်းသင်းတာ၊
- ပျင်းရိတာတွေပဲ ဖြစ်တယ်။

သူကြွယ်သား… ခုဖော်ပြခဲ့တဲ့ မကောင်းတဲ့အကုသိုလ် ၁၄ မျိုးကို ပယ်ပြီးတဲ့သူဟာ အရပ် ၆ မျက်နှာနဲ့တူတဲ့ ကျေးဇူးရှင်ပုဂ္ဂိုလ်တွေအပေါ် ပြုကျင့်ရမယ့် ဝတ္တရားတွေကို ကျေပွန်အောင် ဆောင်ရွက်ပေးရင် အဲဒါ ငါဘုရားသာသနာတော်ရဲ့ အရပ်မျက်နှာတွေကို ရှိခိုးနည်း ဖြစ်တယ်၊ ဒီဝတ္တရားကျင့်ဝတ်တွေကို လိုက်နာပြုကျင့်တဲ့သူဟာ ဒီဘဝမှာလည်း အောင်မြင် တိုးတက်မှုတွေ ရနိုင်တယ်၊ နောင်တမလွန်ဘဝတွေမှာလည်း အောင်မြင်တိုးတက်မှုတွေ ရနိုင်ပါတယ်၊ သံသရာမှာလည်း သုဂတိဘုံကောင်း ဘဝကောင်းတွေမှာပဲ ကျင်လည်ရတယ်။

သူကြွယ်သား… အရှေ့အရပ်ဆိုတာ မိဘနှစ်ပါးကို ဆိုလိုတာ ဖြစ်တယ်၊ တောင်အရပ် ဆိုတာ ဆရာသမားတွေ၊ အနောက်

အရပ်ဆိုတာ သားမယားတွေ၊ မြောက်အရပ်ဆိုတာ မိတ်ဆွေတွေ၊ အောက်အရပ်ဆိုတာ အလုပ်သမားတွေ၊ အထက်အရပ်ဆိုတာ မြင့်မြတ်တဲ့ သူတော်စင် ရှင်ရဟန်းတွေကို ဆိုလိုတာ ဖြစ်တယ်။

**အရှေ့အရပ်ကို ရှိခိုးပူဇော်ပုံ**

သူကြွယ်သား··· မိဘနှစ်ပါးဆိုတာ သားသမီးတွေကို ရှေးဦးစွာ ကျေးဇူးပြုထားကြတဲ့သူတွေဖြစ်တာကြောင့် အရှေ့အရပ်နဲ့ တူတဲ့ပုဂ္ဂိုလ်တွေဖြစ်တယ်။ သားသမီးတွေဟာ မိဘတွေအပေါ် ပြုစုလုပ်ကျွေးမယ်၊ မိဘတွေရဲ့ ကိစ္စကြီးငယ်ကို ဆောင်ရွက်ပေးမယ်၊ မိဘတွေရဲ့ မျိုးရိုးအစဉ်အလာကို ထိန်းသိမ်းစောင့်ရှောက်မယ်၊ မိဘတွေရဲ့ အဆုံးအမကို နာခံပြီး မိဘအမွေကို ခံထိုက်သူဖြစ်အောင် နေမယ်၊ မိဘတွေ ကွယ်လွန်သွားတဲ့အခါ မိဘတွေကို ရည်မှန်းပြီး ကုသိုလ်ကောင်းမှုပြုလုပ်ကာ အမျှအတမ်းပေးဝေမယ်ဆိုရင် အရှေ့အရပ်နဲ့တူတဲ့ မိဘတွေကို ရှိခိုးပူဇော်တာ ဖြစ်ပါတယ်။

ဒီလိုပူဇော်တဲ့အတွက်ကြောင့် မိဘတွေကလည်း ပူဇော်တဲ့ သားသမီးတွေအပေါ် မကောင်းတာတွေ မပြုလုပ်အောင် တားမြစ်ပေးခြင်း၊ ကောင်းတာတွေ လုပ်အောင် ညွှန်ကြား ပြသခြင်း၊ အတတ်ပညာသင်ယူစေခြင်း၊ သင့်တော်တဲ့အမျိုးသမီးနဲ့ အိမ်ထောင်ချပေးခြင်း၊ သင့်တော်တဲ့အချိန်မှာ အမွေပေးခြင်းတွေနဲ့ ပြန်လည် စောင့်ရှောက်ပေးတတ်ကြပါတယ်၊ ဒါတွေက အရှေ့အရပ်နဲ့တူတဲ့ မိဘတွေကို ပူဇော်တဲ့အတွက် ရလာတဲ့ အကျိုးတွေ ဖြစ်တယ်။

**တောင်အရပ်ကို ရှိခိုးပူဇော်ပုံ**

သူကြွယ်သား··· ဆရာတွေဆိုတာ တပည့်တွေက ရိုသေလေးစားရတဲ့သူတွေ ဖြစ်တာကြောင့် တောင်အရပ်နဲ့တူတဲ့သူတွေ

ဖြစ်ပါတယ်၊ တပည့်တွေဟာ ဆရာတွေအပေါ်မှာ နေရာမှထပြီး ခရီးဦးကြိုဆိုမယ်၊ ဆရာကို ခစားဆည်းကပ်မယ်၊ ဆရာက ကြောင်းကျိုးပြ ဆုံးမတာကို နားထောင်မယ်၊ ဆရာ့ကိစ္စကြီးငယ်ကို ကူညီဆောင်ရွက်ပေးမယ်၊ အတတ်ပညာကို တလေးတစား သင်ယူမယ်ဆိုရင် တောင်အရပ်နဲ့တူတဲ့ ဆရာတွေကို ရှိခိုးပူဇော်တာ ဖြစ်ပါတယ်။

ဒီလို တပည့်တွေက တပည့်ကျင့်ဝတ်နဲ့ ပူဇော်တဲ့အတွက် ဆရာတွေကလည်း တပည့်တွေကို အတတ်ပညာတွေ သင်ပေးတာ၊ ပဲ့ပြင်ဆုံးမပေးတာ၊ အတတ်ပညာကို ဆရာစားမချန် သင်ပေးတာ၊ တပည့်တွေအပေါ် ကျလာမယ့် ဘေးအန္တရာယ်ကို ကာကွယ်တားဆီးပေးတာ၊ သင့်တော်တဲ့ဆရာတွေထံ အပ်နှံပေးတာတွေနဲ့ ပြန်လည်စောင့်ရှောက်ပေးကြပါတယ်၊ ဒါတွေဟာ တောင်အရပ်နဲ့တူတဲ့ ဆရာတွေကို ပူဇော်တဲ့အတွက် ရလာတဲ့အကျိုးတွေ ဖြစ်ပါတယ်။

**အနောက်အရပ်ကို ရှိခိုးပူဇော်ပုံ**

သူကြွယ်သား··· ဇနီးမယားဆိုတာ ရှေ့ထွက်စီးပွားရှာရတဲ့ လင်ယောကျ်ားတွေရဲ့ နောက်ကနေ သိမ်းဆည်းလုပ်ကိုင်ရသူတွေ ဖြစ်တာကြောင့် အနောက်အရပ်နဲ့ တူတဲ့သူတွေ ဖြစ်ပါတယ်၊ အိမ်ထောင်ရှင် လင်ယောကျ်ားဖြစ်တဲ့သူဟာ အနောက်အရပ်နဲ့တူတဲ့ ဇနီးမယား အပေါ်မှာ မြတ်မြတ်နိုးနိုး ခေါ်ဝေါ်ပြောဆိုရတယ်၊ နှိမ့်ချပြီး မဆက်ဆံရဘူး၊ မိမိဇနီးမယားမှတစ်ပါး ကျန်တဲ့အမျိုးသမီးတွေနဲ့ မပျော်ပါးရဘူး၊ ရှာဖွေရရှိလာတဲ့ ပစ္စည်းဥစ္စာကို လွှဲအပ်ပေးရတယ်၊ အဝတ်အစား အဆင်တန်ဆာတွေ သင့်လျော်သလို ဆင်မြန်းပေးရတယ်၊ ဒီငါးမျိုးနဲ့ ဇနီးမယားကို ဖြည့်ဆည်းပေးတာဟာ လင်ယောကျ်ားရဲ့ အနောက်အရပ်ကို ရှိခိုးပူဇော်တဲ့ ပူဇော်နည်း ဖြစ်တယ်။

အခုလို လင်ယောကျ်ားဖြစ်သူရဲ့ အမြတ်တနိုး စောင့်ရှောက်ခံရတဲ့ ဇနီးမယားကလည်း အိမ်မှုကိစ္စတွေကို နိုင်နိုင်နင်းနင်း စီမံ

ဆောင်ရွက်တာ၊ နှစ်ဖက်ဆွေမျိုးတွေကို မျှမျှတတ ချီးမြှောက်တာ၊ မိမိလင်မှတစ်ပါး အခြားယောကျ်ားတွေနဲ့ မလွန်ကျူးတာ၊ လင်ယောကျ်ား ရှာဖွေအပ်နှင်းတဲ့ ပစ္စည်းဥစ္စာတွေကို ထိန်းသိမ်းစောင့်ရှောက်တာ၊ လုပ်ငန်း ကိစ္စတိုင်းမှာ ကျွမ်းကျင်လိမ္မာပြီး မပျင်းမရိ လုပ်ဆောင်တာ တွေနဲ့ အိမ့်ရှင်လင်ယောကျ်ားကို ပြန်လည်စောင့်ရှောက်ပေးပါတယ်၊ ဒါက အနောက်အရပ်ကို ပူဇော်တဲ့အတွက် ရလာတဲ့ အကျိုး ရလဒ် ဖြစ်ပါတယ်။

## မြောက်အရပ်ကို ရှိခိုးပူဇော်ပုံ

သူကြွယ်သား… မိတ်ဆွေ၊ အဆွေခင်ပွန်းတွေဆိုတာ ကိုယ့်မှာ အခက်အခဲ ကြုံရတဲ့အခါ အခက်အခဲတွေကနေ လွတ်မြောက် အောင် ကူညီပေးတတ်တဲ့သူတွေဖြစ်တာကြောင့် မြောက်အရပ်နဲ့ တူတဲ့ သူတွေ ဖြစ်တယ်၊ မြောက်အရပ်သဖွယ်ဖြစ်တဲ့ မိတ်ဆွေတွေအပေါ် တတ်နိုင်သလောက် ပေးကမ်းကူညီ ထောက်ပံ့ရတယ်၊ ချစ်ဖွယ် ချိုသာတဲ့ စကားနဲ့ ပြောဆို ဆက်ဆံရတယ်၊ သူ့အကျိုးစီးပွား ကိစ္စ တွေကို ဆောင်ရွက်ပေးရတယ်၊ မိမိနဲ့ ထပ်တူထပ်မျှ ထားပြီး တန်းတူ ရည်တူ ဆက်ဆံရတယ်၊ ကတိပေးထားတာတွေကို မဖောက်ဖျက်ရ ဘူး၊ မိတ်ဆွေတွေအပေါ် ဒီငါးချက်နဲ့ ကျင့်သုံးရင် မြောက်အရပ်ကို ပူဇော်တာ ဖြစ်တယ်။

အခုလို အလေးထား ပူဇော်ခံရတဲ့ မိတ်ဆွေတွေက ကိုယ့် အပေါ်မှာလည်း ကိုယ်မေ့လျော့နေတဲ့အခါ ပြန်လည်စောင့်ရှောက်ပေး ကြတယ်၊ မေ့နေတဲ့ ကိုယ့်ပစ္စည်းဥစ္စာတွေကိုလည်း ထိန်းသိမ်း စောင့် ရှောက်ပေးကြတယ်၊ ဘေးရန်ကြုံလာတဲ့အခါ အားကိုးရတဲ့သူတွေ ဖြစ်တယ်၊ ဘေးရန်တွေ ဖြစ်တဲ့အခါ ကိုယ့်ကို စွန့်မသွားကြဘူး၊ ကိုယ့်သားမြေးစဉ်ဆက်ကိုလည်း ပြန်လည်ထိန်းသိမ်း စောင့်ရှောက်ပေး

ကြတယ်၊ ဒါတွေက မြောက်အရပ်နဲ့တူတဲ့ မိတ်ဆွေတွေကို ပူဇော်ထားတဲ့အတွက် ပြန်လည်ရရှိနိုင်တဲ့ အကျိုးတွေ ဖြစ်တယ်။

## အောက်အရပ်ကို ရှိခိုးပူဇော်ပုံ

သူကြွယ်သား… မိမိအိမ်မှာ၊ မိမိလုပ်ငန်းမှာ ခိုင်းစေနေတဲ့ အလုပ်သမားတွေဟာ အောက်အရပ်နဲ့တူတဲ့သူတွေ ဖြစ်တယ်၊ အောက်အရပ်နဲ့တူတဲ့ အလုပ်သမားတွေအပေါ် အလုပ်ရှင်တွေက သူတို့ ခွန်အားနဲ့ ညီမျှတဲ့ အလုပ်ကိုသာ ခိုင်းစေရမယ်၊ လစာရိက္ခာ ပေးရ မယ်၊ မကျန်းမာတဲ့အခါ ပြုစုစောင့်ရှောက်ရမယ်၊ ထူးဆန်းတဲ့ အစားအသောက်တွေကို ခွဲဝေပေးကျွေးရမယ်၊ အခါအားလျော်စွာ အားလပ်ခွင့် ပေးရမယ်၊ အလုပ်သမားတွေအပေါ် ဒီ ငါးမျိုးနဲ့အညီ ကျင့်သုံးမယ်ဆိုရင် အလုပ်ရှင်ဟာ အောက်အရပ်ကို ရှိခိုးပူဇော်တာ ဖြစ်တယ်။

အလုပ်ရှင်ရဲ့ ဒီလိုစောင့်ရှောက်မှုတွေကို ရတဲ့ အလုပ်သမားတွေကလည်း အလုပ်ရှင်တွေအပေါ် တစ်ဖန်ပြန်ပြီး အလုပ်ရှင်ရဲ့ အရင်အိပ်ရာကနေ ထတာ၊ အလုပ်ရှင်အိပ်ပြီးနောက်မှပဲ အိပ်တာ၊ အလုပ်ရှင်ပေးတာကိုပဲ ယူတာ၊ အလုပ်ကိစ္စတွေကို မခိုမကတ် လုပ်တာ၊ အလုပ်ရှင် ကျေးဇူးဂုဏ်သတင်းကို ဆောင်တာတွေနဲ့ ကျေးဇူးတုံ့ပြန်လာကြပါတယ်၊ ဒါက အောက်အရပ်ကို ပူဇော်တဲ့အတွက် ရလာတဲ့ အကျိုးတွေ ဖြစ်ပါတယ်။

## အထက်အရပ်ကို ရှိခိုးပူဇော်ပုံ

သူကြွယ်သား… သူတော်ကောင်းတရားတွေကို ကျင့်ကြံအားထုတ်နေကြတဲ့ သူတော်စင် ရှင်ရဟန်းတွေဆိုတာ မိမိထက်မြင့်မြတ်သူ ဖြစ်တာကြောင့် အထက်အရပ်နဲ့တူတဲ့သူတွေ ဖြစ်တယ်၊ အထက်အရပ်ကို ရှိခိုးပူဇော်တယ်ဆိုတာ ပကတိအထက်အရပ်ကို ရှိခိုး

ပူဇော်ရတာ မဟုတ်ဘူး၊ အထက်အရပ်နဲ့တူတဲ့ သူတော်ကောင်း ရှင်ရဟန်းတွေအပေါ်မှာ မေတ္တာနဲ့ယှဉ်တဲ့ ကာယကံမှု၊ မေတ္တာနဲ့ယှဉ်တဲ့ ဝစီကံမှု၊ မေတ္တာနဲ့ယှဉ်တဲ့ မနောကံမှု၊ သူတော်ကောင်းတွေ အလှူခံလာရင် ပေးကမ်းလှူဒါန်းလိုတဲ့စိတ်နဲ့ အိမ်တံခါးကို ဖွင့်ထားမှု၊ ပစ္စည်းလေးပါးနဲ့ ထောက်ပံ့လှူဒါန်းမှုဆိုတဲ့ ဒီကျင့်ဝတ်ငါးမျိုးနဲ့ ဖြည့်ကျင့်တာကို ဆိုလိုတာ ဖြစ်တယ်၊ ဒီကျင့်ဝတ်ငါးမျိုးနဲ့ သူတော်ကောင်း ရှင်ရဟန်းတွေအပေါ် ဖြည့်ကျင့်ရင် အထက်အရပ်ကို ရှိခိုး ပူဇော်တာ ဖြစ်တယ်။

ဒီကျင့်ဝတ်ငါးမျိုးနဲ့ အပူဇော်ခံရတဲ့ သူတော်ကောင်း ရှင်ရဟန်းတွေကလည်း ပူဇော်လာတဲ့သူတွေအပေါ် မကောင်းမှုတွေကနေ တားမြစ်ပေးတာ၊ ကောင်းတဲ့လုပ်ငန်းတွေအပေါ် (ကောင်းမှုကုသိုလ်တွေ အပေါ်) စိတ်ဝင်စားစေတာ၊ မွန်မြတ်တဲ့စိတ်ထားနဲ့ စောင့်ရှောက်ပေးတာ၊ မကြားဖူးသေးတဲ့ တရားစကားတွေကို ဟောကြားပေးတာ၊ နတ်ပြည် သုဂတိရောက်ကြောင်းကို ဟောပြပေးတာ၊ ဒီငါးမျိုးနဲ့ တစ်ဖန်ပြန်ပြီး တုံ့ပြန်ပေးကြပါတယ်၊ ဒါက အထက်အရပ်ကို ပူဇော်တဲ့အတွက် ရနိုင်တဲ့ အကျိုးတွေ ဖြစ်တယ်။

သူကြွယ်သား… ဒါတွေကတော့ ငါဘုရားသာသနာတော်ရဲ့ အရပ်မျက်နှာတွေကို ရှိခိုးပူဇော်တဲ့နည်း ဖြစ်တယ်၊ ဒီနည်းအတိုင်း ပူဇော်ရင် အဲဒီ အရပ်မျက်နှာနဲ့တူတဲ့ ပုဂ္ဂိုလ်တွေဆီကနေ ဘာအန္တရာယ်မှ မဖြစ်တော့ဘူး၊ ဒီပစ္စုပ္ပန်ဘဝမှာရော သံသရာမှာပါ ကောင်းကျိုးတွေရပြီး အောင်မြင်တဲ့သူ ဖြစ်နိုင်ပါတယ်။

သူကြွယ်သား… လူဆိုတာ မိမိပတ်ဝန်းကျင်မှာရှိတဲ့ ပုဂ္ဂိုလ်တွေအပေါ် **ဒါန** – တတ်နိုင်သလောက် ပေးကမ်း၊ ထောက်ပံ့၊ လှူဒါန်း၊ ချီးမြှင့်တာ၊ **ပေယျဝဇ္ဇ** – ချစ်ဖွယ် ချိုသာတဲ့ စကားကို ပြောတာ၊ **အတ္ထစရိယာ** – သူတစ်ပါး အကျိုးစီးပွားကို ကူညီဆောင်ရွက် ပေးတာ၊

**သမာနတ္တတာ** - ကိုယ်နဲ့တန်းတူထားပြီး လေးလေးစားစား ဆက်ဆံတာဆိုတဲ့ သင်္ဂဟတရား လေးမျိုးနဲ့ ဆက်ဆံရတယ်။ သင်္ဂဟတရားဆိုတာ တစ်ဖက်သားပုဂ္ဂိုလ်တွေကို ချီးမြှောက်တာကို ပြောတာ ဖြစ်တယ်။

မိမိပတ်ဝန်းကျင်မှာရှိတဲ့ လူသားတွေ၊ သတ္တဝါတွေအပေါ် ဒီသင်္ဂဟတရား လေးမျိုးနဲ့ ချီးမြှောက်ပြီး ဆက်ဆံနေထိုင်မယ်၊ သက်ဆိုင်ရာ လူ့ကျင့်ဝတ်တွေကို လိုက်နာပြုကျင့်မယ်ဆိုရင် လှည်းဝင်ရိုးရဲ့ အဆုံးမှာ လှည်းဘီးကြီး ပြုတ်ထွက်မသွားစေဖို့ လှည်းနားစောင့် တပ်ထားတာနဲ့ တူပါတယ်။ လှည်းနားစောင့် တပ်ထားမှ လှည်းဘီး ပြုတ်ထွက်မသွားဘဲ လှည်းဟာ မောင်းနှင်လို့ရတယ်၊ လှည်းနားစောင့်မရှိရင် လှည်းဘီးပြုတ်ထွက်ပြီး လှည်းမောင်းနှင်လို့ မရတော့ဘူး၊ ဒီဥပမာလိုပဲ သင်္ဂဟတရားတွေ၊ သက်ဆိုင်ရာ လူ့ကျင့်ဝတ်တွေဆိုတဲ့ လှည်းနားစောင့်ရှိပါမှ လောကကြီးဟာ အဆင်ပြေတာ ဖြစ်တယ်၊ ဒီသင်္ဂဟတရားတွေ၊ လူ့ကျင့်ဝတ်တွေ မရှိတော့ဘူးဆိုရင် လူ့လောကကြီးဟာ အဆင်မပြေတော့ဘဲ ကမောက်ကမ ဖြစ်သွားတော့တာပါ”

ဒါကတော့ သိင်္ဂါလသတို့သားကို မြတ်စွာဘုရား ဆုံးမဟောကြားတဲ့ သိင်္ဂါလသုတ္တန် အနှစ်ချုပ် ဖြစ်ပါတယ်၊ အကျယ်တဝင့် သိချင်ကြတယ် ဆိုရင်တော့ ဒီဃနိကာယ်၊ ပါထိကဝဂ္ဂ ပါဠိတော် မြန်မာပြန်မှာ ကြည့်ရှုနိုင်ပါတယ်။ ဒီသုတ္တန်ကို သိင်္ဂါလသတို့သားကို ဆုံးမတဲ့သုတ္တန် ဖြစ်လို့ သိင်္ဂါလောဝါဒသုတ်လို့လည်း ခေါ်ပါတယ်။

## သိင်္ဂါလမာတာ သောတာပန်ဖြစ်ပြီး ရဟန်းပြု

ဒီသုတ္တန်အဆုံးမှာတော့ သိင်္ဂါလသတို့သားဟာ ရတနာသုံးပါးအပေါ်မှာ သက်ဝင်ယုံကြည်ပြီး ကိုးကွယ်ဆည်းကပ်တဲ့ ဥပါသကာ

ဖြစ်ခဲ့ပါတယ်။ သိင်္ဂါလသတို့သားရဲ့ မယ်တော်ဖြစ်တဲ့ သိင်္ဂါလမာတာကတော့ သောတာပန်အရိယာ ဖြစ်ခဲ့ပါတယ်။

သိင်္ဂါလမာတာ သောတာပန်အရိယာပုဂ္ဂိုလ်ဖြစ်ပြီးတဲ့နောက် မြတ်စွာဘုရားအပေါ်မှာ မမိုတ်မသုန် သက်ဝင်ယုံကြည်တဲ့ သဒ္ဓါတရားရှိသူ ဖြစ်ခဲ့ပါတယ်။ ဒါကြောင့်ပဲ မြတ်စွာဘုရားထံ ချဉ်းကပ်ပြီး ဘိက္ခုနီရဟန်းမ ပြုခဲ့ပါတယ်။ အဲဒီချိန်ကစပြီး 'သိင်္ဂါလမာတာထေရီ' လို့ အမည်တွင်ခဲ့ပါတယ်။

## သိင်္ဂါလမာတာထေရီ ရဟန္တာဖြစ်

သိင်္ဂါလမာတာထေရီမဟာ ရဟန်းဖြစ်ပြီးတဲ့အချိန်ကစပြီး မြတ်စွာဘုရားအပေါ် ကြည်ညိုတဲ့ သဒ္ဓါတရားတွေ ပိုပြီး ထက်သန်ခဲ့ပါတယ်။ တစ်နေ့မှာတော့ ထေရီမဟာ တရားနာဖို့အတွက် ကျောင်းတော်ကို သွားခဲ့ပါတယ်။ ကျောင်းတော်ရောက်တဲ့အခါ မြတ်စွာဘုရားရှင်ရဲ့ အလွန်တင့်တယ် သပ္ပာယ်တော်မူတဲ့ ရုပ်အဆင်းတော်ကို တစိမ့်စိမ့် ဖူးမြော်ပြီးတော့ပဲ နေခဲ့ပါတယ်။ မြတ်စွာဘုရားရှင်ကလည်း ထေရီမရဲ့ သဒ္ဓါတရား အလွန်ထက်သန်နေတာကို သိတော်မူတဲ့အတွက် ထေရီမနဲ့ သပ္ပာယဖြစ်မယ့် သဒ္ဓါတရားဖြစ်စေနိုင်တဲ့ တရားတွေကိုပဲ အဓိကထား ဟောတော်မူခဲ့ပါတယ်။ ထေရီမလည်း သဒ္ဓါတရားကိုပဲ အဦးပဓာနပြုပြီး ဝိပဿနာတရား ပွားများအားထုတ်တဲ့အတွက် မကြာခင်မှာ အထက်မဂ်ဉာဏ် ဖိုလ်ဉာဏ်တွေ ရရှိပြီး ရဟန္တာဖြစ်ခဲ့ပါတယ်။

## (ဃ) သဒ္ဓါဓိမုတ္တဧတဒဂ်ဖြင့် ချီးကျူးခံရ

နောက်ပိုင်းတစ်ချိန်မှာတော့ မြတ်စွာဘုရားရှင်ဟာ ဇေတဝန်ကျောင်းတိုက်မှာ သီတင်းသုံးတော်မူရင်းက ဘိက္ခုနီရဟန်းမတွေကို

အစဉ်အတိုင်း ဧတဒဂ်ရာထူးနဲ့ ချီးမြှင့်ခဲ့ပါတယ်။ အဲဒီ ပွဲသဘင်မှာ သိင်္ဂါလမာတာထေရီမကို “သဒ္ဓါတရား ထက်သန်ကြီးမားကြတဲ့ ဘိက္ခုနီ ရဟန်းမတွေထဲမှာ သိင်္ဂါလမာတာဟာ အသာဆုံး၊ အမြတ်ဆုံး ဖြစ်ပါပေတယ်”လို့ ချီးကျူးစကား မိန့်ကြားပြီး ‘သဒ္ဓါဓိမုတ္တ ဧတဒဂ်’နဲ့ ချီးမြှောက်တော်မူခဲ့ပါတယ်။

‘သဒ္ဓါ’တရားဆိုတာ ‘ကြည်လင်စေတဲ့ လက္ခဏာရှိတယ်’ လို့ အဘိဓမ္မာ အဋ္ဌကထာကျမ်းများမှာ မိန့်ဆိုထားပါတယ်။ စကြဝတေးမင်းတွေရဲ့ ပတ္တမြားရတနာဟာ ရေထဲထည့်လိုက်ရင် ရွှံ့ညွန်တွေ၊ မှော်အမှိုက်တွေကို အနည်ထိုင်သွားစေပြီး ရေကို ကြည်လင်စေနိုင်တဲ့ အစွမ်းသတ္တိရှိပါတယ်။ ဒီဥပမာလိုပဲ လူ့ရဲ့ စိတ်နှလုံးသားထဲမှာ သဒ္ဓါတရား ဖြစ်လာပြီဆိုရင် လောဘ၊ ဒေါသ စတဲ့ ကိလေသာ နီဝရဏတွေကို အနည်ထိုင်သွားစေရုံတင်မက စိတ်ကိုလည်း ကြည်လင်စေပါတယ်။ ဒီကြည်လင်တဲ့ စိတ်နဲ့ပဲ သူတော်ကောင်းတွေဟာ ဒါနပြုကြတယ်၊ သီလဆောက်တည်ကြတယ်၊ ဘာဝနာကမ္မဋ္ဌာန်း အားထုတ်ဖြစ်ကြတယ်။ ဒါကြောင့် ‘သဒ္ဓါတရားဟာ စိတ်ကိုကြည်လင်စေတဲ့ သဘောလက္ခဏာ ရှိတယ်’လို့ မိန့်တော်မူကြတာ ဖြစ်ပါတယ်။

နောက်ပြီး သဒ္ဓါတရားဟာ ‘ပြေးဝင်ခြင်း လက္ခဏာသဘော’လည်း ရှိပါတယ်။ မိကျောင်း စတဲ့ ဘေးရန်အန္တရာယ်တွေရှိတဲ့ မြစ်ချောင်းတွေရဲ့ ကမ်းနှစ်ဖက်မှာ ကြောက်တတ်တဲ့သူတွေဟာ မကူးဝံ့ဘဲ ရပ်နေတတ်ကြပါတယ်။ ဒီအခါ ရဲစွမ်းသတ္တိနဲ့ ပြည့်စုံတဲ့ သူရဲကောင်းတစ်ယောက်က ထက်နေတဲ့ သန်လျက်ကို ကိုင်ပြီး “ဘာမှ မကြောက်ကြနဲ့၊ ငါ့နောက်လိုက်ပြီး ကူးခဲ့ကြ”လို့ ပြောလိုက် ပါတယ်။ အဲဒီနောက် အဲဒီ သူရဲကောင်းဟာ အန္တရာယ်တွေရှိတဲ့ မြစ်ချောင်းထဲကို ရဲဝံ့စွာ ခုန်ချလိုက်ပြီး ရန်သူဖြစ်တဲ့ မိကျောင်း စတဲ့ အန္တရာယ်တွေကို

လက်ထဲမှာပါတဲ့ သန်လျက်နဲ့ ဖယ်ရှားတားမြစ်ရင်း ဒီဘက်ကမ်းက လူတွေကို ဟိုဘက်ကမ်းရောက်အောင်၊ ဟိုဘက် ကမ်းမှာရှိတဲ့သူတွေကို ဒီဘက်ကမ်းရောက်အောင် ပို့ဆောင်ကယ်တင် ပေးပါတယ်။

ဒီဥပမာလိုပါပဲ ဒါန၊ သီလ၊ ဘာဝနာတွေ မပြုရဲဘဲ တွန့်ဆုတ်နေတဲ့စိတ်ကို သဒ္ဓါတရားက အတင်းဆွဲခေါ်ပြီး ဒါနပြုရဲအောင်၊ သီလဆောက်တည်ရဲအောင်၊ ဘာဝနာပွားများရဲအောင် ဦးဆောင်ပေးတယ်၊ ကုသိုလ်တရားတွေထဲ ရောက်အောင် အတင်းပြေးဝင်တတ်တယ်။ ဒါကြောင့် သဒ္ဓါတရားဟာ 'ပြေးဝင်တတ်တဲ့ သဘောလက္ခဏာရှိတယ်'လို့ မိန့်တော်မူတာ ဖြစ်ပါတယ်။

နောက်ပြီး သဒ္ဓါတရားကို 'လက်၊ ဥစ္စာ၊ မျိုးစေ့နဲ့ တူတယ်'လို့လည်း မှတ်ရပါမယ်။

ပတ္တမြား စတဲ့ အဖိုးတန်ရတနာတွေထွက်တဲ့ ရတနာတောင်ကြီးပေါ် ရောက်သွားတဲ့အခါ မကျိုးမပျက် ကောင်းတဲ့လက်ရှိသူတွေကပဲ ရတနာမျိုးစုံကို ကောက်ယူနိုင်ပါတယ်။ လက်မကောင်းတဲ့သူတွေကတော့ ဘာရတနာကိုမှ မကောက်နိုင်ကြပါဘူး။ ဒီဥပမာလိုပဲ မဂ်၊ ဖိုလ်၊ နိဗ္ဗာန်တိုင်တဲ့ အထိ တရားရတနာတွေ ထွက်ပေါ်နေတဲ့ ဗုဒ္ဓသာသနာတော်တည်းဟူသော ရတနာတောင်ကြီးပေါ် ရောက်လာတဲ့အခါမှာလည်း သဒ္ဓါတရားဆိုတဲ့ လက်ရှိတဲ့သူတွေကပဲ သူတော်ကောင်း ဥစ္စာတွေကို ကောက်ယူနိုင်ပါတယ်။ သဒ္ဓါလက်မပါသူကတော့ မကောက်ယူနိုင်ပါဘူး။ ဒါကြောင့် သဒ္ဓါတရားဟာ လက်နဲ့တူပါတယ်။

ရတနာအမျိုးမျိုး ခင်းကျင်းရောင်းတဲ့ ဈေးရုံကြီးထဲ ရောက်သွားတဲ့အခါမှာလည်း ဥစ္စာပါတဲ့ သူကပဲ ဝယ်နိုင်ပြီး၊ ဥစ္စာမပါတဲ့သူတွေက မဝယ်ယူနိုင်ကြပါ။ ဒီဥပမာလိုပါပဲ ဗုဒ္ဓသာသနာဆိုတဲ့ ရတနာဈေးကြီးထဲမှာလည်း သဒ္ဓါတရားဆိုတဲ့ ဥစ္စာပါသူတွေကပဲ

သူတော်ကောင်းရတနာတွေကို ဝယ်ယူနိုင်ပါတယ်။ သဒ္ဓါဥစ္စာ မပါသူကတော့ မဝယ်ယူနိုင်ပါဘူး။

မိုးလေဝသကောင်းမွန်တဲ့ ဥတုရေမြေမှာ မျိုးစေ့ရှိတဲ့သူတွေပဲ စိုက်ပျိုးကြဲချပြီး အသီးအနှံတွေကို ရကြတယ်။ မျိုးစေ့မရှိတဲ့သူ ကတော့ မကြဲနိုင်ပါဘူး။ ဒီအတူပဲ တရားတည်းဟူသော မိုးလေဝသကောင်းမွန်နေတဲ့ သာသနာ့မြေမှာ သဒ္ဓါမျိုးစေ့ရှိသူတွေကပဲ စိုက်ပျိုးကြဲချနိုင်ပြီး သူတော်ကောင်းတရားအသီးအနှံများကို ရနိုင်ပါတယ်။ သဒ္ဓါမျိုးစေ့ မရှိသူကတော့ မကြဲချနိုင်ပါဘူး။ ဒါကြောင့် သဒ္ဓါတရားဟာ မျိုးစေ့နဲ့လည်း တူပါတယ်။

ခုကြည်ညိုခဲ့ရတဲ့ သိင်္ဂါလမာတာထေရီမကို အားကျပြီး ကြည်လင်စေတတ်တဲ့ လက္ခဏာနဲ့ ပြေးဝင်တတ်တဲ့ လက္ခဏာရှိတဲ့ သဒ္ဓါတရားတွေ ကိုယ့်နှလုံးသားထဲမှာ ရှိနေအောင် ကြိုးစားဖို့ ဆိုတာဟာ လူ့ဘဝရခိုက် လူဖြစ်ကျိုးနပ်စေဖို့အတွက် အလွန့်ကို အရေးကြီးလှပါတယ်။

လောကုတ္တရာရတနာတွေ ပေါများတဲ့ သာသနာတော်တည်းဟူသော ရတနာတောင်ကြီးပေါ် ရောက်နေတယ်ဆိုတာ သတိထားမိပြီး သဒ္ဓါလက်ကောင်းကောင်းနဲ့ ရတနာမျိုးစုံကို ကောက်ယူနိုင်ကြဖို့လည်း မမေ့ကြဖို့ပါ။ဒါ့အပြင် မိမိတို့တစ်တွေဟာ ရတနာမျိုးစုံ ခင်းကျင်းရောင်းချနေတဲ့ မြတ်ဗုဒ္ဓသာသနာဆိုတဲ့ ဈေးရုံကြီးထဲ ရောက်နေတဲ့ အခိုက်လည်း ဖြစ်ပါတယ်။ ဒီအခွင့်ကောင်းကိုလည်း လက်မလွတ်စေဘဲ သဒ္ဓါဆိုတဲ့ ဥစ္စာနဲ့ ရတနာမျိုးစုံရအောင် ဝယ်ယူထားကြဖို့ပါ။

နောက်ပြီး တရားတည်းဟူသော မိုးလေဝသကောင်းမွန်တဲ့ သာသနာ့မြေပေါ်မှာ ရောက်နေပါလားဆိုတဲ့ အသိတရားနဲ့ သဒ္ဓါမျိုးစေ့တွေကို များများကြဲချပြီး အားကိုးရမယ့် သူတော်ကောင်းတရားသီးနှံတွေကို ရအောင် ယူထားကြဖို့ပါ။

ဒီမှာတင်ပဲ တစ်မိုးအောက် တစ်ယောက်လို့ ခေါ်နိုင်တဲ့ ဇောတဒဂ်ရ ရဟန္တာထေရီမကြီး ၁၃ ပါးအကြောင်း ပြီးပါပြီ။

**ကျမ်းကိုး –**

၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ၁။ ၂၉၃။
၂။ မဟာဗုဒ္ဓဝင်၊ ဆဋ္ဌတွဲ၊ ဒုတိယပိုင်း၊ ၁၄၃။
၃။ အပဒါန်ပါဠိတော် ၂၊ ၂၈၅။
၄။ အပဒါန်ပါဠိတော် မြန်မာပြန်၊ ၂၊ ၂၇၉။
၅။ ပါထိကဝဂ္ဂပါဠိတော်၊ ၁၄၆။
၆။ ပါထိကဝဂ္ဂအဋ္ဌကထာ၊ ၁၂၄။
၇။ ဣတိဝုတ်ပါဠိတော်၊ ၂၄၇။
၈။ အဋ္ဌသာလိနီအဋ္ဌကထာ၊ ၁၆၂။
၉။ အဋ္ဌသာလိနီဘာသာဋီကာ၊ ၂။ ၂၉၂။

**အရှင်နေမိန္ဒာဘိဝံသ**

**(ခေတ္တ) ဓမ္မဂဝေသီတောရ၊ အလယ်ချောင်ကျေးရွာ၊ ရွှင်မြို့နယ်။**
**၁၃၈၃-ခုနှစ်၊ ကဆုန်လပြည့်ကျော် (၁၃)ရက်၊ တနင်္လာနေ့၊ နံနက် ၉း၃၀ နာရီ။**

## ဗုဒ္ဓခေတ်
## တစ်မိုးအောက်တစ်ယောက်ပုဂ္ဂိုလ်ကျော်များ
## (စတုတ္ထတွဲ)စာအုပ် ရိုက်နှိပ်ရန်အတွက်
## ဓမ္မဒါနအဖြစ် မ,တည်လှူဒါန်းကြသည့် အလှူရှင်များ

| | | |
|---|---|---|
| ၁။ | ကိုဂျေစင်+မတင်တင်အေး မိသားစု<br>(Hayward, USA) | ၁,၂၀၀,၀၀၀ |
| ၂။ | ဦးညွန့်မောင် + ဒေါ်စန်းကြည်၊ သမီး မစုစုစံ<br>မိသားစု၊ သစ်တောရပ်၊ တောင်ကြီးမြို့။ | ၅၀၀,၀၀၀ |
| ၃။ | ဆရာတော် ဦးကောဏ္ဍညဓဇ<br>(Half Moon Bay, USA) | $ 200 |
| ၄။ | ကွယ်လွန်သူ မိဘများဖြစ်ကြသော<br>(ဦးအောင်ခန့်+ဒေါ်သန်းသန်း)တို့အား ရည်စူး၍<br>သမီး ဒေါ်မြင့်မြင့်သိန်း (ခ) ဒေါ်တူး<br>(San Francisco, USA) | $ 300 |
| ၅။ | နှစ်ဖက်သော မိဘများအား ရည်စူးအမှူးထား၍<br>ဦးဇော်လွင် ဒေါ်ခင်မာရီ မိသားစု<br>(Daly City, USA) | $ 200 |
| ၆။ | ကွယ်လွန်သူ မိဘများဖြစ်ကြသော<br>(ဦးရဲကွမ်းချို+ဒေါ်ခင်ညွန့်)တို့အား ရည်စူး၍<br>သမီး မထွေးထွေး (Millbrae, USA) | $ 100 |
| ၇။ | ကို Richard မမြမြ၊ သား Edward<br>သမီး Monica Family (San Francisco, USA) | $ 100 |

၈။ ဒေါ်စုစုခင်နှင့် ဒေါ်သန်းသန်းလွင် ညီအစ်မများ
(San Francisco, USA) $ 100

၉။ Jason & Christine Chan
daughter Isabella Yamin Chan Family
(San Francisco, USA) $ 100

၁၀။ ဦးအောင်သန်း ဒေါ်သိန်းလှ သမီး မခင်ခင်ဟန်
မိသားစု (Daly City, USA) $ 100

၁၁။ ဦးအေးမြင့် ဒေါ်သန်းဆွေ မိသားစု
(Daly City, USA) $ 50

၁၂။ ကွယ်လွန်သူ မိခင်ကြီး ဒေါ်ချွန်ရင်ကို ရည်စူး၍
ဒေါ်ရီရီအေး သမီး မသင်းသင်း မိသားစု
(San Jose, USA) $ 50

၁၃။ မ Noeline Kyi မိသားစု
(San Francisco, USA) $ 50

၁၄။ ဦးကျော်သောင်း ဒေါ်အေးအေးလွင်
သမီး မအေးအေးကျော့ မိသားစု
(American Canyon, USA) $ 50

၁၅။ ဦးသက်ဦး ဒေါ်ငွေငွေ သား ကိုဇော်မင်းဖြိုး
မိသားစု (San Francisco, USA) $ 50

၁၆။ ကွယ်လွန်သူ မိဘများအား ရည်စူး၍ မခင်လှကြူ
မအေးမြခိုင် (Santa Clara, USA) $ 100

၁၇။ ကို Benson မချစ်မမ မိသားစု
(San Francisco, USA) $ 100

၁၈။ ကွယ်လွန်သူ မိဘများအား ရည်စူး၍ ဦးသိန်းထွန်း ဒေါ်နန်းအေးဆာနှင့် သားသမီးမြေးများ (မန္တလေး) $ 100

၁၉။ ကွယ်လွန်သူ ဖခင်ကြီး ဦးမြင့်ဆွေအား ရည်စူး၍ မိခင် ဒေါ်ခင်စန်းစန်းနှင့် ကိုဇော်လင်းထိုက် မအေးအေးသွယ် မိသားစု (Daly City, USA) $ 100

၂၀။ မနွယ်ရည်လင်း၊ ပျော်ဘွယ်မြို့ ၃၀၀,၀၀၀

၂၁။ ကျေးဇူးရှင်ကြီးများအား ရည်စူးအမှူးထား၍ ကိုထင်အောင်ဇော်+မစိုးလဲ့လဲ့ဝင်း၊ သမီး စုမြတ်ဖြူစင်၊ အောင်မေတ္တာ ဆန်ပွဲရုံနှင့် လဲ့ရွှေစင်ရွှေဆိုင် မိသားစု၊ ပျော်ဘွယ်မြို့။ ၃၀၀,၀၀၀

၂၂။ ဒေါ်ခင်ဝင်းကြည်၊ ညီမ ဒေါ်ပညာသီဂီ၊ ညီမ ဒေါ်ငွေးငွေးဖုန်း၊ သား ကိုကျော်ကျော်၊ ကိုဌုန်ဌုန် မိသားစု၊ ရွှေပြည်ရန်လုံရပ်၊ ပျော်ဘွယ်မြို့။ ၂၀၀,၀၀၀

၂၃။ ဦးဇ(ဂုဏ်ရောင်)၊ သစ်တောရပ်၊ တောင်ကြီးမြို့။ ၂၀၀,၀၀၀

၂၄။ ကိုကျော်သူ+မမိုးစန္ဒာ၊ သား သူရကျော်၊ သမီး ကြယ်စင်လင်း မိသားစု၊ ၁၉ လမ်း၊ မန္တလေးမြို့။ ၂၀၀,၀၀၀

၂၅။ ဦးမျိုးချစ်+မကြည်စမ်းဝင်း၊ သားကြီး နေမျိုးဝင်း၊ သားငယ် ထယ်ရီဝင်း မိသားစု ၁၀၀,၀၀၀

၂၆။ ကိုမိုးဇော်ဦး+မစိုးဇင်ဇင်ဝင်း၊ သမီး ငွေဇင်ဇော်ဦး၊ သား ငြိမ်းခန့်ပိုင်၊ Rain Tree Hotel မိသားစု၊ ပျော်ဘွယ်မြို့။ ၁၀၀,၀၀၀

၂၇။ မနှင်း၊ မဆွေ၊ မရွှေမိုး အောင်ရတနာ ညီမများ၊ ၁၉ လမ်း၊ မန္တလေးမြို့။ ၁၀၀,၀၀၀

| | | |
|---|---|---|
| ၂၈။ | ကိုလှမိုးသိန်း၊ ပျော်ဘွယ်မြို့၊ (၅၃)နှစ်ပြည့် မွေးနေ့အလှူ။ | ၅၀,၀၀၀ |
| ၂၉။ | ဒေါ်စန်းစန်းမြင့်၊ သမီး မနှင်းလဲ့ကျော်၊ မယဉ်မင်းခိုင် မိသားစု။ သူရလမ်း၊ ကမ္ဘာအေး၊ ရန်ကုန်။ | ၅၀,၀၀၀ |